ဒုတိယအကြိမ်
၁၉၇၅၊ ဖေဖော်ဝါရီလ။
အုပ်ရေ ၂၀၀၀
ပန်းချီမျိုးညွန့်ထွန်း
ဘလောက် လွင်
အဖုံးရိုက် သဇင်
ရောင်းဈေး ခြောက်ကျပ်

ပုံနှိပ်သူ ဦးကျော်ခိုင်(မြ-၀၁၆၃၈)ရဲဘော်ဟောင်း
မိုးကျော်အောင် ပုံနှိပ်တိုက်၊ ၁၄၉-၃၇လမ်း၊
ရန်ကုန်မြို့။
ထုတ်ဝေသူ ဦးငွေဆိုင် (မြ-၀၁၃၆၂)
ဆွေဆွေမော်စာပေ၊
အမှတ် ၂၁၀၊ အခန်း ၂။
ရန်ကင်း-ရန်ကုန်။

**စာရေးသူ၏**
**ထုတ်ဝေခဲ့ပြီးသော အခြားစာအုပ်များ**


၁။ ခေတ်သစ်မာယ  ၁၉၃၇
၂။ မြန်မာနိုင်ငံ ကျေးလက်ပြုပြင်ရေးစာတမ်း*  ၁၉၃၉
၃။ ဥရောပ စီးပွားရေးသမိုင်း  ၁၉၄၂
၄။ မြန်မာနိုင်ငံတော်သမိုင်း  ၁၉၄၈
၅။ Loka Htaikpan  ၁၉၆၂
၆။ ပုဂံမင်စာစု သုတေသီခရီး အစီရင်ခံစာ  ၁၉၆၄
၇။ စစ်ရေး၊ နိုင်ငံရေးနှင့်လူမှုရေးဆိုင်ရာ သမိုင်း
စာတမ်းများ  ၁၉၆၉


* ဒေါက်တာ ဦးသာဆိုင်၊ ဒေါက်တာအန်ဒရပ်တို့နှင့်ပူးတွဲ ပြုစုသည်။

# မာတိကာ

-ဗိုလ်မှူးဘရှင်
-နိဒါန်း
အပိုင်း ၁
အရှေ့တောင်အာရှ ကျောက်ခေတ်
အပိုင်း ၂
သမိုင်းဦး ဘုံမြေခေတ်
အပိုင်း ၃
ပဒေသရာဇ် ခေတ်ဦး၏အစ
အပိုင်း ၄
ပျူပဒေသရာဇ်ခေတ်
အပိုင်း ၅
ရှေးမြန်မာများ ဝင်ရောက်ခဲ့ပုံ
အပိုင်း ၆
တမ္ပဒီပနိုင်ငံ တည်ထောင်ခြင်း

ဗိုလ်မှူးဘရှင်
(၁၉၁၄-၁၉၇၁)

ဤစာအုပ်သည် ဗိုလ်မှူးဘရှင် နောက်ဆုံး လက်စသတ်ပြုစုသွားနိုင်ခဲ့သော စာအုပ်ဖြစ်သည်။ (လက်စသတ် မသွားနိုင်ခဲ့သော စာအုပ်မှာ 'ပုဂံခေတ်မြန်မာနိုင်ငံ' ဖြစ်သည်။)ဤစာအုပ်ကို ဗိုလ်မှူးဘရှင်သည် အခန်းငယ်များခွဲလျက် 'ပညာတန်ဆောင်'မဂ္ဂဇင်းတွင် ဦးစွာ အခန်းဆက်သဘောမျိုး ဖော်ပြခဲ့သည်။ ၁၉၆၈ ဇွန်လမှ ၁၉၆၈ နိုဝင်ဘာအထိ ဖြစ်သည်။ ထိုနောက် ဤစာအုပ်၏အဆက်ဖြစ်သော 'ပုဂံခေတ် မြန်မာနိုင်ငံ'ကို ဆက်လက်ရေးသားပြုစုခဲ့သည်။ သို့သော် အဆုံးမသတ်နိုင်မီမှာပင် နှလုံးရောဂါဖြင့် ၁၉၇၁ ဇန်နဝါရီလ ၇ရက် ညနေ ၅း၅၀နာရီအချိန်တွင် ကွယ်လွန်ခဲ့သည်။

ဗိုလ်မှူးဘရှင်သည် စာပေလောကနှင့် ၁၉၃၅-ခုနှစ်(တက္ကသိုလ်ကျောင်းသားဘဝ)ကတည်းက နီးစပ်ထိတွေ့ခဲ့သူဖြစ်သည်။ မြန်မာ့အလင်းနှင့် သူရိယသတင်းစာတို့၏ယုဒသန်ကောလိပ်သတင်းထောက်အဖြစ် ၁၉၃၅ မှ ၁၉၄၁အထိ ဆောင်ရွက်ခဲ့ပြီး သတင်းနှင့်ဆောင်းပါး အများအပြားကို ရေးသားခဲ့သည်။ တက္ကသိုလ်ကျောင်းသားဘဝမှာပင် ကျေးလက်တောရွာ ပြုပြင်ရေးလုပ်ငန်းအတွက် Soerates of School အမည်ရှိစာအုပ်ကို ပြုပြင်ဘာသာပြန်သည့်'ခေတ်သစ်မာဃ'အမည်ရှိ စာအုပ်ကို ၁၉၃၇ ၌ ရေးသားထုတ်ဝေခဲ့သည်။ ယုဒသန်ကောလိပ်မဂ္ဂဇင်းတွင်လည်း ဆောင်းပါးအများရေးခဲ့ပြီး မြန်မာစာအယ်ဒီတာအဖြစ်လည်း ဆောင်ရွက်ခဲ့၏။ 'ခြင်'အမည်ရှိ လက်ရေးမဂ္ဂဇင်း၏အယ်ဒီတာအဖြစ်လည်း တနှစ်ဆောင်ရွက်ခဲ့သေးသည်။ ၁၉၃၈ တွင် ဂျပ်ဆင်ကောလိပ်မှ အရှေ့တိုင်းရာဇဝင်ဖြင့် ဝိဇ္ဇာဂုဏ်ထူးရခဲ့သည်။

၁၉၃၉ တွင် ဒေါက်တာဦးသာဆိုင်၊ ဒေါက်တာအန်ဒရပ်တို့နှင့်အတူ 'မြန်မာနိုင်ငံ ကျေးလက်ပြုပြင်ရေး စာတမ်း'ကို ရေးသားထုတ်ဝေခဲ့သည်။

ဂျပန်ခေတ်တွင် အာရှလူငယ်အစည်းအရုံး၏ဉာဏဗလမှူးအဖြစ်လည်းကောင်း၊ ကာကွယ်ရေးတပ်မတော် ပညာရေးအရာရှိအဖြစ်လည်းကောင်း ဆောင်ရွက်ခဲ့ပြီး ဖက်ဆစ်တော်လှန်ရေးတွင်ကား တိုင်း ၄ ရဲဘော်တဦးအဖြစ် တော်လှန်ရေးတာဝန်ကို ထမ်းဆောင်ခဲ့သည်။ သို့ထမ်းဆောင်ရင်းက 'တိုင်း ၄ သတင်းစာ'ကို ဦးစီးထုတ်ဝေသေးရုံမက တော်လှန်ရေးရဲဘော်များအတွက် အရင်းရှင်စနစ် ပေါ်ပေါက်လာပုံအကြောင်း ဖြစ်သော 'ဥရောပစီးပွားရေးသမိုင်း'အမည်ရှိ ကျမ်းတစောင်ကို ရေးသားထုတ်ဝေခဲ့သေးသည်။

စစ်ပြီးခေတ် ရောက်သော် တပ်မတော်သို့ ဝင်ရောက်လျက် စစ်မှတ်တမ်း တပ်မှူးအဖြစ်လည်းကောင်း၊ ဗြိတိန်နိုင်ငံဆိုင်ရာ မြန်မာစစ်သံမှူး(ဗိုလ်မှူးကြီးအဆင့်)အဖြစ်လည်းကောင်း ဆောင်ရွက်သည်။

'မြန်မာနိုင်ငံတော်သမိုင်း'ကို ၁၉၄၈ မြန်မာနိုင်ငံလွတ်လပ်ရေးရသည့်နှစ်တွင် ရေးသားပြုစုထုတ်ဝေခဲ့သည်။ (နောင်သော် ထိုစာအုပ်ကို တက္ကသိုလ်ဝင်တန်း ကျောင်းသုံးစာအုပ်အဖြစ် နှစ်အတန်ကြာ ပြဋ္ဌာန်းသုံးစွဲခဲ့သည်။)

တပ်မတော်တွင် အမှုထမ်းနေစဉ်အတွင်း 'စစ်နှလုံးဂျာနယ်'နှင့်'မြဝတီမဂ္ဂဇင်း'တို့တွင် ယဉ်ကျေးမှု၊ သမိုင်းနှင့်စစ်ရေးဆိုင်ရာ ဆောင်းပါးအများ ရေးခဲ့သည်။ ထို့ပြင် 'ခလေးဂျာနယ်၊ ဗမာ့ခေတ်သတင်းစာနှင့်မြန်မာ့အလင်းသတင်းစာ'တို့တွင် ခလေးသူငယ်များအတွက် ဆောင်းပါးများနှင့်'စစ်ပညာဂျာနယ်' တွင် စစ်ရေးဆောင်းပါးများကို အလျင်မပြတ် ရေးခဲ့သည်။

တပ်မတော်မှ အငြိမ်းစားယူပြီးသည့်နောက်တွင် မြန်မာနိုင်ငံသမိုင်းကော်မရှင်၌ ကျမ်းပြုအရာရှိအဖြစ် အမှုထမ်းခဲ့သည်။ (သည့်အရင်က အရှေ့ဖျားနှင့်မြန်မာ့သမိုင်း ကထိကအဖြစ်လည်း ရန်ကုန်တက္ကသိုလ်၌ အမှုထမ်းခဲ့သည်။)

သမိုင်းကော်မရှင်၌ ကျမ်းပြုအရာရှိအဖြစ် ဆောင်ရွက်နေစဉ်၌ 'သမိုင်းတံခွန်ဂျာနယ်'တွင် အင်္ဂလိပ် မြန်မာ နှစ်ဘာသာတို့ဖြင့် သုတေသန စာတန်းများကိုလည်းကောင်း၊ အစောဆုံးပုဂံယဉ်ကျေးမှုနှင့်မြန်မာစာအကြောင်းကို ဖော်ပြသော 'လောကထိပ်ပန်'စာအုပ်ကို အင်္ဂလိပ်ဘာသာဖြင့်လည်းကောင်း၊ ပုဂံရှေးဟောင်း မင်စာများအကြောင်းဖော်ပြသော 'ပုဂံမင်စာစုသုတေသနခရီး အစီရင်ခံစာ'အမည်ရှိစာအုပ်ကိုလည်းကောင်း ရေးသားပြုစုခဲ့သည်။ ယင်းနှစ်အုပ်ကို သမိုင်းကော်မီရှင်မှပင် ပုံနှိပ်ထုတ်ဝေခဲ့သည်။

ထို့ပြင် 'မြန်မာ့စွယ်စုံကျမ်း'၌လည်း လူမျိုးစုဆိုင်ရာ ပြည်နယ်ဆိုင်ရာနှင့်သမိုင်းဆိုင်ရာအကြောင်းအရပ်များကို ရေးသားခဲ့သည်။

တက္ကသိုလ်များအုပ်ချုပ်ရေးမှ ကြီးမှူးထုတ်ဝေသော 'ပညာပဒေသာစာစောင်၊ ဝိဇ္ဇာနှင့်သိပ္ပံတက္ကသိုလ် မြန်မာစာအသင်း၊ သတ္တဗေဒအသင်း၊ မွတ်စလင်ကျောင်းသားများအသင်း စသည်တို့မှ ထုတ်ဝေသော မဂ္ဂဇင်းများနှင့် 'ငွေတာရီ၊ ပညာတန်ဆောင်၊ လုပ်သားပြည်သူ့နေ့စဉ်(အင်္ဂလိပ်နှင့်မြန်မာ) သတင်းစာတို့၌လည်း သုတေသနဆောင်းပါးအများ ရေးသားခဲ့သည်။

ဗိုလ်မှူးဘရှင်သည် ဆောင်းပါးများ ရေးရာ၌ ဗိုလ်မှူးဘရှင်၊ ဦးဘရှင်ဟူသော ကလောင်အမည်များအပြင် စံအောင်၊ ဗိုလ်မှူးဉာဏ၊ မောင်ပင်တည်၊ သုတေသီ၊ တိုင်း ၄ရဲဘော်ဟောင်း၊ ကင်းထောက်မောင်၊ ဝရီးစံဟူသော ကလောင်အမည်ခွဲများဖြင့်လည်း ရေးသားခဲ့သည်။

ဗိုလ်မှူးဘရှင်မှာ အစ္စလာမ်သာသနာဝင် တိုင်းရင်းသားမြန်မာအမျိုးသားတဦးဖြစ်သည့်အလျောက် မြန်မာနိုင်ငံအစ္စလာမ် သာသနာရေးကောင်စီဌာနချုပ်၏အထွေထွေအတွင်းရေးမှူးချုပ်အဖြစ်လည်း ကွယ်လွန်ချိန်အထိ ဆောင်ရွက်ခဲ့သည်။

ကွယ်လွန်ချိန်၌ ဗိုလ်မှူးဘရှင်တွင် ဇနီးဒေါ်ခင်မေကြီး(သတ္တဗေဒဌာန ကထိက)နှင့်သား မောင်ဉာဏ်ထိန်၊ သမီး မဉာဏ်သစ်၊ မနီလာ၊ မအေး

အေး၊ မထွေးထွေးတို့က ကျန်ရစ်ခဲ့သည်။

ဗိုလ်မှူးဘရှင်သည် ပျဉ်းမနားမြို့ ရွာကောက်ရပ်ဇာတိဖြစ်ပြီး ကျောင်းအုပ်ဆရာကြီးဦးဟိန်း၊ ဒေါ်စောရင်တို့မှ ၁၉၁၄တွင် ဖွားမြင်ခဲ့သည်။

ကွယ်လွန်ချိန်၌ မြန်မာနိုင်ငံသမိုင်းကော်မရှင်တွင် 'အစောပိုင်းမြန်မာနိုင်ငံသမိုင်း'ကျမ်းကို ပြုစုနေဆဲ ဖြစ်သည်။

## နိဒါန်း
## ဦးတည်ရည်ရွယ်ချက်

အရည်အခြင်း တူညီကြသော အဝေးခုန် အားကစားသမားနှစ်ဦးတွင် အရှိန်ကောင်းစွာ ယူနိုင်သော ရှည်သည့်အပြေးလမ်းကောင်းရှိသူက ယင်းကဲ့သို့သော ပြေးလမ်းမျိုးမရှိသူထက် ပို၍ဝေးဝေး ခုန်နိုင်မည်သာ ဖြစ်သည်။ အလားတူပင် နိုင်ငံတခု၏တိုးတက်မှုအတွက်လည်း အရှိန်ကောင်းကို ပေးနိုင်မည့် အစဉ်အလာလမ်းကြောင်းတည်းဟူသော နောက်ခံသမိုင်းစဉ်ရှိရန်လိုပေသည်။ ဤခေတ်ပြောင်းတော်လှန်ရေး ကာလအတွင်း မြန်မာ့ဆိုရှယ်လစ်လမ်းစဉ်အားဖြင့် ကျွန်ုပ်တို့နိုင်ငံ လုပ်သားပြည်သူတို့၏ကြီးပွားတိုးတက်ရေးအတွက် ရှေ့သို့ချီတက်စွန့်စားဆောင်ရွက်နေမှုများကို အရှိန်ကောင်းပေးနိုင်မည့် ကျွန်ုပ်တို့၏နောက်ခံသမိုင်းစဉ်သည် ရှိခဲ့ပါသလော။ ရှိခဲ့ပါက မည်မျှ ရှည်ရှည်ဝေးဝေးရှိ၍ မည်မျှကောင်းမွန်သော သမိုင်းစဉ် ဖြစ်ပါသနည်း။

## သမိုင်းစဉ်ဟူသည်

သမိုင်းစဉ်ဆိုရာတွင် ဒန္ဒာရီမဆံ၊ ယုံတမ်းစကားလည်း မဟုတ် ခိုင်လုံသော အထောက်အထားရှိ၍ သဘာဝကျသော သမိုင်းစဉ်၊ သိပ္ပံနည်းကျကျ စစ်ဆေးလာလျှင်လည်း ခံနိုင်ရည်ရှိသော လုပ်သားပြည်သူတို့၏သမိုင်းစဉ်ကို ဆိုလိုပါသည်။ ကျွန်ုပ်တို့၏နိုင်ငံကို ဗြိတိသျှနယ်ချဲ့တို့ ကြီးစိုးခဲ့စဉ်က ရေးသားခဲ့သော ဥရောပသား သမိုင်းဆရာတို့၏မြန်မာနိုင်ငံသမိုင်းတို့တွင် အထောက်အထားရှိ၍ သဘာဝကျသော မြန်မာနိုင်ငံသားတို့၏သမိုင်းစဉ်သည် ပုဂံ အနော်ရထာမင်းကြီး(၁၁ရာစုနှစ်များ)နှင့်စခဲ့သည်ဟု ဆိုကြသည်။ သူတို့သိသမျှ

ရနိုင်သမျှသော အထောက်အထားများအရသာ ဆိုခဲ့ကြခြင်း ဖြစ်ပေမည်။ သူတို့၏အဆိုအရဆိုလျှင် ကျွန်ုပ်တို့၏သမိုင်းစဉ်သည် နှစ်ပေါင်း ၉၀၀မျှသာ ကြာညောင်းခဲ့သေးသည်ဟု နားလည်ရပါသည်။

## မြန်မာနိုင်ငံသားတို့၏သမိုင်းအစ

ရှေးခေတ် မြန်မာနိုင်ငံရာဇဝင်ဆရာတို့ကမူ ကျွန်ုပ်တို့၏သမိုင်းစဉ်သည် မြတ်စွာဘုရားလက်ထက်တော်မတိုင်မီ (၆ရာစုဘီစီ)ကပင်စသည်ဟု အစဉ်အလာအရ ဆိုပြုခဲ့ကြသည်။ ယင်းအဆိုပြုချက်ထက်ပင်စော၍ ကျွန်ုပ်တို့၏သမိုင်းစဉ်သည် မစခဲ့သလော။

မြေထဲပင်လယ်အရှေ့ပိုင်းရှိ အီဂျစ်၊ ဘေဘီလုံစသော နိုင်ငံတို့တွင် လူတို့၏သမိုင်းစဉ်သည် ဘီစီ ၄၀၀၀ ကျော်က စခဲ့ကြောင်း ခိုင်လုံသော အထောက်အထားများအရ သိနိုင်သည်။ အလားတူပင် တရုတ်ပြည် ဝေမြစ်ဝှမ်းတွင်လည်းကောင်း၊ အနောက်ပါကစ္စတန်ပြည် အိန္ဒုမြစ်ဝှမ်းတွင်လည်းကောင်း လူတို့၏သမိုင်းစဉ်သည် ဘီစီ ၃၀၀၀ ကျော်က စခဲ့ကြောင်း ဖေါ်ထုတ်ပေးသည့် အထောက်အထားများကို တွေ့ခဲ့ရပြီဖြစ်သည်။

မြတ်စွာဘုရားလက်ထက်မတိုင်မီကပင် ကျွန်ုပ်တို့၏သမိုင်းစဉ် စခဲ့သည်ဟူသော ရှေးခေတ်ရာဇဝင်ဆရာတို့၏အဆိုမှာ သိပ္ပံနည်းကျစွာ စစ်ဆေးခြင်းကို ခံနိုင်မှုမရှိသော အဆိုဖြစ်သည်ဟု အချို့က စောဒကတက်ခဲ့ကြ၏။ သိပ္ပံနည်းကျစွာ လေ့လာသိရှိရသော ရှေးဦးလူများ၊ ကျောက်ခေတ်ဟောင်း ကျောက်ခေတ်လယ် ကျောက်ခေတ်သစ်လူများဖြစ်သည့် သမိုင်းမတင်မီခေတ်လူတို့၏အကြောင်းကို အခြားအခြားသော နိုင်ငံတို့တွင် တွေ့ရှိနိုင်သလို ကျွန်ုပ်တို့နိုင်ငံတွင်လည်း မတွေ့ရှိနိုင်သလော။

လူတို့၏သမိုင်းစဉ်ဟူရာ၌ အသက်ရှင်နေမှုအတွက် ယင်းလူတို့က ကြိုးပမ်းဆောင်ရွက်ခဲ့ပုံများ အကြောင်းပင် ဖြစ်သည်ဟု ရိုးရိုးပင် နားလည်နိုင်ပေသည်။ အသက်ရှင်နေရန် ကြိုးပမ်းခြင်းဆိုသည်မှာ စားဝတ်နေရေးအတွက် ဖန်တီးဆောင်ရွက်မှုများပင် ဖြစ်သည်။ ယင်းသို့ဆောင်ရွက်ရာတွင် ကုန်ထုတ်စွမ်းအားများ၊ ကုန်ထုတ်ကရိယာများကို အနည်းနည်းအဖုံဖုံတီထွင် အသုံးပြုလာခဲ့ကြရသည်။ ဤတွင် ကုန်လုပ်ဆက်ဆံရေးသည် မလွဲမသွေပေါ်ပေါက်လာရသည်။ ယင်းကုန်လုပ်ဆက်ဆံရေး၏နည်းနှင့်အသွင်တို့ကို အခြေပြု၍ လူတို့၏စီးပွားရေး၊ လူမှုရေး၊ နိုင်ငံရေးနှင့်ယဉ်ကျေးမှုတို့သည် ပုံတည်ပေါ်ပေါက်လာခဲ့သည်။ ပြောင်းလွဲလာခဲ့ရသည်။ ဤဖြစ်စဉ် ဖြစ်ရပ်တို့မှာ အဆန်းတကြယ် အံ့ဘွယ်သရဲဖြစ်ရပ်များ မဟုတ်။ ဖြစ်ရိုးဖြစ်စဉ်အတိုင်း ဖြစ်ခဲ့သည့်သာမန်ဖြစ်စဉ်၊သဘာဝကျသော ဖြစ်စဉ်၊ ရိုးရိုးကလေး ဖြစ်ပျက်လာခဲ့သော ဖြစ်စဉ်သာ ဖြစ်သည်။ ဤဖြစ်စဉ်သည်ပင်လျှင် လူတို့၏သမိုင်း ဖြစ်သည်။

## အနော်ရထာအရင်က

ဥရောပတိုက်သား သမိုင်းဆရာတို့က ခိုင်လုံသော မြန်မာနိုင်ငံ၏သမိုင်းစဉ်သည် အနော်ရထာမင်းကြီးလက်ထက်လောက်ကမှ စသည်ဟု ဆိုခဲ့သည်ဖြစ်ရာ အနော်ရထာမင်းကြီး မတိုင်မီက ကျွန်ုပ်တို့၏သမိုင်းစဉ်သည် မည်သို့ရှိခဲ့သနည်း။ ကျွန်ုပ်တို့၏ကုန်လုပ်စွမ်းအား၊ ကုန်လုပ်ဆက်ဆံရေး၊ စီးပွားရေးစနစ်နှင့်ယဉ်ကျေးမှုတို့သည် မည်သို့ရှိခဲ့သနည်း။ ကျွန်ုပ်တို့နိုင်ငံတွင် မည်သည့်ကာလလောက်ကစ၍ လူတို့နေထိုင်လာခဲ့ကြသနည်း။ သမိုင်းမတင်မီခေတ်က လူတို့၏စီးပွားရေးနှင့်လူမှုရေးဘဝတို့သည် မည်သို့ရှိခဲ့သနည်း။ ကျွန်ုပ်တို့နိုင်ငံတွင် သမိုင်းတင်ခေတ်သည် မည်သည့်အချိန်လောက်က စတင်ခဲ့သနည်း။ သမိုင်းတင်ခေတ်စသည်မှ အနော်ရထာမင်းကြီးလက်ထက်(၁၁ရာစုအေဒီ)အထိ ကျွန်ုပ်တို့နိုင်ငံသားတို့၏ဖြစ်စဉ်သည် မည်သို့ရှိခဲ့သနည်း။ ဤအမေးတို့၏ အဖြေများကို သိလိုကြမည်သာ ဖြစ်ပေသည်။

သိပ္ပံနည်းကျကျ စစ်ဆေးခြင်းကို ခံနိုင်သော ခိုင်လုံသည့်မူရင်း အထောက်အထားများနှင့်အကိုးအကားများ ရှိမှသာ ယင်းအမေးများကို ဖြေဆိုနိုင်ချိမ့်မည်။

ယင်းသို့ ဖြေနိုင်စွမ်းရှိစေမည့် အထောက်အထားများ ရှိပါသလား။ ရှိပါသည်။ နှံ့နှံ့စပ်စပ် ပြည့်ပြည့်စုံစုံ ရှာဖွေလေ့လာခြင်း၊ တူးဖော်လေ့လာခြင်း မပြုနိုင်သေးသည့်တိုင်အောင် မြေပြင်လွှာပေါ်မှ အလွယ်တကူ ကောက်ယူရရှိနိုင်သော ရှေးဟောင်းအထောက်အထားများ အတော်အသင့် ရှိနေပါသည်။ ထို့ပြင် ဆက်စပ်ယူရမည့်ဘာသာဗေဒနှင့်မနုဿဗေဒအထောက်အထားများကိုလည်း အတော်အသင့် ရှာဖွေနိုင်ပါသည်။

လက်လှမ်းမှီသမျှသော အထောက်အထားများကို အခြေပြု၍ ကျွန်ုပ်တို့နိုင်ငံအတွင်း နေထိုင်သွားခဲ့ကြသော သမိုင်းမတင်မီခေတ်လူများနှင့်အနော်ရထာမင်းကြီးလက်ထက်အထိ ဖြစ်သော သမိုင်းတင်ခေတ်အတွင်း နေထိုင်ခဲ့ကြသော ရှေးလူတို့အသက်ရှင်နေမှုအတွက် လုံးပမ်းခဲ့ကြရပုံတို့ကို ဖော်ပြရာဖြစ်သော ထိုရှေးဟောင်းလူတို့၏ကုန်လုပ်ဆက်ဆံရေးနှင့်ယဉ်ကျေးမှုဆိုင်ရာ အကြောင်းခြင်းတများကို ခေတ်ပြောင်းတော်လှန်ရေး ဆင်နွှဲလျက်ရှိကြကုန်သော လုပ်သားပြည်သူတို့ထံ အကြမ်းအားဖြင့် တင်ပြရန်ဟူသော ဦးတည်ချက်ဖြင့် 'အနော်ရထာအရင်က မြန်မာနိုင်ငံ'(မြန်မာနိုင်ငံ ခေတ်ဟောင်းသမိုင်း) စာတန်းများကို ရေးသားပြုစုရခြင်း ဖြစ်ပါကြောင်း။

## ပြည်ထောင်စုသမိုင်းဟူသည်

ပြည်ထောင်စုမြန်မာနိုင်ငံ၏သမိုင်းဆိုရာ၌ လူများစုဖြစ်သော မြန်မာစကားကို ပြောဆိုသူ တိုင်းရင်းသားတို့၏သမိုင်းကိုသာ ဆိုလိုသည်မဟုတ်ပါ။ ပြည်ထောင်စု မြန်မာနိုင်ငံအဖြစ်ပါဝင်ဖွဲ့စည်းထားအပ်သော ပြည်ထောင်စု တိုင်းရင်းသားအားလုံးတို့ အကျုံးဝင်သောသမိုင်းဖြစ်သည်။ အမြင်အားဖြင့်လည်းကောင်း၊ ပြောဆိုသော ဘာသာစကားအရလည်းကောင်း ဤတိုင်းရင်းသားတို့၏အသွင်အမျိုးမျိုး ဆောင်၍ ကွဲပြားသယောင်ရှိ၏။ စီးပွားရေးအခြေအနေနှင့်ယဉ်ကျေးမှုအသွင်တို့တွင်လည်း ဆူကြဲနိမ့်မြင့် အဆင့်အမျိုးမျိုးတွင် ရောက်လျက်ရှိကြ၏။

ယင်းသို့ ကွဲပြားခြားနားလင့်ကစား ဤတိုင်းရင်းသားအားလုံးတို့၏ ယဉ်ကျေးမှုတို့သည်လည်းကောင်း၊ သမိုင်းစဉ်သည်လည်းကောင်း၊ တနည်းဆိုသော် ပြည်ထောင်စုယဉ်ကျေးမှုသည်လည်းကောင်း၊ ပြည်ထောင်စုသမိုင်းစဉ်သည်လည်းကောင်း တူညီသော အရှိန်အဟုန် သို့မဟုတ် အစဉ်အလာပေါ်တွင် တည်နေသည်ဟု ဆိုနိုင်သည်။ ယင်းတို့၏အခြေခံမှာလည်း မူရင်းအားဖြင့် တူညီသည်သာ ဖြစ်၏။

ဤတိုင်းရင်းသားတို့၏စီးပွားရေး၊ လူနေမှုဘဝနှင့်ယဉ်ကျေးမှုတို့ကို ပြောင်းလဲစေခဲ့သော အကြောင်းတရားများသည်လည်းကောင်း၊ အစဉ်အလာတို့သည်လည်းကောင်း ထပ်တူထပ်မျှသာ ရှိခဲ့သည်ဖြစ်၏။

## အစကို ရှာသော်

ပြည်ထောင်စုယဉ်ကျေးမှုနှင့်ပြည်ထောင်စုသမိုင်းစဉ်၏အစသည် အဘယ်နည်း။ မည်သို့ စတင်ခဲ့၍ မည်သို့အဆင့်ဆင့် ပြောင်းလဲလာခဲ့သနည်း။

ဤအကြောင်းကို လေ့လာရာတွင် ပြည်ထောင်စုမြန်မာနိုင်ငံတခုတည်းကို ကွက်၍ လေ့လာရန် မဖြစ်နိုင်ပေ။ ယခုခေတ်တွင် အပြည်ပြည်ဆိုင်ရာ နယ်နိမိတ်များဖြင့် ပိုင်းခြားထားသော အရှေ့တောင်အာရှနိုင်ငံတို့ကို တကွဲတပြားစီ မြင်တွေ့နေရသည်။ သမိုင်း၏ခေတ်ကာလ အတိုင်းအဆနှင့်ကြည့်သော် ယင်းသို့နယ်နိမိတ်ဆွဲ၍ ကွဲပြားလာသည်မှာ မနေ့တနေ့ကကိစ္စမျိုးသာ ဖြစ်သည်။

ပထဝီအနေအထားအရ မြန်မာနိုင်ငံသည် အရှေ့တောင်အာရှရှိ လောဝ၊ ယိုးဒယား၊ မလေး၊ ကမ္ဘောဒီးယား၊ တောင်နှင့်မြောက်ဗီယက်နမ်နိုင်ငံတို့နှင့်ရေ၊ မြေတကြောတည်း တစပ်တည်း တပြေးတည်း ဖြစ်သည်။ ဤသို့ တစပ်တည်းရှိသော အရှေ့တောင်အာရှတွင် ရှေးခေတ်ဟောင်းအတွင်းက လူတို့၏လှုပ်ရှားရွှေ့ပြောင်းနေထိုင်မှု၊ ယဉ်ကျေးမှုစတင်ပုံတည်မှု၊ ပြန့်နှံ့မှုနှင့် ပြောင်းလဲမှုတို့မှာ နိုင်ငံကိုလိုက်၍ တသီးတခြားစီဖြစ်ပေါ်လာခဲ့ခြင်းမဟုတ်။ ကြမ်းတပြေးတည်း ရှိသည့်အားလျော်စွာ တလျှောက် တပြေးတည်း ဖြစ်ပေါ်ပြောင်းလဲခဲ့ခြင်းသာ ဖြစ်သည်။

သို့ဖြစ်၍ ပြည်ထောင်စုနိုင်ငံ၏ခေတ်ဦးပိုင်းသမိုင်းကို လေ့လာရာတွင် အရှေ့တော်အာရှတရပ်လုံးနှင့်ဟပ်၍ ဆက်စပ်၍ လေ့လာရန် လိုအပ်သည်ဟုဆိုခြင်းဖြစ်သည်။

## အရှေ့တောင်အာရှနှင့်လူအစ

လူသည် အဓိကဖြစ်သည်။ လူသည် သမိုင်းကို ဖန်တီးသူလည်း ဖြစ်သည်။ မြန်မာနိုင်ငံသမိုင်း၏အစကိုဆိုလျှင် အရှေ့တောင်အာရှသမိုင်း၏အစကို ဆိုရမည်။ အရှေ့တောင်အာရှသမိုင်းအစကိုဆိုလျှင် ထိုဒေသ၏လူတို့၏အစနှင့်ပင် စတင်ရမည်ဖြစ်သည်။

## ဗိုနီယိုကျွန်း

အရှေ့တောင်အာရှတွင် ကမ္ဘာဦးလူ၏အစကို တွေ့ခဲ့ရပြီးဖြစ်သည်။ ဗိုနီယိုကျွန်း၏အနောက်ပိုင်းတွင် နီအား[၁] ဟုခေါ်သောဂူရှိသည်။ ရှေးဦးလူတို့နေသွားခဲ့သောဂူဖြစ်သည်။ ၎င်းဂူတွင် တူးဖော်တွေ့ရသော အထောက်အထားကို ရေဒီယိုကာဘွန်နည်းနှင့်စမ်းသပ်ကြည့်သောအခါ ခရစ်မပေါ်မီနှစ်ပေါင်း ၂၁၉၅ ခန့်ကဟု အတန်ခိုင်လုံစွာ သိရသည်။

## ဂျားဝါးလူ[၂] မှ မနုဿလူသား[၃]

၎င်းထက်စောသည်ဟု ယူဆရသော လူ၏အစကို ဂျားဝါးကျွန်းတွင် တွေ့ရသည်။ ဂျားဝါးကျွန်း ဆိုလို[၄]မြစ်ဝှမ်းတွင် ကမ္ဘာဦးလူ၏ကျောက်ဖြစ်ရုပ်ကြွင်းကို တွေ့ခဲ့ရသည်။ ထိုကမ္ဘာဦးလူကို ဂျားဝါးလူဟု ခေါ်သည်။ ထိုမြစ်ဝှမ်းတွင်လည်းကောင်း၊ ဂျားဝါးကျွန်းတောင်ပိုင်း ဝဒ့်ဂျက်[၅]ဒေသတတွင်လည်းကောင်း၊ ဩစတြေးလျတိုက် မယ်လဘုန်းမြို့အနီး ကဲလော[၆]ဒေသတွင်လည်းကောင်း ကမ္ဘာဦးလူအဆင့်မှ မနုဿလူသားအဆင့်သို့ အဆင့်ဆင့် ပြောင်းလဲတိုးတက်လာသောလူတို့၏ကျောက်ဖြစ်ရုပ်ကြွင်းများကို တွေ့ခဲ့ရသည်။

1. Niah
2. Pithican-throid
3. Homo Sapien
4. Solo
5. Wadjak   6. Keilor

## လူပေါ်ပေါက်ပြီးနောက် အဆင့်ဆင့်ပြောင်းလဲခဲ့ပုံ

အရှေ့တောင်အာရှတွင် လူပေါ်ပေါက်ခဲ့ပြီးနောက် အဆင့်ဆင့်တိုးတက်ပြောင်းလဲခဲ့ပုံကိုသမိုင်းမတင်မီခေတ် ဘူမိဗေဒပညာရှင်တို့က ဤသို့ဖြစ်ခဲ့ဟန်တူသည်ဟု ယူဆကြ၏။

ရှေးဦးစွာ ဂျားဝါးလူ၏အသွင်မှ ဆိုလိုလူအသွင်[၁]၊ ယင်းမှ ဝဒ်ဂျက်ကဲလော မနုဿလူသားအသွင်သို့ ရောက်လာခဲ့၏။ အရှေ့တောင်အာရှတွင် ဤရှေးအကျဆုံးသော မနုဿလူသားတို့မှ ပြောင်းလဲလာသောအသွင်မှ ယနေ့တိုင် ရှိနေသော ဩစတြေလျှိုက်[၂]လူ၏အသွင်ဖြစ်သည်။

မြိတ်ကျွန်းစုရှိ ဆလုံမလေးတို့တွင်လည်းကောင်း၊ မလေးကျွန်းဆွယ်အလယ်ပိုင်း တောနက်အတွင်းနေ ဆကိုင်[၃]လူတို့တွင်လည်း ဩစတြေလျှိုက်လူတို့၏အသွင်ကို ထင်ထင်ရှားရှား တွေ့နိုင်ပေသည်။

## ရှေးဦးလူတို့ပြန့်နှံ့ခဲ့ပုံ

ယခုခေတ်တွင် အင်ဒိုနီးရှားကျွန်းစုသည် အရှေ့တောင်အာရှကုန်းမနှင့်ပင်လယ်ခြားလျက် ရှိ၏။ ရှေးကျလှသော ခေတ်တခေတ်ကသော် တစပ်တပြေးတည်း ရှိခဲ့သည်ဟု ဘူမိဗေဒပညာရှင်တို့က ဆိုကြ၏။ ရှေးဦးလူတို့သည် တနေရာတည်းတွင် စွဲစွဲမြဲမြဲနေခဲ့ခြင်းမရှိ။ ပြန့်နှံ့၍ သွားလာနေခဲ့ကြဟန်တူသည်။ အကြောင်းမှာ ဤဂျားဝါးလူတို့ထက် တိုးတက်နေသော အခြားလူတို့၏အထောက်အထားတို့ကို အခြားဒေသများ၌ တွေ့ခဲ့ရခြင်းကြောင့်ဖြစ်ပေသည်။

တရုတ်ပြည် ပီကင်းမြို့အနီး ချူကိုတယန်ဂူတို့တွင် တွေ့ရသောကမ္ဘာ

---
1. Solo Man
2. Australoid
3. Sakai

ဦးလူ၏ကျောက်ဖြစ်ရုပ်ကြွင်းတို့မှာ ဂျားဝါးလူထက် တိုးတက်နေကြောင်းသိရ၏။ ဤလူကို ပီကင်းလူဟု ခေါ်ကြသည်။ ထိုမှတပါး ယခုမြောက်ဗီယက်နမ်၏မြောက်ပိုင်းတွင် ပီကင်းလူနှင့်ဆက်သည့်ကျောက်ဖြစ်ရုပ်ကြွင်း လူ၏သွားများကို တွေ့ခဲ့ရပြန်သည်။

## ရှေးဦး လူရေစီးကြောင်းများ

ဤအထောက်အထားတို့ကို အခြေပြု၍ ရှေးနှစ်ပေါင်းများစွာကတည်းက အရှေ့တောင်အာရှတွင် လူများပေါ်ထွန်းခဲ့သည်။ ရွှေ့ပြောင်းသွားလာခဲ့ကြသည်။ လူတို့၏ရွှေ့ပြောင်းသွားလာမှုတည်းဟူသော လူရေစီးကြောင်းတို့အမြောက်အမြား ရှိခဲ့သည်။ ယင်းရေစီးကြောင်းတို့မှာ အရပ်မျက်နှာတဖက်တည်းသို့သာ စီးဆင်းသည်မဟုတ်။ အရပ်မျက်နှာအသီးသီးသို့ ရှုပ်ထွေးစွာစီးဆင်းခဲ့ကြသည်။ လူရေစီးကြောင်းတို့ တွေ့ဆုံပေါင်းစည်းမိသည်လည်း ရှိသည်။ တခုကိုတခုက တွန်းလှန်ပယ်ရှားပစ်သည်လည်း ရှိသည်။ လမ်းလွှဲပစ်သည်လည်း ရှိသည်။

လူသားတို့သည် အစဉ်တစိုက် လှုပ်ရှားရွှေ့ပြောင်းခဲ့ကြသည်သာဖြစ်၏။ အသက်ရှင်နိုင်ရေးနှင့်ဘဝတည်တန့်မှုအတွက် ခွန်အားကို အသုံးပြုလျက်တီထွင် ကြံဆမှုတို့ကို ပြုခဲ့ရသည်။ အတွေ့အကြုံတည်းဟူသော ဆရာ၏နည်းလမ်းပြမှုကြောင့် ဘဝ၏လုံခြုံမှုအတွက် အသစ်အဆန်းဖြစ်သော ဆောင်ရွက်မှုများသည် ပေါ်ပေါက်ခဲ့ရသည်။ ဤသို့ဖြင့် လူ့ယဉ်ကျေးမှု၏အစသည် ဖြစ်ခဲ့သည်။

## လူသား၏စွမ်းပကားသုံးမှု

ဤရှေးလူတို့ကြောင့် အရှေ့တောင်အာရှသည် အသက်ဝင်၍ လှုပ်လှုပ်ရှားရှား ရှိခဲ့၏။ ထူးခြားဆန်းကျယ်သော လှုပ်ရှားမှု၊ ကျယ်ပြန့်သော လှုပ်ရှားမှုများ ရှိခဲ့သည်။ ဤလှုပ်ရှားမှုအမျိုးမျိုးတွင် လူမှုရေး၊ စီးပွားရေးနှင့်ယဉ်ကျေးမှုဆိုင်ရာ လှုပ်ရှားမှုအများ ပါဝင်လာခဲ့သည်။ ဤသည်တို့ကား လူပေါ်ထွန်း၍ အစုလိုက် ရွှေ့လျားလှုည့်လည်ကြစဉ်ကတည်းကပင် ဖြစ်သည်။ ဤ

သို့ ကမ္ဘာဦးလူသားတို့၏လုပ်ရှားရွှေ့ပြောင်းသွားလာမှုနှင့်လူသား၏စွမ်းပကား ကို အသုံးပြုမှုတို့တွင် အရှေ့တောင်အာရှသည် ကမ္ဘာ့အခြားဒေသများထက် ပိုမိုလွန်ကဲသည်ဟု ဆိုဘွယ်ရာရှိပေသည်။

## မြန်မာနိုင်ငံနှင့်ရှေးဦးလူ

အရှေ့တောင်အာရှလူသားတို့၏ လှုပ်ရှားမှုနှင့်ယဉ်ကျေးမှု၏အစ တွင် မြန်မာနိုင်ငံသည် မည်သို့ပါဝင်ခဲ့သနည်း။ မြန်မာနိုင်ငံတွင် ကမ္ဘာဦးလူ ၏ကျောက်ဖြစ်ရုပ်ကြွင်းကို မတွေ့ရသေးပါ။ သမိုင်းမတင်မီခေတ် ကမ္ဘာဦး တိရစ္ဆာန်တို့၏ကျောက်ဖြစ်ရုပ်ကြွင်းများကိုကား ဧရာဝတီမြစ်ဝှမ်းတွင် အများ အပြားတွေ့ခဲ့ရသည်။ လူ၏ကျောက်ဖြစ်ရုပ်ကြွင်းကို မတွေ့ရသော်လည်း အ ထက်တွင် ဆိုခဲ့သော လူ့ရေစီးကြောင်းများ စီးဆင်းသည့်မူအရ မြန်မာနိုင်ငံ တွင် ရှေးဦးလူများ ရှိသွားခဲ့သည်ဟု ဆိုနိုင်ပေသည်။ အထူးသဖြင့် ထိုလူတို့ ထားရစ်ခဲ့သော သဲလွန်စအထောက်အထားများကို တွေ့ရှိထားရပြီဖြစ်ရာ မြန် မာနိုင်ငံ၌ ရှေးဦးလူများနေထိုင်သွားခဲ့ကြသည်ဟူသော အချက်ကို သံသယ ဖြစ်ရန်မလိုပေ။

## ကျောက်ခေတ်ဦး

ယင်းရှေးဦးလူတို့ ထားရစ်ခဲ့သည့်သဲလွန်စ အထောက်အထားများ ဆိုသည်မှာ ထိုလူတို့ဘဝရပ်တည်မှုအတွက် အသုံးပြုခဲ့ကြသော ကျောက်ကြမ်း လက်နက်များပင် ဖြစ်သည်။ သိရသမျှသော် လူတို့သည် ဤကျောက်ကြမ်း လက်နက်များကို ကုန်ထုတ်ကရိယာများအဖြစ် အများအစား ရှေးဦးလက်မွှန် သုံးခဲ့ခြင်းဖြစ်သည်။ သို့ဖြစ်၍ ဤကျောက်ကြမ်းလက်နက် အသုံးပြုသည့် လူ တို့၏ခေတ်ကာလကို ကျောက်ခေတ်ဦးဟု ခေါ်ကြသည်။

လက်နက်ဟု ဆိုစေကာမူ ပုံသဏ္ဍာန် ဖေါ်ပြထားခြင်းမရှိ။ ဆုပ်နိုင် ကိုင်နိုင်အရွယ်ရှိသော ပင်ကိုယ်အတိုင်းဖြစ်သည့်ကျောက်တုံးငယ်များသာဖြစ် သည်။ သာမန်အားဖြင့် ဤလက်နက်ကို ရိုးရိုးကျောက်တုံးငယ်နှင့်ခွဲခြားရန်

မလွယ်ကူပေ။ သဘာဝအလျောက်ပါရှိသော အစွန်းဘက်တွင် ဆုတ်ခွာသည့် နည်းဖြင့် မညီမညာ အသွားသဖွယ် ဖော်ထားခြင်းသာလျှင် ထူးခြားသည်။ ကြည့်တတ်မှ ယင်းအသွားပါကြောင်း၊ အသွားကို ခုတ်စဉ်းရာတွင် အသုံးပြု ခဲ့ကြောင်း သိသာနိုင်ပါသည်။

ဤကုန်ထုတ်ကရိယာကျောက်ကြမ်းလက်နက်များကို ပြုလုပ်သော ကျောက်အမျိုးအစား ၂-မျိုးရှိသည်ကို တွေ့ရသည်။ တမျိုးမှာ သစ်ပင်၏ ကျောက်ဖြစ်ရုပ်ကြွင်းဖြစ်သော အင်ကြင်းကျောက် ဖြစ်သည်။ ပေပင်၊ ထန်း ပင်မှဖြစ်သော ကျောက်ဖြစ်ရုပ်ကြွင်း လက်နက်အချို့ကိုပင် တွေ့ရသည်။ အခြားတမျိုးမှာ ဆီလီကာပါသော မီးတောက်ကျောက်မျိုး[၁]ဖြစ်သည်။ ဤကျောက် မျိုးနှင့်ပြုလုပ်သော ကျောက်ကြမ်းလက်နက်မျိုးကို ပို၍တွေ့ရသည်။

ကျောက်ခေတ်ဦးလူတို့ ထားရစ်ခဲ့သော ဤလက်နက်များကို မိုးခေါင် ရေရှားရပ်ဝန်း ဧရာဝတီမြစ်များ၏ကမ်းပါးဆင့်များတွင် အများအစားတွေ့ရ သည်။ ရှမ်းပြည်တောင်ပိုင်း၌လည်း အနည်းအကျဉ်းတွေ့ရသည်။ သို့ဖြစ်၍ မြန်မာနိုင်ငံတွင် ကျောက်ခေတ်ဦးလူတို့သည် မိုးခေါင်ရေရှားရပ်ဝန်း ဧရာဝတီ မြစ်၏ကမ်းပါးဆင့်များနှင့်ရှမ်းပြည်တောင်ပိုင်းတွင် နေသွားခဲ့ကြသည်ဟု ဆို ဘွယ်ရာရှိသည်။

## အညာသား(အညာသီယန်)ယဉ်ကျေးမှု[၂]

ဤကျောက်ကြမ်းလက်နက်များကို အသုံးပြုခဲ့သော မြန်မာနိုင်ငံ ကျောက်ခေတ်ဦးလူတို့၏ယဉ်ကျေးမှုကို သမိုင်းမတင်မီခေတ် ပညာရှင်တို့က အညာသား(အညာသီယန်)ယဉ်ကျေးမှုဟု ကင်ပွန်းတပ်ထားကြ၏။

ကျောက်လက်နက်များကိုတွေ့ရသည့်မြေလွှာအဆင့်များကို ဘူမိဗေဒ ပညာအရဆန်းစစ်၍လည်းကောင်း၊ ကျောက်လက်နက်တို့၏အရွယ်ကွဲပြားမှု

1. Silicifide Tuff
2. Anyathian Culture

ကိုထောက်၍လည်းကောင်း၊ အညာသားယဉ်ကျေးမှုကို အစောပိုင်းခေတ်နှင့် နောက်ပိုင်းခေတ်ဟု ခေတ်နှစ်ခေတ် ခွဲခြားထားသည်။

တဖန် အလားတူပင် အစောပိုင်းခေတ်ကို အဆင့်သုံးဆင့်၊ နောက်ပိုင်းခေတ်ကို အဆင့်နှစ်ဆင့် ထပ်မံ၍ ခွဲခြားနိုင်သည်။

နောက်ပိုင်းခေတ်တွင် ကျောက်လက်နက်တို့သည် အရွယ်ငယ်လာသည်။ သုံးစွဲသည့်နည်းလည်း ပိုမိုများပြားလာသည်။ ပိုမိုကောင်းမွန်လာသည်။ လက်နှင့်ဆုပ်ကိုင်၍သာ သုံးသည်။ အပိုလက်ကိုင်ရိုးတပ်၍ သုံးခြင်းမျိုးမရှိခဲ့ပေ။ စင်းရန်၊ ခုတ်ရန်၊ ခွဲရန်၊ ခြစ်ရန်တို့အတွက် သုံးခဲ့ဟန်တူသော လက်နက်များပါသည်။

## တစုတစည်းတည်းရှိခဲ့သော အရှေ့တောင်အာရှ

ကျောက်ခေတ်ဦးသည် မြန်မာနိုင်ငံတွင်သာမက ယိုးဒယားနိုင်ငံ၊ မလေးကျွန်းဆွယ်၊ ဂျားဝါးကျွန်း၊ ဆဲလဲဗီကျွန်း၊ ဗိုနီယိုကျွန်းနှင့်ဖိလိစ်ပိုင်ကျွန်းတို့တွင်လည်း ပေါ်ထွန်းခဲ့၏။ ဤနိုင်ငံအသီးသီးတွင် နေထိုင်ခဲ့ကြသော ကျောက်ခေတ်ဦးလူတို့သည် အချင်းချင်း ဆက်ဆံမှုရှိကြသည်ဟုဆိုနိုင်၏။ အကြောင်းမှာ ဒေသပင် ဝေးကွာခြားသော်လည်း အသုံးပြုသောကျောက်လက်နက်တို့မှာ အမျိုးအစား ပုံသဏ္ဌာန်နှင့်အထူးသဖြင့် အသွားဖေါ်နန်းတို့တွင် လွန်စွာတူနေသည်။ ကျောက်လက်နက်တို့မှာ အားလုံး သဘာဝအနေအတိုင်းရှိသော ပင်ကိုယ်ကျောက်တုံးငယ်များသာ ဖြစ်ကြသည်။

ဤအချက်က အရှေ့တောင်အာရှတွင် အလွန်ရှေးကျသော ကာလကတည်းက လူရေစီးကြောင်းများ စီးဆင်းနေခဲ့သည်။ လူတို့၏လှုပ်ရှားရွေ့ပြောင်း သွားလာမှုရှိခဲ့သည်ဟူသောအချက်ကို ထောက်ခံနေပေသည်။ ထို့မှတပါး အရှေ့တောင်အာရှဒေသသည် ဤကျောက်ခေတ်ဦးက တစုတစည်းတည်းကျသော တမျိုးတည်းဖြစ်သော သမိုင်းအသွင်ဆောင်နေသည်ကို ထင်ရှားစေပေသည်။

အရှေ့တောင်အာရှ ကျောက်ခေတ်ဦးသည် တရုတ်ပြည်အာရှ အလယ်ပိုင်းတို့နှင့်လည်း အဆက်အသွယ် ရှိခဲ့ဟန်တူ၏။ အကြောင်းမှာ တရုတ်ပြည်တောင်ပိုင်း ယီကျင်နှင့်ချူကင်စပ်ကြား ယန်စီမြစ်ကမ်းပါး၊ တရုတ်ပြည်မြောက်ပိုင်းချူကိုတယန်ဂူ၊ ရှန်စီနှင့်ရှဲန်စီစပ်ကြား မြစ်ဝါမြစ်ဝှမ်းဒေသနှင့်အာရှအလယ်ပိုင်း ဩဒေ့ါ(စ်)ဒေသတို့၌ တွေ့ရသော ကျောက်ခေတ်ဦးလက်နက်တို့သည် အရှေ့တောင်အာရှ ကျောက်ခေတ်ဦးလက်နက်တို့နှင့်တူသောကြောင့် တည်း။

## အနောက်နှင့်ကွဲပြားချက်

အနောက်ပါကစ္စတန်၊ ပန်ဂျပ်နယ် စိုအန်[1]မြစ်ဝှမ်းတွင်လည်း အလားတူ ကျောက်ခေတ်ဦးလက်နက်တို့ကို တွေ့ခဲ့ရသည်။ သို့သော် ထူးခြားသော ကွဲပြားမှုရှိ၏။ ယင်းတို့မှာ အရှေ့တောင်အာရှ ကျောက်ခေတ်ဦးလက်နက်တို့ကို ကျောက်တုံး၏မျက်နှာတဖက်တွင်သာ ဆတ်ခွာ၍ အသွားဖေါ်သည်။ ဆောက်သွား၏ သဘောမျိုးဖြစ်သည်။ စိုအန်ကျောက်လက်နက်အချို့မှာ ကျောက်တုံး၏ မျက်နှာနှစ်ဖက်လုံးကို ဆတ်ခွာ၍ အသွားဖေါ်ထားသည်။ ကျောက်ပုဆိန်သဘော ဖြစ်သည်။ ဤလက်နက်မျိုးမှာ ဥရောပနှင့်အာဖရိက ကျောက်ခေတ်ဦးတို့၏ထူးခြားသော အမှတ်အသား ဖြစ်သည်။

ဤအနောက်ဒေသ ကျောက်ခေတ်ဦးနှင့်မတူသော အချက်မှာ မြန်မာနိုင်ငံနှင့်အရှေ့တောင်အာရှတွင် လက်နက်ကိုင် ကျောက်ပုဆိန်မျိုး မရှိခဲ့ခြင်းပင် ဖြစ်သည်။

## ကျောက်ခေတ်ဦး ယဉ်ကျေးမှု

ကျောက်ခေတ်ဦးတွင် မြန်မာနိုင်ငံ၌ အညာသီယန်(အညာသား)ယဉ်ကျေးမှု စတင်ခဲ့၏။ ထိုခေတ်လူတို့၏ဘဝရပ်တည်မှုအတွက် လှုပ်ရှားဆောင်ရွက်မှုများနှင့်ယဉ်ကျေးမှုအခြေအနေကို ဆိုရာ၌ ထိုခေတ် လူတို့ အသုံးပြုခဲ့

1. Soan

သောကျောက်လက်နက်ပစ္စည်းတို့ကိုသာလျှင် အထောက်အထားပြု၍ ခန့်မှန်းဖော်ပြနိုင်ပေမည်။ များသောအားဖြင့် ထင်မြင်ယူဆချက်တို့ကို ချင့်ချိန်ပြုလုပ်၍သာ ဆိုနိုင်ပေမည်။

## အစာရှာဖွေ စုဆောင်းရသည့် စီးပွားရေးဘဝ

လူတို့သည် အစာကို ရှာဖွေစုဆောင်းနိုင်သည့်အဆင့်တွင်သာ ရှိကြသေးသည်။ အခြေတစိုက် နေထိုင်ခြင်းမရှိသေး။ လှည့်လည်သွားလာ၍ အသက်ရှင်နေထိုင်မှုကို လုံးပမ်းကြရသည်။ များပြားလှသော သဘာဝအန္တရာယ်အကြားတွင် သူတို့အမှီသဟဲ ပြုနိုင်သော အကူအညီတို့မှာ ကျောက်ကြမ်းလက်နက်များ မီးနှင့်ယဉ်ပါးလာသော ခွေးတို့လောက်သာ ရှိခဲ့ပေမည်။ ခေတ္တနားခိုရာတွင် မီးရှို့၍တောရှင်းခြင်း၊ သားရဲတိရစ္ဆာန်များကို ဝေးရာသို့နှင်ခြင်း၊ သစ်ပင်မြင့်များတွင် အသိုက်အအုံဖွဲ့၍ အိပ်ခြင်းတို့ကို ပြုခဲ့ရပေမည်။ ကျောက်ဂူများ၊ ကျောက်ဆောင်ရိပ်များမှာလည်း သူတို့ကွန်းခိုခဲ့ရာ နေရာများဖြစ်ပေမည်။

## အဝတ်အစား

ဝတ်စားဆင်ယင်မှုဟူ၍ကား ရှိဦးမည်မထင်။ ဝါးပင်၊ ကြံပင်၊ ကိုင်းပင်တို့ကဲ့သို့သော သဘာဝပေါက်အပင်တို့၏အသုံးကိုသာ သူတို့သိခဲ့ကြဟန်တူ၏။ သူတို့ပိုင်ဆိုင်၍ အမြဲတစေ ထိန်းသိမ်းထားရမည့် ပုဂ္ဂလိကပိုင်ပစ္စည်းမျိုးကား မရှိသေးဟု ဆိုနိုင်သည်။ သူတို့၏အသက်မွေးမှုမှာ အမဲလိုက်ခြင်း၊ သစ်သီးဝလံရှာဖွေစားသောက်ခြင်းတို့လောက်သာ ရှိခဲ့ပေမည်။ ထိုခေတ်လူတို့သည် အသားအပြင် သဖန်းသီး၊ တည်သီး၊ ငှက်ပျောသီး၊ ပိန်းဥ၊ မျောက်ဥ၊ မြက်သီးနှင့်မှိုနှင့်ကြံပင်၊ ပင်လယ်ကမ်းနှင့်ရေနားတွင် နေကြသူတို့သည် ငါး၊ ခရု၊ ယောက်သွား စသော ရေသတ္တဝါများနှင့်အုန်းသီးလောက်ကိုသာ စားသုံးခဲ့သည်ဟု ယူဆရ၏။

## လူနေမှုအဖွဲ့အစည်း

လိုအပ်လာလျှင် စုပေါင်းဆောင်ရွက်၍ ခွဲဝေစားသုံးကြသည်မှအပ သူတို့၏လူ့အဖွဲ့အစည်းမှာ အုပ်စုသဘောမျှသာ ရှိပေမည်။ အိမ်ထောင်သည်ဘဝ၊ မိသားစုဘဝဟူ၍ ရှိဟန်မတူပေ။ သူတို့၏ဘဝမှာ အလွန်ရှေးကျလှသော ဝိုင်းလုပ်ဝိုင်းစား ဘုံဘဝ၏အစဖြစ်သည်ဟု ဆိုနိုင်ပေသည်။

## ကုန်လုပ်ဆက်ဆံရေးနှင့်ယုံကြည်မှု

သူတို့၏ကုန်လုပ်ဆက်ဆံရေး၊ သူတို့၏ကုန်လုပ်ကရိယာနှင့်ကုန်လုပ်စွမ်းအားတို့မှာလည်း အထက်တွင် ဆိုခဲ့သည့်အတိုင်း ရိုးရိုးနှင့်ရှင်းရှင်းပင်ဖြစ်သည်။ ထူးခြားသော ယုံကြည်မှုလည်း ရှိဟန်မတူ။ အံ့ဘွယ်သရဲရှိ၍ ခန့်ညားကြီးမားသည့်ညောင်ပင်ကဲ့သို့သော အပင်ကြီးများကို ကြောက်ရွံ့လေးစားမှုကား စတင်ခဲ့ပေပြီဟု ယူဆရ၏။

ကျောက်ခေတ်ဦး၏ကာလအပိုင်းအခြားကို အတိအကျ မဆိုနိုင်သေးပေ။ ပလိုင်းစတိုးစီး[၁]ကပ်၏အလယ်ပိုင်းနှင့်အပေါ်ပိုင်းကာလတို့တွင် ပေါ်ပေါက်ခဲ့သည်ဟု ခန့်မှန်းကြ၏။

## ကျောက်ခေတ်လယ်

ကျောက်ခေတ်ဦးဖြစ်သော အညာသားယဉ်ကျေးမှုသည် မြန်မာနိုင်ငံတွင် ထောင်နှင့်ချီ၍ နှစ်ပေါင်းများစွာ ကြာညောင်းခဲ့၏။ ဘဝအတွေ့အကြုံတို့က သူတို့၏အသိကို တိုးတက်စေခဲ့သည်။ တီထွင်မှုကို ဖြစ်စေခဲ့သည်။ လူသည် ဘဝတည်မြဲရေးအတွက် အခြေအနေနှင့်ပတ်ဝန်းကျင်တို့နှင့်စပ်ဟပ်မိအောင် ပြုပြင်လာခဲ့ကြသည်သာ ဖြစ်ပေမည်။ ဤသို့ပြောင်းလဲမှုတို့သည် ဖြစ်ခဲ့၏။ ပြောင်းလဲမှုဆိုရာ၌ အဓိကပြောင်းလဲမှုမှာ ကုန်ထုတ်ကရိယာဖြစ်သော ကျောက်လက်နက်များ ပြောင်းလဲလာခြင်းဖြစ်သည်။

---

1. Pleistocene

လူ့ဘဝသည် ပို၍ထွေပြားလာသည်နှင့်အမျှ အသုံးပြုသော ကုန်ထုတ် ကရိယာသည်လည်း အသုံးအမျိုးမျိုးနှင့်ကိုက်ညီအောင် ပြောင်းလဲလာသည်။ ကျောက်လက်နက်တို့၏ပုံသဏ္ဌာန်၊ အသုံးနှင့်စွမ်းအားတို့သည် တိုးတက် ကောင်းမွန်လာခဲ့၏။ ယင်းသို့ပြောင်းလဲသည်နှင့်အမျှ လူတို့၏စီးပွားရေးဘဝ၊ လူမှုရေးဘဝသည်လည်း ပြောင်းလာသည်။ ဤသို့ဖြင့် ယဉ်ကျေးမှုသည်လည်း အသွင်သစ်ကို ဆောင်လာခဲ့ပေသည်။

ယင်းသို့ တိုးတက်လာသော သူတို့၏ခေတ်ကို 'ကျောက်ခေတ်လယ်' ဟုပညတ်ကြသည်။

## ပေါ်ပေါက်ခဲ့ရာဒေသများ

ကျောက်ခေတ်လယ်သုံး ကျောက်လက်နက်ပစ္စည်းများကို စူမာတြ ကျွန်း၊ ဖိလစ်ပိုင်ကျွန်း၊ မလေးကျွန်းစွယ်၊ ယိုးဒယားနိုင်ငံနှင့်မြောက်ဗီယက်နမ် နိုင်ငံတို့တွင် အထင်အရှား တွေ့ခဲ့ကြပြီးဖြစ်သည်။ တရုတ်ပြည်တောင်ပိုင်း၌ လည်း တွေ့ခဲ့ကြသည်။

## မိုင်းပွန်နယ်

မြန်မာနိုင်ငံတွင် ကျောက်ခေတ်လယ် အထောက်အထားများကိုတွေ့ ရပြီဟု အတိအကျ မဆိုနိုင်သေးပါ။ သို့သော် ရှမ်းပြည်တောင်ပိုင်း မိုင်းပွန် နယ် ကျောက်ဆောင်ရိပ်တခုအောက်တွင် ကျောက်လက်နက် အပိုင်းအစများ ကို တွေ့ခဲ့ရ၏။ ယင်းကျောက်လက်နက် အပိုင်းအစတို့မှာ ကျောက်ခေတ် လယ်လက်နက်တို့၏အပိုင်းအစဟု သမိုင်းမတင်မီခေတ် ပညာရှင်တို့က ယူဆ ကြသည်။ သို့ဖြစ်၍ ရှမ်းပြည်တောင်ပိုင်း မိုင်းပွန်နယ်ရှိ အဆိုပါ ကျောက် ဆောင်ရိပ်မှာ တချိန်က ကျောက်ခေတ်လယ်လူတို့ နေထိုင်သွားခဲ့ရာ ကွန်းခို ခဲ့ရာနေရာဟု ဆိုဘွယ်ရာရှိပေသည်။

## ဗီယက်နမ်နှင့်မလေးမှ အထောက်အထား

မြောက်ဗီယက်နမ်နိုင်ငံ ဟနွိုင်မြို့တောင်ဘက်ရှိ ဗက်စုံ[1]ဂူများ၊ ယင်းဂူများအနီးရှိ ဟိုအာဗင်း[2]ဂူများ၊ မလေးနိုင်ငံမြောက်ပိုင်း ပရက်နှင့်ပဟန်ဂူများတွင် တွေ့ရသော ကျောက်ခေတ်လယ်လက်နက်ပစ္စည်းတို့၏အထောက်အထားတို့မှာ ကျောက်ခေတ်လယ်လူတို့၏ဘဝနှင့်ယဉ်ကျေးမှုတို့ကို အတော်အတန် ခန့်မှန်းသိရှိရသည်။

အရှေ့တောင်အာရှတွင် ရှေးပဝေသဏီကပင် လူရေစီးကြောင်းများ စီးဆင်းခဲ့သည်ဟူသောမူအရ ကျောက်ခေတ်ဦးမှာကဲ့သို့ ကျောက်ခေတ်လယ်တွင်လည်း လူရေစီးကြောင်းတို့သည် စီးဆင်းခဲ့သည်ဖြစ်ရာ မြန်မာနိုင်ငံတွင် မတွေ့ရသေးလင့်ကစား ကျောက်ခေတ်လယ် ယဉ်ကျေးမှုသည် မြန်မာနိုင်ငံတွင်လည်း ပေါ်ပေါက်ခဲ့သည်ဟု ယူဆဘွယ်ရာရှိ၏။

## ကျောက်ခေတ်လယ် လူတို့၏အဆက်အနွယ်များ

မြောက်ဗီယက်နမ်ဗက်စုံဂူတွင်း အောက်ဆုံးအလွှာတွင် တွေ့ရသော ကျောက်ခေတ်လယ် လူတို့၏အရိုးစုတို့မှာ ယခုခေတ်နယူဂီနီကျွန်းရှိ မယ်လနီးရှင်း နီဂရိုးတို့၏အရိုးစုများနှင့်တူညီကြောင်း သုတေသီတို့က ဆိုသည်။ သို့ဖြစ်၍ ဤနယူးဂီနီမယ်လနီးရှင်းလူမျိုးတို့မှာ ကျောက်ခေတ်လယ်လူတို့၏အဆက်အနွယ်ဟု ယူဆရသည်။ အာသံနယ်နှင့်မြန်မာနိုင်ငံနယ်စပ်ရှိ ကုန်းမြင့်များတွင်လည်းကောင်း၊ အင်ဒမင်ကျွန်းတောင်ဘက်ရှိ နကဗာရီကျွန်းသားများတွင်လည်းကောင်း ဤမယ်လနီးရှင်းလူမျိုး၏အသွေးအရောင်နှင့်ကြန်အင်လက္ခဏာများပေါ်ထွန်းတတ်သည်ကို တွေ့ရ၏။ ဤသည်တို့ကလည်း ကျောက်ခေတ်လယ်လူတို့သည် မြန်မာနိုင်ငံတွင် နေသွားခဲ့ဘူးကြောင်းကို ထောက်ခံနေပေသည်။

---

1. Baeson
2. Hoa-binh

## နီဂရစ်တိုများ

လူမျိုးမနုဿဗေဒအရ ဤလူမျိုးကို နီဂရစ်တိုဟု ခေါ်သည်။ နီဂရစ်တို တွင် အရပ်ရှည်သူ အရပ်ပုသူဟု နှစ်မျိုးရှိသည်။ လူမျိုးမနုဿဗေဒပညာရှင် တို့က ပုသောနီဂရစ်တို(နီဂရစ်တိုနီဂရိုးလူပု)များသည် နီဂရိုးလူရှည်များထက် ပို၍စောသည်ဟု ဆိုကြ၏။ မယ်လနီးရှင်းတို့မှာ နီဂရိုးလူရှည်များ ဖြစ်ကြ၏။ ရှိနှင့်ပြီးသော ဩစတြေလွိုက်များနှင့်နီဂရစ်တိုတို့ သွေးနှောရာမှ မယ်လနီး ရှင်းများ ပေါ်ထွန်းလာခြင်းဖြစ်သည်ဟုဆိုကြသည်။ သို့ဖြစ်ရကား ကျောက် ခေတ်လယ်မှ ဆင်းသက်ပေါက်ဖွား၍ ယနေ့တိုင်ရှိနေသေးသော အခြားအ ဆက်အနွယ်တို့မှာ တကျွန်းခေါ် အင်ဒမင်ကျွန်းရှိ နီဂရိုးပုများ၊ မလေးကျွန်း ဆွယ်အလယ်ပိုင်းနေ ဆီမန်များ[၁] ကေလန်တန်နယ်ရှိ ပန်ဂန်[၂]များ၊ ဖိလစ် ပိုင်ကျွန်းရှိ အအီတ[၃]များ စသော နီဂရိုးလူပုများ ဖြစ်ကြသည်ဟုဆိုရပေမည်။ သူတို့၏ယနေ့ယဉ်ကျေးမှုအခြေအနေမှာလည်း ကျောက်ခေတ်လယ်ယဉ်ကျေး မှုအခြေအနေထက် များစွာသာလွန်ခြင်း မရှိသေးပေ။

## ကျောက်ခေတ်လယ်၏ကာလ

ကျောက်ခေတ်လယ်၏ရှေးအကျဆုံးအပိုင်းသည် ခရစ်မပေါ်မီနှစ် ၁၀၀၀၀-ခန့်တွင် စတင်ခဲ့ဟန်တူကြောင်း ပညာရှိတို့က ခန့်မှန်းကြသည်။

ထိုခေတ်လူတို့ အသုံးပြုခဲ့သော လက်နက်များ၊ အသုံးအဆောင် ပစ္စည်းများ၊ သူတို့မှ ဆင်းသက်သည်ဟုယူဆရသော ယခုခေတ်ရှိ မတိုးတက် သေးသော လူမျိုးစုတို့၏မူရင်းဝေါဟာရများ၊ ယင်းလူတို့၏ရှေးကျသော အလေ့ အထများကို အခြေပြု၍ ကျောက်ခေတ်လယ်လူတို့၏ဘဝကို ခန့်မှန်းသိရှိနိုင် ပေသည်။

---

1. Semang 2. Pangan 3. Aeta

## စီးပွားရေးဘဝ

ကျောက်ခေတ်လယ်လူတို့သည် ကျောက်ခေတ်ဟောင်းလူတို့ကဲ့သို့ပင် အခြေတစိုက်နေကြခြင်း မရှိသေးပေ။ များသောအားဖြင့် လှည့်လည်သွားလာနေသူများ ဖြစ်သည်။ ကျောက်ခေတ်ဟောင်းလူတို့ကဲ့သို့ပင် အစားအစာကို ရှာဖွေစုဆောင်းသည့်စီးပွားရေးဘဝ၌ရှိနေ၍ အမဲလိုက်ခြင်း၊ ရေသတ္တဝါများကို ဖမ်းဆီးခြင်း၊ သစ်သီးသစ်ဥနှင့်အသီးအနှံများကို ရှာဖွေစုဆောင်းခြင်းဖြင့် အသက်မွေးကြသည်ဟု သာမန်အားဖြင့် ဆိုရန်ရှိသော်လည်း ဟိုအာဗင်းဂူတွင် တွေ့ရသော ကျောက်ခေတ်လယ်အထောက်အထားတို့က ထိုလူတို့သည် အစာစုဆောင်းရသည့်ဘဝကို ကျော်လွန်စပြုကာ အခြေစိုက်နေထိုင်ခြင်းနှင့်တိရစ္ဆာန်များကို ယဉ်ပါးအောင် မွေးမြူခြင်းတို့ကို စတင်နေပြီဟု ယူဆရန်ရှိပေသည်။

## လူနှင့်နီးစပ်သော သတ္တဝါများ

ယဉ်ပါးသောခွေးတို့မှာ သူတို့၏အဖော်ဖြစ်၏။ ကျောက်ခေတ်လယ်လူတို့၏အဆက်အနွယ်ဖြစ်သော ဆီမန်တို့၏ယဉ်ကျေးမှုဆိုင်ရာ မူရင်းဝေါဟာရတို့ကို ဘာသာဗေဒနည်းအရ ဆန်းစစ်ကြည့်သောအခါ ကျောက်ခေတ်လယ်လူတို့နှင့်နီးစပ်နေပြီဖြစ်သော သက်ရှိသတ္တဝါတို့မှာ ဝက်ဝံ၊ ဝက်၊ ရှဉ့်၊ ဖွတ်၊ ဖား၊ မြွေ၊ ငှက်၊ ယင်၊ ငါး စသည်တို့ဖြစ်ကြောင်း သိရ၏။ မလေးကျွန်းဆွယ်အလယ်ပိုင်းရှိ ကျောက်ခေတ်လယ်လူတို့၏ဂူများတွင် ခရု၊ ယောက်သွားခွံများ၊ ဆင်၊ ကြံ့၊ စိုင်၊ သမင်၊ တောင်ဆိတ်၊ ဝက်၊ ဖြူ၊ ရှဉ့်၊ မျောက်၊ ကုန်းလိပ်၊ ရေလိပ်စသည့်သတ္တဝါတို့၏အရိုးများ၊ ငါးရိုးနှင့်ကြွေစေ့များကို တွေ့ရခြင်းဖြင့်လည်း ကျောက်ခေတ်လယ်လူတို့၏ဘဝ၊ သတ္တလောကနှင့်ဆက်သွယ်နေပုံတို့ကိုလည်း ခန့်မှန်းနိုင်ပေသည်။

## အစားအစာ

ကျောက်ခေတ်လယ်လူတို့တွင် ဂူကို အမှီပြုသော လူများရှိသည်။ လွင်ပြင်ကို အမှီပြုသော လူများလည်း ရှိသည်။ ပင်လယ်ကမ်းခြေကို အမှီပြုသောလူများလည်း ရှိသည်။ သူတို့နေထိုင်ရာဒေသကိုလိုက်၍ သူတို့၏ဘဝတွင် ကွာခြားချက်များရှိသည်။ အစားအစာတွင်လည်း ကွဲပြားကြသည်။ အထက်တွင်ဆိုခဲ့သောယဉ်ကျေးမှုဆိုင်ရာ မူရင်းဝေါဟာရများအရ သူတို့သည် သားကောင်တို့၏အသားများအပြင် သစ်သီးဝလံအမျိုး အတော်များများကို စားသုံးတတ်ကြောင်း သိနိုင်၏။ မလေးကျွန်းဆွယ်ဘက်တွင် နေကြသူတို့၏အစားအစာတို့မှာ သားငါးအပြင် မြက်မျိုးတို့မှ အစေ့အဆံများ၊ မျောက်ဥ၊ ငှက်ပျောသီး၊ အုန်းသီးတို့ဖြစ်သည်။ သူတို့သည် ဆားကိုလည်း သုံးစွဲတတ်ကြပြီဖြစ်သည်။

## အိုးလုပ်ငန်းနှင့်ချက်ပြုတ်စားသောက်မှု

အိုးထိန်းစက်အသုံးကို မသိသေးသော်လည်း လက်လုပ်အိုးများကို ပြုလုပ်တတ်ကြသည်။ ကြိုးမျှင်များကို အသုံးပြု၍ အစင်းအကြောင်းလေးဒေါင့်ကွက်စသည်ဖြင့် အိုးအပြင်ဘက်ပိုင်းကို အလှအပ ပုံဖော်ထားတတ်ကြသည်။ သူတို့သည် အစားအစာကို အိုးဖြင့် ချက်ပြုတ်စားတတ်ကြပြီဟု ယူဆဘွယ်ရှိပေသည်။ ထိုအိုးများနှင့်ဂူတွင်းမီးဖိုနေရာများက ဤအချက်ကို ထောက်ခံနေပေသည်။

## ကုန်ထုတ်ကရိယာများ

ကျောက်ခေတ်လယ်လူတို့သည် ကျောက်ခေတ်ဟောင်းလူတို့ထက် အသိနှင့်အတတ်တွင် တိုးတက်လာကြပြီးဖြစ်သည်။ သူတို့၏ကုန်ထုတ်ကရိယာများမှာ ကျောက်လက်နက်များပင် ဖြစ်သော်လည်း ကျောက်ခေတ်ဟောင်းမှာကဲ့သို့ ကျောက်ကြမ်းလက်နက်များ မဟုတ်တော့ပေ။ ပုံဖော်ထားသော ကျောက်လက်နက်များဖြစ်သည်။ ကျောက်များကို ဆတ်၍ခွာခြင်းဖြင့် လက်နက်၏ပုံ

သဏ္ဌာန်ကို ဖန်တီးယူကြသည်။ သွေး၍အချောကိုင်ထားသည့် လက်နက်မျိုး မဟုတ်သေးသည့်တိုင်အောင် အတန်ပင်ပုံကျ၍ သပ်ရပ်ပေသည်။ လက်စသတ်မှုမျိုးရှိသည်ကို တွေ့ရ၏။

## လေးမြား၏အစ

အသုံးများသော စဉ်းခေး၊ ပဲကွပ်စသည်တို့အပြင် လုံသွားများ၊ မြားသွားများကိုလည်း ကျောက်များဖြင့် ပြုလုပ်နိုင်ကြလေသည်။ ကျောက်ခေတ်လယ်သို့ရောက်သောအခါ အရှေ့တောင်အာရှလူတို့သည် လေးနှင့်မြားကို သုံးစွဲတတ်ကြပြီဟု ဆိုနိုင်ပေသည်။ သူတို့၏အနွယ်အဆက်ဖြစ်သော အင်ဒမင်ကျွန်း နီဂရိုးလူပုတို့မှာ လေးနှင့်မြားကို တီထွင်သူများဟု ပညာရှင်တို့ယူဆကြသည်။

## ဝတ်ဆင်မှု

ဆီမန်လူမျိုး၏ယဉ်ကျေးမှုမူရင်းဝေါဟာရတွင် ကိုယ်တုံးလုံးနှင့်ခါးစည်းဟူသော ဝေါဟာရနှစ်ခုကို တွေ့ရသည်။ ဤဝေါဟာရများအားဖြင့် ထိုခေတ်လူတို့သည် ကိုယ်တုံးလုံးမနေခြင်းနှင့်ကိုယ်တုံးလုံးနေခြင်းကို ခွဲခြားသိခဲ့ပြီဟု ဆိုရပေမည်။ ဤသည်ကို ထောက်၍ ကျောက်ခေတ်လယ်တွင် လူတို့သည် ကိုယ်တုံးလုံးနေသည့်ဘဝကို စွန့်လွှတ်ရန် စတင်ခဲ့ကြပြီဟုဆိုနိုင်၏။ သို့သော် အဝတ်အစားဝတ်ကြပြီဟုကား မဆိုနိုင်သေးပေ။ သူတို့သည် အရှက်ကို ဖုံးနိုင်ရန် ပေါင်ချိန်ဖုံးသည့်အသိုင်းမျိုး သိုင်းဆင်ခြင်းလောက်သာ ပြုခဲ့သည်ဟုဆိုရပေမည်။ သူတို့၏အဆက်အနွယ်များဖြစ်ကြသော ဆီမန်များနှင့် ကပ္ပလီလူပုများက ဤအချက်ကို လက်တွေ့ထောက်ခံနေပေသည်။ ကိုယ်တကိုယ်လုံးကို အလှအပ တန်ဆာဆင်သောအားဖြင့် ထိုခေတ်လူတို့သည် ကပ္ပလီလူပုများကဲ့သို့ အရောင်ရှိသော ရွှံ့များဖြင့် ကိုယ်ကို အစင်းကြောင်းပေါ်အောင် လိမ်းခြယ်ခြင်းမျိုးကို အခါအားလျော်စွာ ပြုလုပ်ကောင်း ပြုလုပ်ခဲ့ကြပေမည်။

ကြွေစေ့များ၊ ခရုခွံများကိုဖောက်၍ သီကုံးကာ ကိုယ်တွင် အလှအပ ဆွဲခဲ့ကြခြင်းလည်း ရှိသည်ဟု ဆိုနိုင်သည်။ ထိုရှေးလူတို့ နေထိုင်ခဲ့သော မလေးကျွန်းဆွယ်မြောက်ပိုင်း ဂူတို့တွင် ယင်းသို့ကြိုးဖြင့်သီရန် ဖောက်ထားသော ကြွေစေ့များ၊ ခရုခွံများကို တွေ့ခဲ့ကြရပေသည်။

## ကွမ်းစားဓလေ့

ကျောက်ခေတ်လယ်လူတို့သည် ကွမ်းရွက်ကို ကောင်းစွာ သိနေကြပြီဖြစ်၏။ သို့သော် အလွန်ရှေးကျသော ကွမ်းစားဓလေ့သည် ထိုခေတ်က ပေါ်ပေါက်နေပြီဟုကား မဆိုသာပေ။

## ယုံကြည်မှု

အစားအစာ စုဆောင်းရသည့် စီးပွားရေးဘဝ၌ပင် ရှိနေလင့်ကစား ကျောက်ခေတ်လယ်လူတို့၏ဘဝမှာ ကျောက်ခေတ်ဟောင်းမှာထက် တိုးတက်ခဲ့၏။ ဆန်းကျယ်လာခဲ့၏။ ယုံကြည်မှုတည်းဟူသော စိတ်ပိုင်းဆိုင်ရာ ခံယူချက်တို့လည်း တိုးတက်လာသည်။ ကျောက်ခေတ်ဟောင်းမှာကဲ့သို့ပင် ကြီးမားသော ညောင်ပင်များကို အလေးဂရုပြုကြရ၏။ ယင်းညောင်ပင်ကိုလည်း ဖွံ့ဖြိုးမှု၏အထိမ်းအမှတ်ဟု သဘောထားကြသည်။ ဤသဘောထားမှုမှာ လွန်စွာရှေးကျသည်။ ယခုခေတ်နီဂရိုးလူပုကလေးများ၏ဒေသတွင်သာမက ရှေးအခါက အိန္ဒိယ၊ အာဖရိက၊ ဥရောပနှင့်ပစိဖိတ်ကျွန်းများအထိ ဤအယူအဆ ပြန့်နှံ့ခဲ့ပေသည်။

## တမလွန်ယုံကြည်မှု

ထိုမှတပါး ဤလူတို့သည် တမလွန်ဘဝကိုလည်း ယုံကြည်ခဲ့ကြဟန်တူ၏။ သေသူကို လေးစား၍ အလောင်းကို တရိုတသေမြှုပ်နှံသည့်ဓလေ့ရှိကြသည်။ အထက်တွင် ဆိုခဲ့သော ထိုလူတို့နေထိုင်ခဲ့ရာ မလေးကျွန်းဆွယ်ဂူတို့တွင် မီးဖို၏အောက်၌ လူရိုးများကို တွေ့ရှိခဲ့ပေသည်။ သေသူကို နေထိုင်

ရာဒေသ၏အပတွင် မမြှုပ်ပဲ အိမ်တွင်း၌ မြှုပ်နှံခြင်းမှာ သေသူ၏ဝိညာဉ်အား အိမ်တွင်း၌ နေစေလိုသည့်သဘော၊ အထူးသဖြင့် မီးဖိုအောက်၌ မြှုပ်နှံခြင်းမှာ စားသောက်ကြသောအခါတွင် တပါတည်းဝင်ရောက်စားစေလိုသော သဘောမျိုးဖြစ်ပေသည်။ ယခုခေတ်တိုင်အောင် ပြည်ထောင်စုကုန်းမြင့်သားအချို့တွင် သေသူအိမ်သားကို အိမ်တွင်း၌ပင် မြှုပ်နှံသည့်ဓလေ့ ရှိနေပေသေးသည်။

## လူ့အဖွဲ့အစည်း

သာမန်အားဖြင့် လှည့်လည်သွားလာ၍ ဝမ်းကြောင်းမှုပြုသောသူများပင် ဖြစ်လင့်ကစား ဂူများတွင် ကွန်းခို၍ မြေအိုးများဖြင့် ချက်ပြုတ်စားတတ်ကြခြင်း၊ သေသူကို မီးဖိုအောက်တွင် မြှုပ်နှံခြင်းတို့ကို ထောက်၍ ကျောက်ခေတ်လယ်လူတို့သည် စုစုစည်းစည်း နေထိုင်သည့်လူမှုအဖွဲ့အစည်းများကို စတင်လာကြပြီဟု ဆိုရပေမည်။ အိမ်ထောင်သည် သို့မဟုတ် မိသားစုဘဝမျိုးကို အစပြုလာပြီဟု ယူဆဘွယ်ရာ၏။

## မြန်မာနိုင်ငံ ကျောက်ခေတ်လယ်

ရှမ်းပြည်တောင်ပိုင်း မိုင်းပွန်နယ်တွင် ကျောက်ခေတ်လက်နက် အပိုင်းအစများကို တွေ့ရခြင်း၊ ပြည်ထောင်စု ကုန်းမြင့်သားအချို့တို့တွင် ကျောက်ခေတ်လယ်လူတို့၏ကြွင်းအင်လက္ခဏာများ ပေါ်ထွန်းတတ်ခြင်းတို့လောက်ကိုသာ အထောက်အထားပြု၍ ပြည်ထောင်စုအတွင်း၌ ကျောက်ခေတ်လယ်လူများနှင့် ယဉ်ကျေးမှု ရှိခဲ့သည်ဟု သာမန်အားဖြင့် ဆိုနိုင်ခြင်း ဖြစ်ပါသည်။ ကျောက်ခေတ်လယ်လူတို့ နေထိုင်ခဲ့ရာ နေရာများကို စနစ်တကျ ရှာဖွေ၍ သမိုင်းမတင်မီခေတ် ရှေးဟောင်းသုတေသနနည်းအရ လေ့လာသုတေသနပြုနိုင်သောအခါတွင် ပြည်ထောင်စု၏ကျောက်ခေတ်လယ် ယဉ်ကျေးမှုကို ပိုမို ထင်ရှားစွာ ထုတ်ဖေါ်ပေးနိုင်မည် ဖြစ်ပေသည်။

## တိုးတက်ပြောင်းလဲလာသော ယဉ်ကျေးမှုအသစ်

ကျောက်ခေတ်လယ်လူတို့ နေခဲ့ရာ ဇက်စုံဂူများနှင့်မလေးကျွန်းဆွယ် ပဟာန်ဂူများတွင် ကျောက်ခေတ်လယ် ကျောက်လက်နက်နှင့်ပစ္စည်းများတွေ့ ရှိရာ မြေလွှာ၏အထက်ပိုင်းတွင် ကောင်းစွာသွေး၍ ပုံဖော်ထားသော ကျောက် ချောလက်နက်ပစ္စည်းများကို တွေ့ရှိရသည်။ ဤကဲ့သို့ ချောမွေ့သပ်ရပ်စွာ ပုံ ဖော်ထားသော ကျောက်လက်နက်တို့မှာ ကျောက်ခေတ်သစ်လက်နက်များ ဖြစ် သည်။ တနေရာတည်းတွင် ကျောက်ခေတ်နှစ်ခေတ်မှ လက်နက်များတွေ့ရ သည်ကို ထောက်၍ ကျောက်ခေတ်လယ်လူတို့သည် တဖြည်းဖြည်းနှင့်ကျောက် ခေတ်သစ်သို့ တိုးတက်ကူးပြောင်းခဲ့ကြသလော၊ သို့မဟုတ် ကျောက်ခေတ်လယ် လူတို့ နေထိုင်ရာသို့ ကျောက်ခေတ်သစ်လူများ ရောက်ရှိကြီးစိုးလာကြသလော ဟု တွေးတောဘွယ်ရာ ရှိပေသည်။

ကျောက်ခေတ်ဦးလူတို့သည် ယဉ်ကျေးမှုကို စတင်ပေးခဲ့၏။ ကျောက် ခေတ်လယ်လူတို့က ပိုမိုတိုးတက်ဆန်းကျယ်စေခဲ့သည်။ ကုန်လုပ်ကရိယာများ တိုးတက်ကောင်းမွန်လာသော်လည်း ကုန်လုပ်ဆက်ဆံမှုတည်းဟူသော လူတို့ ၏စီးပွားရေးစနစ်တွင်မူ ထူးခြားသိသာလောက်သော ပြောင်းလဲမှုမျိုး မဖြစ် ပေါ်သေးပေ။

## ရှေးဦးဘုံလူနေမှုစနစ်

ကျောက်ခေတ်လယ်လူတို့၏လူမှုရေးနှင့်စီးပွားရေးဘဝတွင် ပုဂ္ဂလိက ပိုင်ဆိုင်မှု မပေါ်ပေါက်သေးပေ။ ဤလူတို့၏ဘဝသည် ကျောက်ခေတ်ဟောင်း မှာကဲ့သို့ ‘ရှေးဦးဘုံ လူနေမှုစနစ်’ပေါ်တွင်သာ မူတည်ဆဲ ရှိပေသည်။

ထူးခြားစွာ ပြောင်းလဲလာသော လက်နက် ကရိယာ၊ ကုန်လုပ်စွမ်း အား၊ ကုန်လုပ်ဆက်ဆံမှုနှင့်စီးပွားရေးစနစ်၊ ယင်းတို့ကို အကြောင်းပြု၍ ပြောင်း လဲတိုးတက်လာသောယဉ်ကျေးမှုတို့ကို ကျောက်ခေတ်သစ်တွင်တွေ့ရပေသည်။

## ကျောက်ခေတ်နှောင်းလူတို့၏အခြေအနေ

ကျောက်ခေတ်ဦးတွင် လူသည် ကျောက်ကြမ်းလက်နက်၊ မီး၊ ယဉ်ပါးလာသော ခွေးတို့လောက်ကိုသာ အမှီသဟဲပြု၍ အစုလိုက် လှည့်လည်နေခဲ့ကြောင်း၊ အခြေတစိုက် မနေခဲ့၊ မိသားစုဘဝရှိဟန်မတူ။ သစ်သီး သစ်ဥ သားကောင်များကို စုပေါင်းရှာဖွေ စုပေါင်းခွဲဝေ စားသောက်ရသည့် ရှေးဦး ဘုံလူနေမှုစနစ်တွင် ရှိခဲ့ကြောင်း၊ ကျောက်ခေတ်လယ်သို့ရောက်သော် လှည့်လည်၍ အစာရှာရသည့်စီးပွားရေးဘဝ၌ပင် ရှိလင့်ကစား အခြေစိုက်နေထိုင်မှုနှင့်အစားအစာ ထုတ်လုပ်သည့်စီးပွားရေးဘဝသို့ ရွေ့ရှုနေပြီဖြစ်ကြောင်းကို ဆိုခဲ့ပြီးဖြစ်ပေသည်။

## ရှေးအကျဆုံးသော ကုန်ပစ္စည်းထုတ်လုပ်မှုတော်လှန်ရေး

ကျောက်ခေတ်ဟောင်းလူတို့၏ရှေးဦးဘုံလူနေမှုစနစ်သည် ဘစီ ၁၀၀၀၀-ခန့်အထိလည်းကောင်း၊ ကျောက်ခေတ်လယ်၏ရှေးဦးဘုံလူနေမှုစနစ်သည် ဘီစီ ၃၀၀၀-ခန့်ထိလည်းကောင်း အသီးသီး တည်ခဲ့သည်ဟု ယူဆကြပေသည်။ ထိုဘီစီ ၃၀၀၀-လောက်မှစ၍ အရှေ့တောင်အာရှဒေသလူနေမှုစနစ်နှင့်ကုန်လုပ်ဆက်ဆံရေးစနစ်တို့သည် ထူးခြားစွာ ပြောင်းလဲလာခဲ့ပေသည်။ ဤဒေသလူတို့၏ကုန်လုပ်ဆက်ဆံရေး သမိုင်းတွင် ရှေးအကျဆုံးသော ကုန်ပစ္စည်းပြုလုပ်မှု တော်လှန်ရေးဖြစ်ခဲ့သည်ဟု ဆိုနိုင်သည်။

## ပြောင်းလဲလာသော ကုန်လုပ်ဆက်ဆံရေးနှင့်လူနေမှုဘဝ

ရှေးခေတ်ဟောင်းကာလက ကုန်လုပ်ကရိယာများ ထူးခြားစွာပြောင်းလဲလာသည်နှင့်အမျှ ကုန်ထုတ်လုပ်မှုစနစ်၊ ကုန်လုပ်ဆက်ဆံရေးတို့သည်လည်း ထူးခြားစွာ ပြောင်းလဲလာခဲ့သည်။ ဤပြောင်းလဲမှုကို အခြေပြု၍ လူနေမှုဖွဲ့စည်းပုံ၊ လူမှုရေးယဉ်ကျေးမှု စသည်တို့သည်လည်း ပြောင်းလာခဲ့၍ လူ့သမိုင်းတွင် လူတို့သည် ကဏ္ဍသစ်တရပ်ကို ဖွင့်နိုင်ခဲ့ပေသည်။

မည်ကဲ့သို့သော တိုးတက်ကောင်းမွန်သည့်ကုန်ထုတ်ကရိယာများကို လူတို့သည် တီထွင် ပြုလုပ်လာခဲ့သနည်း။ ယင်းတို့ကို အကြောင်းပြု၍ ကုန်လုပ်ဆက်ဆံရေးနှင့်လူမှုရေးဘဝတို့သည် မည်သို့ပြောင်းလဲလာခဲ့သနည်း။

## ကျောက်ခေတ်နှောင်း အစောပိုင်း

ဤပြောင်းလဲမှုတို့သည် ရုတ်ခြည်းပေါ်ပေါက်ခဲ့သည်မဟုတ်။ အထူးသဖြင့် မြန်မာနိုင်ငံတွင် အချိန်ကြာမြင့်စွာ ဖြစ်ပေါ်ပြောင်းလဲခဲ့ရသည်။ စနစ်တကျလေ့လာပြီးဖြစ်သော ကျောက်ပန်းတောင်း မီးရထားဘူတာရုံ တောင်ဘက်အနီးနှင့်မကွေးညောင်ဦးစပ်ကြား ကျောက်ခေတ်သစ်စခန်းတို့တွင် တွေ့ရသော အထောက်အထားများအရ ကျောက်ခေတ်နှောင်း အစောပိုင်းတွင်

သုံးခဲ့သည့် ကျောက်လက်နက်ပစ္စည်းတို့၏အသွင်သဏ္ဍာန်တို့မှာ ချောမွေ့ခြင်း မရှိလှသေး၊ အတော်အတန်ပင် ကြမ်းနေသည်ကို တွေ့ရ၏။ အသွားဖေါ်နည်း နှင့်ကျောက်အလွှာ ခွာနည်းတို့တွင် တီထွင်မှုများရှိလာသဖြင့် ကျောက်လက် နက်တို့မှာ သိသိသာသာ သေးငယ်လာပေသည်။ အင်ကြင်းကျောက်ကို ပြု လုပ်ထားသော ကျောက်လက်နက်တို့မှာမူ အသွင်ပြောင်းလဲမှု အနည်းငယ် သာ ရှိပေသည်။ ဤသို့ပုံမကျသေးသော ကျောက်ခေတ်နှောင်း အစောပိုင်း လက်နက်တို့နှင့်အတူ သွေး၍ ကျနစွာ ပုံဖေါ်ထားသော ကျောက်ချောလက် နက်များနှင့်အစင်းကြောင်းများ၊ ဖျာရာပုံများပါသော အိုးခြမ်းကွဲတို့ကိုပါ ဤ ကျောက်ခေတ်နှောင်းစခန်းတို့တွင် တွေ့ရသဖြင့် အစောပိုင်းကာလ ယဉ်ကျေး မှုသည် နောက်ပိုင်းကာလ ယဉ်ကျေးမှုအဖြစ်သို့ တဖြည်းဖြည်း ပြောင်းလဲလာ သည်ဟု ဆိုနိုင်ပေသည်။

## ကျောက်ခေတ်နှောင်း နောက်ပိုင်း

ကျောက်ခေတ်နှောင်း နောက်ပိုင်းလူတို့ အသုံးပြုခဲ့သော ကျောက် ချောလက်နက်များကို မြန်မာနိုင်ငံအနှံ့အပြားတွင် မြေပေါ်၌ပင် သာမန်အား ဖြင့် တွေ့ခဲ့ရပေသည်။ မြစ်ကြီးနားခရိုင် တြိဂံဒေသ၊ ရွှေဘိုခရိုင်၊ မုံရွာခရိုင်၊ မန္တလေး၊ ကျောက်ဆည်၊ ရမည်းသင်း၊ မကွေး၊ သရက်၊ ပြည်၊ မော်လမြိုင် စ သည့်ခရိုင်တို့တွင် အတော်များများ တွေ့ခဲ့ရပြီးဖြစ်သည်။ ကျောက်မာအမျိုး မျိုး ပြုလုပ်ထား၍ ပုံသဏ္ဍာန်အဖုံဖုံ အရောင်အသွယ်သွယ်ရှိသော လက်နက် များဖြစ်သည်။ ယင်းတို့ကို ဆေးဘက်ဝင်သော မိုးကြိုးသွားများဖြစ်သည်ဟု အချို့သောသူတို့က ယုံကြည်စွာ အသုံးပြုခဲ့ကြသည်။

## အစွမ်းထက်သော လက်နက်များ

ဤကျောက်လက်နက်များမှာ သွေး၍ ပုံဖေါ်ထားသောလက်နက်များ ဖြစ်၍ ချောမွေ့လှသည်။ လက်ကိုင်ရိုးတပ်ရန် အမင်းဖေါ်ထားသည်လည်း ရှိသည်။ အမင်းမပါသည်လည်း ရှိ၏။ အသွားဖေါ်ရာတွင် ပုဆိန်သွားကဲ့သို့ ၂-ဖက်သွေး၍ အသွားဖေါ်ခြင်းမျိုးမရှိ။ ဆောက်သွားကဲ့သို့ မျက်နှာတဖက်ကို

သာ သွေး၍ အသွားဖေါ်ထားသည်။ ဤအချက်မှာ ထူးခြားသည်။ ဤထူးခြားချက်မှာ ဥရောပနှင့်အိန္ဒိယကျောက်ခေတ်နှောင်း လက်နက်တို့နှင့်မတူသည့် ထူးခြားချက်ဖြစ်သည်။ ထိုဒေသ ကျောက်ခေတ်နှောင်း လက်နက်တို့တွင် ၂-ဖက်သွေး၍ အသွားဖေါ်ထားသော လက်နက်အများ ပါဝင်သည်။

တွေ့ရပြီးဖြစ်သော မြန်မာနိုင်ငံကျောက်ခေတ်နှောင်း လက်နက်တို့မှာ ယေဘုယျအားဖြင့် အရွယ်သေးသည်။ အရွယ်ကြီးသော လက်နက်များလည်း ရှိသည်။ အမင်းမဲ့လက်နက်တို့တွင် အကြီးဆုံးမှာ $၇\frac{၁}{၂}$ လက်မရှည်သည်။ အငယ်ဆုံးမှာ $၁\frac{၇}{၈}$လက်မသာရှည်၏။ အမင်းရှိလက်နက်တို့တွင် အကြီးဆုံးမှာ $၁၁\frac{၃}{၄}$ လက်မရှည်၍ အနည်းဆုံးမှာ ၂-လက်မ ရှည်သည်။ အရွယ်အစားစားပုံသဏ္ဍာန်အမျိုးမျိုးရှိသည့်အလျောက် ယင်းလက်နက်တို့၏အသုံးမှာလည်း ထွေပြားလှသည်။ သစ်ပင်ခုတ်လှဲရာ၊ သစ်ခွဲရာ၊ အိမ်ဆောက်ရာ၊ လှေထွင်းရာတို့တွင်သုံးသော လက်သမားလက်နက်များ၊ မြေထွန်ရာ၊ မြေတူးရာ၊ မြောင်းဖောက်ရာစသည်တို့တွင် သုံးသော တောင်သူလယ်သမားသုံး လက်နက်များ၊ ခုတ်ရာ၊ ထိုးရာ ပစ်ခတ်ရာတို့တွင်သုံးရသော မုဆိုးလက်နက်များ၊ သာမန်အိမ်ထောင်သုံး လက်နက်များမှစ၍ ထိုခေတ်လူနေမှုဘဝအတွက် အဖက်ဖက်မှဝင်ဆံ့အသုံးကျသော လက်နက်ပစ္စည်းများ ပါဝင်ပေသည်။

## စီးပွားရေးစနစ် ပြောင်းလဲချက်

ဤကဲ့သို့ ပိုမိုစွမ်းအား ထက်မြက်လာသည့် ကုန်ထုတ်လက်နက်ကရိယာများကို ပိုင်ဆိုင်သော ကျောက်ခေတ်နှောင်းလူတို့၏ဘဝတွင် ထူးခြားသော ပြောင်းလဲချက် ၃-ရပ်ကို တွေ့ရ၏။

(က) အစားအစာ ရှာဖွေစုဆောင်းရသည့် စီးပွားရေးဘဝကို ကျော်လွန်ကာ အစားအစာကို ထုတ်လုပ်နိုင်သည့်စီးပွားရေးဘဝသို့ ရောက်လာခဲ့ကြ၏။
(ခ) ထိုသို့အစားအစာနှင့်လူသုံးပစ္စည်းများကို ထုတ်လုပ်ကြရာတွင်လည်း တဦးတည်းပိုင်ထုတ်လုပ်ခြင်းမျိုးထက် စုပေါင်းထုတ်လုပ်ကြခြင်း၊ စုပေါင်းစားသောက်ကြခြင်းတို့ကို ပြုလုပ်သည့်စီးပွားရေးစနစ်ကို ကျင့်သုံးကြ၏။ ထိုစနစ်

ကို 'သမိုင်းဦးဘုံမြေစနစ်'ဟုခေါ်သည်။
(ဂ) ထုတ်လုပ်သည့်ပစ္စည်းတို့တွင် အဓိကမှာ လူတို့စားသုံးရန်ဖြစ်သော အသီးအနှံများဖြစ်သည်။ ယင်းတို့ကို တောင်ကုန်းများပေါ်တွင် တောင်ယာစနစ်ဖြင့် စိုက်ပျိုးကြ၍ မြေပြန့်တွင် လယ်ယာစနစ်ဖြင့် စိုက်ပျိုးကြသည်။ အထူးသဖြင့် မိုးကောင်းလယ်များ၊ ဆည်ရေသောက်လယ်များတွင် စပါးကို စတင်စိုက်ပျိုးလာကြပြီဖြစ်သည်။

## မုဆိုး၊ တောင်ယာသမား၊ လယ်ယာသမား

စားကုန်ပစ္စည်းထုတ်လုပ်တတ်သည့်အဆင့်သို့ ရောက်သော်လည်း မုဆိုးအလုပ်သက်သက်ဖြင့်လည်းကောင်း၊ မုဆိုးလုပ်ငန်းနှင့်စိုက်ပျိုးမှု၊ မွေးမြူမှုလုပ်ငန်းကို ပူးတွဲဆောင်ရွက်ခြင်းဖြင့်လည်းကောင်း၊ စိုက်ပျိုးခြင်း၊ မွေးမြူခြင်းဖြင့်သာလည်းကောင်း အသက်မွေးကြသူများ ရှိခဲ့ပေသည်။

## ကျောက်ခေတ်နှောင်းလူတို့၏လူမျိုးအနွယ်များ

ဤသို့သော အသက်မွေးမှုများ ရှိခဲ့သော ကျောက်ခေတ်နှောင်းလူတို့မှာ အများအားဖြင့် ဩစတြစ်ခေါ် တောင်ပိုင်းဘာသာစကား အနွယ်ကြီးဝင်စကားများကို ပြောသူများ ဖြစ်ကြသည်။ လူမျိုးနွယ်အားဖြင့် ရှေးကျသော တောင်ပိုင်းအနွယ်(ပရိုတိုဩစတြေလွိုက်)နှင့်မွန်ဂိုလွိုက်အနွယ်ဝင်များဖြစ်ကြသည်။ မွန်ဂိုလွိုက်အနွယ်ဝင်တို့သည် ပရိုတိုဩစတြေလွိုက် အနွယ်ဝင်တို့ထက် နောက်ကျသူများ ဖြစ်သည်။ ပို၍တိုးတက်သူများလည်း ဖြစ်သည်။ အားလုံးမှာ ဩစတြစ်ဘာသာစကား အနွယ်ကြီးဝင်များဖြစ်ကြ၍ ထိုခေတ် အာရှအရှေ့တောင်ပိုင်း လူတို့၏ယဉ်ကျေးမှုကို ဩစတြစ်ယဉ်ကျေးမှုဟုလည်း သမိုင်းမတင်မီခေတ် ပညာရှင်တို့ကခေါ်ဝေါ်ကြသည်။ ထိုစဉ်က ယနေ့လူမျိုးစုဖြစ်သော တိဗက် တရုတ်ဘာသာစကားအနွယ်ကြီးဝင်တို့ အရှေ့တောင်အာရှသို့ မရောက်ကြသေးပေ။

## အစောပိုင်း အလွှာမှ လူများ

ပရိုတိုဩစတြေလွိုက်များဖြစ်သော ကျောက်ခေတ်နှောင်း အစောပိုင်း အလွှာလူတို့သည် အစားအစာကို ထုတ်လုပ်တတ်ပြီဖြစ်သော်လည်း အဓိက အားဖြင့် အမဲလိုက်ခြင်း၊ တောင်ယာလုပ်ငန်းတို့ဖြင့်သာ အသက်မွေးကြသည်။ မလေးကျွန်းဆွယ်အလယ်ပိုင်း တောနက်အတွင်းနေ ဆကိုင်လူမျိုးစုများမှာ ထိုခေတ် ကုန်လုပ်ဆက်ဆံရေးဘဝ၌ပင် ရှိနေကြသေးသည်။ သူတို့၏လက်ရှိ ကုန်လုပ်ဆက်ဆံရေးနှင့်ယဉ်ကျေးမှုတို့ကို အထောက်အထားပြု၍ ကျောက် ခေတ်နှောင်းအစောပိုင်းအလွှာသူတို့၏ဘဝကို ပြန်လည်တည်ဆောက်ခြင်းပြု နိုင်ပေသည်။

### စိုက်ပျိုးမှု

သူတို့၏စိုက်ပျိုးမှုမှာ မကျယ်ပြန့်သေးပါ။ စုပေါင်းတောနက်မီးရှို့ခြင်း ဖြင့် တောင်ယာကို ရှင်းလင်းဖေါ်ထုတ်၍ စူးထိုးစိုက်ပျိုးသည့်စနစ်တွင်သာ ရှိကြသေးသည်။ တောင်ယာရွှေ့ရသည်နှင့်အမျှ ရွှေ့ပြောင်းနေထိုင်ကြရသဖြင့် အခြေတစိုက် နေထိုင်ခြင်း မရှိသေးဟုဆိုနိုင်၏။

### အစားအစာ

ဘာသာဗေဒ အထောက်အထားများအရ သူတို့စိုက်ပျိုးခဲ့သည်ဟု ယူဆနိုင်သော သီးနှံပင်တို့မှာ စပါး၊ ပြောင်း၊ ပဲကြီး၊ ပဲလွန်း၊ ခရမ်း၊ ကျောက်ဖရုံ၊ ပိန်းဉ၊ မျောက်ဉ၊ ကြံပင်စသည်တို့ ဖြစ်သည်။ ယင်းစိုက်ပျိုးသီးနှံများအပြင် အမဲလိုက်၍ရသော သားကောင်များမှာ သူတို့၏အစားအစာ ဖြစ်သည်။

### နေအိမ်

သူတို့၏နေအိမ်တို့မှာ သက်ငယ် သို့မဟုတ် ကိုင်းမြက်မိုးအိမ်များ ဖြစ်သည်။

## အဝတ်အထည်

လျှော်တေအဝတ်၊ ငှက်ပျောလျှော်အဝတ်တို့ကို မဲနယ်ဆိုး၍ ဝတ်တတ်ကြပြီဟု ယူဆရ၏။

## လက်နက်

လက်နက်တို့မှာ လေး၊ မြား၊ မှုတ်ပြောင်း၊ ဆိပ်လူးမြား၊ ပဲကွပ်၊ စဉ်းခားစသည်တို့ ဖြစ်ခဲ့ဟန်တူ၏။

## ပျော်ရွှင်မှု

ပလွေမှုတ်ခြင်း၊ သီဆိုခြင်း၊ ကခြင်းတို့ဖြင့် အနားယူပျော်ရွှင်ခဲ့သည်ဟု ဆိုနိုင်သည်။ ကွမ်းပင်၊ ကွမ်းသီးပင်တို့ကိုလည်း စိုက်ကြသည်။ ကွမ်းစားဓလေ့ကို သူတို့က စတင်ခဲ့ကြသည်ဟု တွေးထင်ရသည်။

## ပင်လယ်ကူးလှေ

သူတို့သည် မြစ်များတွင်သာမက ပင်လယ်တွင် သွားလာရန် အထိန်းပါသော လှေငယ်များကို တီထွင်သုံးစွဲခဲ့ကြသည်ဟု ဆိုနိုင်သည်။

## အထွေထွေနှင့်ယုံကြည်မှု

ရေတွက်ရာတွင် ၃ အထိသာ ရေတွက်နိုင်ကြ၏။ ၄ ကို ပြောလိုလျှင် အပေါင်း ၁၊ ၅ ဆိုလျှင် ၃ အပေါင်း ၂ စသည်ဖြင့် ရေတွက်ကြသည်။ အထိမ်းအမှတ်အဖြစ် ပြုလုပ်ထားသော တိုတမ်များကို ကိုးကွယ်ကြသည်။ တမလွန်ဘဝကိုလည်း ယုံသည်။ လူသေလျှင် တစ္ဆေသရဲဖြစ်သည်ဟု ယုံကြည်ကြသည်။

## ကျောက်ခေတ်နှောင်း အစောပိုင်းအလွှာလူများ

ကျောက်ခေတ်နှောင်း အစောပိုင်းအလွှာလူများမှ ဆင်းသက်၍ ယနေ့တိုင်အောင် ထိုခေတ်ယဉ်ကျေးမှုနှင့်ကုန်လုပ်ဆက်ဆံရေးများကို အထိုက်အလျောက် ဆက်လက်ကျင့်သုံးနေကြသူများမှာ ဆိုခဲ့သော ဆကိုင်များ၊ သီဟိုဠ်ကျွန်းရှိ ဗေဒ္ဒများဖြစ်ပေသည်။ မြန်မာနိုင်ငံတွင်းနေ ကယားများ၊ ဇရက်ကရင်များ၊ ဝများတွင် ပရိုတိုဩစတြေလွိုက်လူတို့၏ကြွန်အင်လက္ခဏာများ ပေါ်ထွန်းတတ်သည်ကို တွေ့ရသဖြင့် ထိုလူတို့၏ရှေးရှေးက ဘိုးဘွားကြီးတို့မှာ ကျောက်ခေတ်နှောင်း အစောပိုင်းအလွှာလူတို့၏အဆက်အနွယ်များဖြစ်သည်ဟု ဆိုဘွယ်ရာ ရှိပေသည်။

## ကျောက်ခေတ်နှောင်း နောက်ပိုင်းအလွှာလူများ
## ဘီလူးများ

ဤကျောက်ခေတ်နှောင်း နောက်ပိုင်းအလွှာလူများ၏အဆက်အနွယ်များ ယနေ့တိုင် အတော်များများ ရှိသည်။ မွန်ခမာဘာသာစကားများကိုပြောကြသော ဗီယက်နမ်နိုင်ငံ၊ အာနန် တောင်ရိုးနေ စကိုင်၊ မွိုင်ကဲ့သို့သော ကုန်းမြင့်သားများ၊ မဲခေါင်မြစ်ဝကျွန်းပေါ် မြောက်ပိုင်းရှိ ချင်းများ၊ မြန်မာနိုင်ငံမြိတ်ကျွန်းစုရှိ ဆလုံများမှာ ထိုခေတ် လူတို့၏အဆက်အနွယ်များ ဖြစ်သည်။

ရာဇဝင်ကျမ်းများနှင့်ဒန္တာရီ(ဒဏ္ဍာရီ)တို့တွင် လာရှိသောဘီလူးခေါ် လူကြမ်းများမှာ ဤလူများပင်လောဟု တွေးတောဘွယ်ရာ ရှိသည်။ ဤလူတို့မှာ လူမျိုးနွယ်အားဖြင့် တောင်ပိုင်း မွန်ဂိုလွိုက်များ မဟုတ်ကြပေ။

## ကျောက်ခေတ်နှောင်းအနွယ် တောင်ပိုင်းမွန်ဂိုလွိုက်များ

ဤခေတ်လူတို့၏အနွယ်အဆက်များဖြစ်သော တောင်ပိုင်းမွန်ဂိုလွိုက်များလည်း ရှိသည်။ ဤသူတို့မှာ မြန်မာနိုင်ငံနှင့်ယိုးဒယားနိုင်ငံရှိ မွန်များ၊ ကမ္ဘောဒီးယားနိုင်ငံ တိုင်းရင်းသားများဖြစ်သော ခမာများ၊ ရှမ်းပြည်မြောက်ပိုင်းရှိ ပလောင်နှင့်ပလေးများ၊ ရှမ်းပြည်အရှေ့ပိုင်းရှိ ဝနှင့်လဝများ၊ ရှမ်းပြည်

တောင်ပိုင်းရှိ ယင်းကြား၊ ယင်းနက်များ ဖြစ်သည်ဟု အကြမ်းအားဖြင့် ဆိုနိုင်၏။ ဤလူတို့၏ယခုခေတ်ယဉ်ကျေးမှု၊ ကုန်လုပ်ဆက်ဆံရေး စသည်တို့မှာ တညီတညာတည်း တပြေးတသမတ်တည်း မရှိကြပေ။ ပတ်ဝန်းကျင်ဆက်သွယ်မှုအလိုက် အဆင့်ဆင့်ကွဲပြားနေကြပေပြီ။

ဤလူတို့နောက် ပြင်ပယဉ်ကျေးမှု လွှမ်းမိုးချက်နည်းသော လူတို့၏ ထူးခြားသော ယဉ်ကျေးမှုအချက်အလက်များ၊ ကုန်လုပ်ဆက်ဆံရေးစနစ်များကို အထောက်အထားပြု၍ ရှေးကျောက်ခေတ်နှောင်း နောက်ပိုင်းအလွှာလူတို့၏ဘဝကို ပြန်လည်တည်ဆောက်ယူနိုင်မည်ဟု ယူဆရပါသည်။

## မဟာသေလာ ယဉ်ကျေးမှု

ဤလူတို့၏ရှေးကျ၍ အများလိုက်နာကြသည့် ထုံးစံဓလေ့တခုမှာ အဆက်အစပ်မရှိ၊ တတုံး တဆိုင် တခဲတည်းဖြစ်သော ကျောက်တုံးကြီးများကို လေးစားကိုးကွယ်သည့်ဓလေ့ ဖြစ်သည်။ ဤယုံကြည်မှုကို အကြောင်းပြု၍ ဤခေတ်ယဉ်ကျေးမှုကို မဟာသေလာ(ကျောက်တုံးကြီး)ယဉ်ကျေးမှုဟုလည်းအချို့ သမိုင်းမတင်မီခေတ်ပညာရှင်တို့က ခေါ်ဝေါ်ကြသည်။ ရှေးက အရှေ့တောင်အာရှတွင် လွှမ်းစွာပြန့်နှံ့ခဲ့သော ယုံကြည်မှုတရပ်ဖြစ်ခဲ့သည်ဟု ဆိုနိုင်သည်။ အိန္ဒိယအလယ်ပိုင်းရှိ ရှေးကျလှသော မုန်ကများ၊ အာသံနယ် ခါဆီတောင်များတွင်နေသော ခါဆီများ၊ အင်ဒိုနီးရှားနိုင်ငံရှိ ရှေးဟောင်းလူများ၊ အာနန်တောင်ရိုးနေ ရှေးဟောင်းလူများမှာ ယနေ့တိုင် မဟာသေလာကိုးကွယ်မှုရှိ၍ ယင်းနှင့်ဆက်စပ်နေသောဓလေ့ထုံးစံများကို လိုက်နာကျင့်သုံးဆဲရှိကြသည်။ နောက်မှ ရောက်လာသော တိဗက် မြန်မာ ဘာသာစကားအနွယ်ဝင် မွန်ဂိုလွိုက်များဖြစ်ကြသော နာဂများ၊ ချင်းလူမျိုးအချို့နှင့်ပျောက်ကွယ်သွားပြီဖြစ်သော ပျူတို့၌ပင် မဟာသေလာယဉ်ကျေးမှုရှိသည်ဖြစ်ရာ ယင်းယဉ်ကျေးမှုကို ဤကျောက်ခေတ်နှောင်း နောက်ပိုင်းအလွှာ လူများထံမှ ဆက်ခံရရှိခဲ့လေသလောဟု တွေးဘွယ်ရာဖြစ်ပေသည်။

## လယ်စပါးစိုက်ပျိုးမှု

ကျောက်ခေတ်နှောင်း နောက်ပိုင်းအလွှာလူတို့သည် လယ်စပါးစိုက်ပျိုးမှုကို အာရှအရှေ့တောင်ပိုင်း၌ ရှေးဦးစွာ တတ်သိသူများဖြစ်သည်။ ဤဒေသ၌ လယ်စပါးစိုက်ပျိုးမှုကို တတ်သိဆောင်ရွက်လာသည်နှင့် တပြိုင်နက် လူမျိုးစုတစုသည် ယဉ်ကျေးမှုနယ်နိမိတ်ကို ဖြတ်ကျော်ဝင်ရောက်လာပြီဟု ဆိုရပေမည်။ ရှိရင်းကုန်ထုတ်လုပ်မှုစနစ်အတွင်းသို့ လယ်စပါးစိုက်ပျိုးမှု ရောက်ရှိလာသည်နှင့်ကုန်လုပ်ဆက်ဆံရေးမှစ၍ လူနေမှုဘဝ ယဉ်ကျေးမှုစသည်တို့ပါ ပြောင်းလဲလာရသည်။

## သမိုင်းဦး ဘုံမြေစနစ် ထင်ရှားလာခြင်း

လယ်စပါးစိုက်ပျိုးရာတွင် ရှေးကထက်ပို၍ လုပ်အားလိုလာသည်။ လယ်များကို တီထွင်ရခြင်း၊ ရေသွင်းရန် ရေထုတ်ရန် မြောင်းဖောက်ရခြင်း၊ ထွန်ယက်စိုက်ပျိုးရခြင်း၊ ရိတ်သိမ်းခြင်းတို့အတွက် လုပ်အားပို၍လိုလာသည်။ ဤတွင် လူတို့သည် စုပေါင်းကာ ဘုံစနစ်ဖြင့် ကုန်ထုတ်လုပ်မှုကို ပြုလုပ်ရသည်။ ဘုံစနစ်သည် ပို၍အရေးပါလာသည်။ ဘုံမြေစနစ်ထွန်းကားမှုကို အားပေးထောက်ကူခဲ့ပေသည်။ အာရှအရှေ့တောင်ပိုင်းတွင် သမိုင်းဦးဘုံမြေစနစ် ထင်ရှားလာသောကာလ ဖြစ်သည်။ ကျောက်ခေတ်နှောင်း အစောပိုင်းအလွှာလူများနှင့်နောက်ပိုင်းအလွှာလူတို့၏ကုန်လုပ်ဆက်ဆံရေးနှင့်လူနေမှုဘဝ ကွာခြားချက်မှာလည်း ဤလယ်စပါးစိုက်ပျိုးမှုကို တတ်သိဆောင်ရွက်လာသောကြောင့်ပင် ဖြစ်ပေသည်။

## အခြေတစိုက် နေထိုင်လာခြင်း

မိုးကောင်းလယ်နှင့်ရေသွင်းလယ်တို့တွင် စပါးကို အများအပြားစိုက်ပျိုးပြီး အစားအစာကို အမြောက်အမြား ထုတ်နိုင်ခဲ့ကြ၏။ စပါးကို အခြေပြုသော ကျယ်ပြန့်သည့် ကုန်လုပ်ဆက်ဆံရေးစနစ်သည် လူဦးရေ အမြောက်အမြားကို ထောက်ပံ့ကျွေးမွေးနိုင်သည်။ စိုက်ခင်းကောင်းသောနေရာအနီးတွင်

လူတို့သည် အခြေတစိုက် နေထိုင်လာကြ၏။ စုပေါင်းဆောင်ရွက်ကြရသည့် အတွက် စုပေါင်းနေထိုင်လာကြကာ ကျေးရွာများ ပေါ်ပေါက်ခဲ့ပေသည်။

## လူဦးရေ တိုးတက်ခြင်းနှင့်ရွှေ့ပြောင်းခြင်း

အစားအစာကို ပေါများစွာ ထုတ်လုပ်နိုင်၍ လူဦးရေလည်း များစွာ တိုးတက်လာသည်။ များလွန်းလာသောအခါ ပိုလျှံသောလူတို့သည် လယ်စပါး စိုက်ရန် နေရာသစ်ကို ရှာ၍ ရွှေ့ပြောင်းခဲ့ကြသည်။ ဤမိုးကောင်းရေသွင်း လယ်စပါးစိုက်ပျိုးသည့်စနစ်ကို အာရှအရှေ့တောင်ပိုင်းတွင် မြောက်ဗီယက် နမ်တုံကင်မြစ်ဝကျွန်းပေါ်ဒေသ၌ စတင်ခဲ့သည်ဟု ယူဆရ၏။ ယင်းဒေသမှ တဆင့် စိုက်ခင်းကောင်းသော မိုးမြေပြန့်ဒေသဖြစ်သည့် မဲခေါင်မြစ်ဝကျွန်း ပေါ်ဒေသ(တောင်ဗီယက်နမ်နှင့်ကမ္ဘောဒီးယား)၊ ယင်းမှတဆင့် ချောင်ဖျမဲ့နန် (မေနန်)မြစ်ဝှမ်းတောင်ပိုင်းဒေသ(ယိုးဒယားနိုင်ငံတောင်ပိုင်း)၊ ယင်းမှတဆင့် ဂျိုင်း၊ အတ္တရံမြစ်ဝှမ်းများနှင့်သံလွင်မြစ်ဝကျွန်းပေါ်ဒေသ၊ ယင်းမှတဆင့် စစ် တောင်းမြစ်ဝှမ်းတောင်ပိုင်းနှင့်ဧရာဝတီမြစ်ဝှမ်းတောင်ပိုင်းတို့သို့ တခေတ်ပြီး တခေတ် အဆင့်ဆင့် ရွှေ့ပြောင်းခဲ့ဟန်တူပေသည်။

တောင်ပိုင်း မွန်ခမာအနွယ်ဝင်တို့၏ရွှေ့ပြောင်းမှုမှာ လယ်စပါးပျိုး နိုင်မှုကိုလိုက်၍ ဤကဲ့သို့ တုံကင်ဒေသမှ မြန်မာနိုင်ငံရ ဂမည‌ဒေသအထိ ရောက်ခဲ့သည်ဟု ဆိုရန်ရှိပေသည်။

## ပြောင်းလဲလာချက်များ

ဤကဲ့သို့ ကုန်လုပ်ကိရိယာ၊ ကုန်လုပ်ဆက်ဆံရေးတို့ပြောင်းလဲလာ သောကြောင့် ကျောက်ခေတ်နှောင်း နောက်ပိုင်းအလွှာ လူတို့၏လူနေမှုဘဝ၊ လူမှုဆက်ဆံရေး၊ စီမံခန့်ခွဲမှု၊ ယုံကြည်မှု၊ ယဉ်ကျေးမှုစသည်တို့သည် များစွာ ပြောင်းလဲလာခဲ့၏။ အသစ်တို့သည် ပေါ်ပေါက်ခဲ့၏။ တိုးတက်မှုလည်း ရှိလာ ခဲ့၏။ သမိုင်းစဉ်ပြောင်း၍ သမိုင်းဦးဘုံမြေစနစ်သည် ထွန်းကားလာခဲ့၏။

## တိရစ္ဆာန်လုပ်အားကို သုံးလာခြင်း

ယခင်က စားသုံးရန်အတွက်နှင့်အဖော်သဟဲအတွက်သာ တိရစ္ဆာန်များကို ယဉ်ပါးအောင် လုပ်၍ မွေးမြူခဲ့ကြသည်။ ယခုသော် လယ်စပါးစိုက်ပျိုးရေးတွင် အကူအညီရရန် တိရစ္ဆာန်များကို မွေးမြူလာကြသည်။ ဝန်ဆွဲတိရစ္ဆာန်တို့အနက် အာရှအရှေ့တောင်ပိုင်းတွင် ရှေးဦးစွာ အသုံးချသည်ဟု ယူဆရသောတိရစ္ဆာန်မှာ ကျွဲဖြစ်သည်။ ထို့နောက်မှ နွားများကို မွေးမြူသုံးစွဲကြသည်ဟု ဆိုဘွယ်ရာရှိ၏။

ဆင်နှင့်မြင်းတို့ကိုလည်း လူသုံးတိရစ္ဆာန်များအဖြစ် မွေးမြူလာကြသည်။ ထိုခေတ်လူတို့၏အဆက်အနွယ်များဖြစ်သော လဝနှင့်ခမုက်လူမျိုးတို့မှာ ယနေ့တိုင် ဆင်ဖမ်းကောင်း၊ ဆင်ဦးစီးကောင်းများ ဖြစ်ကြသည်။ 'မြင်း' အတွက်ဖြစ်သော မွန်ခမာဝေါဟာရမှာ အရှေ့တောင်အာရှ၏တောင်ပိုင်းတခွင်တွင် အပြန့်နှံ့ဆုံးဖြစ်နေသည်ကို ထောက်၍ ဤခေတ်လူဟောင်းများဖြစ်သော မွန်နှင့်ခမာတို့မှာ မြင်းကို စတင်မွေးသူများဖြစ်ကြောင်း သိနိုင်ပေသည်။

## ကုန်ဖလှယ်မှု

မိမိတို့ထုတ်လုပ်၍ ပိုလျှံနေသော ကုန်ပစ္စည်းများကို မိမိတို့အလိုရှိသော အခြားသူထုတ် ပစ္စည်းများဖြင့် ထည်ချင်းဖလှယ်ခဲ့ကြသည်။ အချို့ဒေသတွင် ကြွေစေ့များ၊ ရှားပါးသောပင်လယ်ခရုခွံများကို ပစ္စည်းလဲလှယ်မှုတွင် အသုံးပြုခဲ့သည့်စနစ်လည်း ရှိခဲ့ဟန်တူသည်။ ဤသည်ကို ကျောက်ခေတ်နှောင်းနောက်ပိုင်းအလွှာလူတို့၏ ကုန်သွယ်မှုစနစ်ဟု ဆိုရပေမည်။

## မြေအိုးမြေခွက်လုပ်ငန်း

ကျောက်ခေတ်လယ်ကတည်းက အာရှအရှေ့တောင်ပိုင်းရှိ ရှေးဟောင်းလူတို့သည် မြေအိုးများကို ပြုလုပ်တတ်ကြောင်း ဆိုခဲ့ပြီး ဖြစ်သည်။ ကျောက်ခေတ်နှောင်း နောက်ပိုင်းတွင် မြေအိုးမြေခွက် လုပ်ငန်းသည် ပိုမိုကောင်းမွန်လာသည်ဟု ဆိုနိုင်၏။ အိုးများကို လက်ခတ်နှင့်ရိုက်၍ ပိုမိုခိုင်မာ

စေသည်။ ရာဇမတ်ကွက်၊ လေးထောင့်ကွက်ရှီးရှီး၊ ဖျာပုံတို့ကိုအပြင် ဆန်းကျယ်သော အစင်းကြောင်းတို့ဖြင့် အိုး၏ပြင်ပကို အလှအပတန်ဆာဆင်ကြသည်။ ကျောက်ခေတ်နှောင်း ကုန်လုနီးသော် လူတို့သည် အိုးထိန်းစက်၏အသုံးကို သိလာကြပြီဟု ယူဆရသည်။ အိုးထိန်းစက်နှင့်ပြုလုပ်သည်ဟု ယူဆရသော အိုးများ၏အိုးခြမ်းကွဲများကို မြန်မာနိုင်ငံအလယ်ပိုင်း ကျောက်ခေတ်နှောင်း စခန်းတို့တွင် ထိုခေတ် ကျောက်လက်နက်များနှင့်အတူ တွေ့ခဲ့ရပြီး ဖြစ်ပေသည်။

## ကိုးကွယ်ယုံကြည်မှု

မဟာသေလာ(ကျောက်တုံးကြီး)ကိုးကွယ်ယုံကြည်မှုအကြောင်းကို အမြွက်မျှ ဆိုခဲ့ပြီးဖြစ်သည်။ ကျောက်တုံးကြီးများကို တစုတဝေးတည်း စနစ်တကျ စိုက်ထူခြင်း၊ ကျောက်ပြားကြီးများကို မြေပေါ်တွင် တခုပေါ်တခု စနစ်တကျ ထပ်၍ နေရာချထားခြင်းတို့ကို ပြုလုပ်ကြသည်။ ယင်းသို့ပြုလုပ်ထားခြင်းမှာ ရှေးဦးဖခင်ကြီး သို့မဟုတ် ကွယ်လွန်သွားကြသော ရှေးဘိုးဘေးကြီးများကို အထိမ်းအမှတ်ရရန် ဖြစ်သည်။ အချို့မှာမူ ယင်းကျောက်တုံးကြီးများပင်လျှင် ရှေးဘိုးဘေးကြီးများ ဖြစ်သည်ဟု ယုံကြည်ကိုးကွယ်ကြသည်။ ဤသည်က ရှေးဘိုးဘေးကြီးတို့ကို ရှိသေလေးစား ကိုးကွယ်သည့်အစဉ်အလာ၏အစဟု ဆိုဘွယ်ရာ ရှိပေသည်။ သေခြင်းတရားနှင့်တမလွန်ဘဝကို ယုံကြည်ကြကြောင်းကိုလည်း သိသာနိုင်သည်။

## ရှေ့ဖြစ်ဖတ်ခြင်း

ရှေ့တွင် ဖြစ်လတ္တံ့သော အကြောင်းရပ်များ၏အဆိုးအကောင်းကို တင်ကြိုသိရှိအောင် ပြုလုပ်နိုင်သည်ကိုလည်း ယုံကြည်ကြ၏။ ရှေ့ဖြစ်ဖတ်နည်း အဖုံဖုံ ရှိခဲ့သည်။ စီမံထားသော ပျဉ်ပြားပေါ်တွင် ကြက်ဉကို ဖောက်ခွဲပြီးနောက် အကာ အနှစ်နှင့်အခွံတို့ တည်နေပုံကို ကြည့်ကာ ရှေ့ဖြစ်ဖတ်ခြင်း၊ ကြက်၊ ငှက်၊ ဝက်စသည်တို့၏အူကို ခွဲကြည့်ပြီး ရှေ့ဖြစ်ဖတ်ခြင်းစသည်တို့ရှိခဲ့သည်။ ယနေ့တိုင် ရှေးကျသော ပြည်ထောင်စုမြန်မာနိုင်ငံသားတို့သည် နည်း

အမျိုးမျိုးဖြင့် ကိစ္စတခုခုကို ဆောင်ရွက်သင့် မဆောင်ရွက်သင့်၊ ဆောင်ရွက်လျှင် အောင်မြင်မည် မအောင်မြင်မည်ကို တင်ကြိုသိရှိရအောင် ဗေဒင်မေးသည့်နှယ် ယုံကြည်စွာ အတိတ်နိမိတ်ကို ဖတ်လျက် ရှိကြပေသေးသည်။

## တားမြစ်ချက်များ

လူမျိုး၏အစဉ်အလာကို လိုက်၍ မလုပ်ရဟု တားမြစ်ထားသောအချက်များကိုလည်း ယုံကြည်စွာ လိုက်နာခဲ့ကြဟန် တူ၏။ ဘာသာရေးယုံကြည်ချက်ကဲ့သို့ပင် လေးစားရမည့်ပညတ်ချက်များအဖြစ် လက်ခံကြလေသည်။ ဤသည်မှာလည်း ဤရှေးဟောင်းလူတို့၏ယုံကြည်မှုတရပ် ဖြစ်ပေသည်။

## လူကို ယဇ်ပူဇော်ခြင်း

သူစိမ်းတို့၏ဦးခေါင်းကိုဖြတ်၍ သွေးဖြင့် သို့မဟုတ် ဦးခေါင်းဖြင့် ပူဇော်လျှင် အသီးအနှံပို၍ ထွက်မည်ဟု ယုံကြည်ခဲ့ကြသည်။ ယခုခေတ် ရှေးကျသော ခါဆီ၊ လဝ၊ နာဂတို့တွင် ယခင်က လူခေါင်းဖြတ်၍ ယဇ်ပူဇော်သည့်ဓလေ့ရှိခဲ့သည်။ ဤဓလေ့မှာ လူသားစားသည့်ဓလေ့ကား မဟုတ်ပေ။

## နတ်ကိုးကွယ်မှု

ရှေးဖြတ်ဖတ်ရာတွင် အဆုံးအဖြတ်ပေးသူ၊ တားမြစ်မှုကို ကျူးကျော်လျှင် ဒဏ်ခတ်သူ၊ လူသတ်၍ ယဇ်ပူဇော်လျှင် နှစ်သက်၍ အသီးအနှံအထွက်များအောင် လုပ်ပေးသူဟူ၍ တန်ခိုးရှင်နတ်များ ရှိသည်ကို ယုံကြည်ခဲ့ကြပေသည်။ ယင်းတို့အပြင် အိမ်ထောင်စုနတ်၊ လယ်နတ်၊ တောင်ယာနတ်၊ တောင်နတ်၊ တောနတ်၊ သစ်ပင်နတ်များကိုလည်း ယုံကြည်ကြ၏။ နတ်ကိုးကွယ်မှုအတွက် စီစဉ်ပေးရသော နတ်ဆရာ ဝတ်ဝင်သည်စသည့်သမိုင်းဦးဘုံမြေခေတ်ရှေးအကျဆုံး ခေါင်းပုံဖြတ်လူတန်းစားသည်လည်း ပေါ်ပေါက်လာခဲ့ပေသည်။

## နဂါးကိုးကွယ်မှု

မြွေနဂါးကိုးကွယ်မှုသည်လည်း ကျောက်ခေတ်နှောင်းလူတို့နှင့်ပင် စတင်ခဲ့ဟန် တူသည်။ မွန်ခမာအနွယ်ဝင်များတွင် မြွေနဂါးကို ကိုးကွယ်မှုနှင့် ဆက်စပ်နေသော ယုံကြည်မှု၊ ဓလေ့ထုံးစံများ ရှိနေပေသေးသည်။ မြန်မာနိုင်ငံ တကောင်းရာဇဝင်လာ မောင်ပေါက်ကျိုင်းဒန္တာရီ(ဒဏ္ဍာရီ)မှာ ဤကိုးကွယ်မှု နှင့်ဆက်စပ်ခဲ့ဟန် တူ၏။

## အုပ်ချုပ်စီမံခန့်ခွဲမှု

လူတို့သည် မိသားစု၊ ဆွေမျိုးစုအလိုက် စုဝေး၍ အခြေတစိုက်နေ လာကြသဖြင့် လူနေမှုပြဿနာများ၊ လူမှုရေးပြဿနာများ ပေါ်ပေါက်ခဲ့သည်။ ကျေးရွာများသာမက ကျေးရွာများအချင်းချင်း ဆက်သွယ်ဖွဲ့စည်းအပ်သော ဒေသများတွင် ယင်းပြဿနာများကို ဖြေရှင်းပေးနိုင်မည့်အရည်အချင်း အ မြော်အမြင်ရှိသော ခေါင်းဆောင်များ ပေါ်ပေါက်ခဲ့လေသည်။ များသောအား ဖြင့် မိသားစုများ ပေါင်းစပ်ထားသောဆွေမျိုးစု၏အကြီးအကဲများ ဖြစ်သည်။ တခါတရံ အကြီးအကဲတဦးသာရှိ၍ တခါတရံ နှစ်ဦးရှိတတ်သည်။ ဤအကြီး အကဲတို့သည် ကိုးကွယ်ယုံကြည်မှု၊ လူမှုရေးနှင့်ထုံးတမ်းစဉ်လာဓလေ့တို့အရ သာ ကြီးကဲအုပ်ချုပ်ကြရသည်။

လူစု၏ အစဉ်အလာနှင့်ဓလေ့မှာ ထိုလူစုအတွက် ဥပဒေများ ဖြစ် သည်။ အငြင်းပွားမှုရှိလျှင် ရေငုပ်ခြင်းကဲ့သို့သော အပြိုင်ပြုလုပ်မှုမျိုးကိုစေ ခိုင်း၍ အဆုံးအဖြတ်ပေးသည်ဟု ဆိုနိုင်သည်။ ရှေးကျသော လူစုတို့တွင် ယင်းအစဉ်အလာသည် ယနေ့တိုင် ကျန်ရှိနေပေသေးသည်။

## အမိကြီးစိုးသော လူ့အဖွဲ့အစည်း

လူ့အဖွဲ့အစည်းတို့တွင် အဖ ကြီးစိုးသည်လည်း ရှိခဲ့သည်။ အမိကြီး စိုးသည်လည်း ရှိခဲ့သည်။ မွန်ခမာအနွယ်ဝင် ခါဆီလူမျိုးတို့တွင် ယခုအထိ အမိကြီးစိုးသည့်စနစ်ရှိနေသည်။ အချို့ကာလ အချို့ဒေသတွင် အမျိုးသမီး

တို့သည် အမျိုးသားတို့ထက် ပို၍အရေးပါ အရာရောက်ခဲ့ကြသည်။ ကျောက်ခေတ်နှောင်းအတွင်းက အမျိုးသမီးတို့သည် အမျိုးသားတို့ထက် အဆင့်အတန်း မနိမ့်ရှိသာမက လူမှုရေး၊ စီးပွားရေးနှင့်အုပ်ချုပ်ရေးတို့တွင် ရှေ့တန်းမှ ဦးဆောင်ခဲ့သည်များ ရှိပေသည်။ ကုန်းမြင့်ဒေသနေ တိုင်းရင်းသားလူ့အဖွဲ့အစည်းတွင် အမျိုးသမီးတို့၏ဝတ်စားတန်ဆာသည် လူမျိုးသတ်မှတ်ရာ အမှတ်အသား ဖြစ်နေခြင်း၊ အမျိုးသမီးတို့သည် အမျိုးသားတို့ထက် ပို၍တာဝန်ယူဆောင်ရွက်နေခြင်းတို့က ဤအချက်ကို ထောက်ခံနေပေသည်။

## အဝတ်အထည်နှင့်ဆေးမင်ထိုးခြင်း

လျှော်များ မှို့များကို ယက်လုပ်သောအဝတ်အထည်များကို ဝတ်ဆင်ခဲ့ကြသည်ဟု ဆိုနိုင်၏။ အထူးသဖြင့် အဝတ်အထည်များကို ဆေးရောင်ဆိုး၍ ဝတ်တတ်ကြပေပြီ။ အမျိုးသမီးတို့သည် ရောင်စုံပုတီးများကိုလည်း ဆင်ယင်တတ်ကြပြီဟု ယူဆရ၏။ ကြွေစေ့များ၊ ကျိတ်သီးများစသည်တို့ဖြင့် ပုတီးပြုလုပ်ခဲ့ပေမည်။

အမျိုးသားတို့သည် ဆေးမင်ကြောင် ထိုးလာပြီဟု ယူဆရ၏။ ကိုယ်ကို အလှအပ တန်ဆာဆင်ရန် အဝတ်အထည်ဝတ်သည့်နေရာတွင် အစားထိုးသည့်ဓလေ့ဟု ယူဆရ၏။

## ပျော်ရွှင်မှုနှင့်အပန်းဖြေမှု

ကျောက်ခေတ်နှောင်း လူတို့သည် သေအရက်ကို ဖောက်လုပ်သောက်သုံးတတ်ကြပြီဟု ယူဆရသည်။ နတ်ပူဇော်ရာတွင်လည်း သေအရက်ပါရသည်။

ဝါး၊ သစ်၊ စသည်ဖြင့် ပြုလုပ်သော တူရိယာဂီတပစ္စည်းများကို တီးမှုတ်၍ အပန်းဖြေခဲ့ကြဟန်တူ၏။ မျက်နှာပြင်မညီသော သစ်တုံးကို အခေါင်းဖြစ်အောင် ထွင်းကာ တီးခေါက်ခဲ့ကြသည်။ ပျော်ရွှင်မှုအတွက်သာမက အချက်ပေးရန်၊ သတိပေးရန်အတွက်ပါ သုံးခဲ့ဟန်တူ၏။ ဤသစ်သားစည်မျိုးမှာ ကြေးကို သွန်းလုပ်အပ်သော ဖားစည်တို့၏ရှေ့ပြေးပင် ဖြစ်သည်ဟုယူဆရသည်။

ကြေးဖြင့် ဖားစည်ကို သွန်းလုပ်ကာ အသုံးပြုလာတတ်သောအချိန်တွင် အရှေ့တောင်အာရှ၌ ကျောက်ခေတ်ဟောင်းလူတို့သည် ကြေးခေတ်သို့ ချဉ်းနင်းဝင်ရောက်လာပြီ ဖြစ်ပေသည်။ သတ္တု၏အသုံးကို သိလာသည်နှင့် ခေတ်လည်း ပြောင်းလာခဲ့သည်။ ဤခေတ်သည်ကား မြန်မာနိုင်ငံနှင့်အရှေ့တောင်အာရှအတွက် သမိုင်းတင်ခေတ်အစ သို့မဟုတ် သမိုင်းခေတ်ဦးပင် ဖြစ်ပေသည်။

## သမိုင်းခေတ်ဦး မြန်မာနိုင်ငံ

သမိုင်းမတင်မီခေတ် လူ့ဘောင်ဘဝအကြောင်းကို သမိုင်းဦးဘုံမြေစနစ် အခြေခံသော လူမှုစီးပွားရေးဘဝအကြောင်းထိ ဆိုခဲ့ပြီးဖြစ်သည်။ သမိုင်းမတင်မီခေတ်အတွင်း စာပေရေးသားမှုအတတ်ပေါ်ပေါက်လာသော်၊ သို့မဟုတ် ထိုခေတ်က လူတို့အကြောင်း စာပေဖြင့် ခေတ်ပြိုင်မှတ်တမ်း တင်လာသော် သမိုင်းမတိုင်မီခေတ်မှသည် သမိုင်းတင်ခေတ်သို့ ပြောင်းလဲသည်ဟု နိုင်ငံသမိုင်းပညာရှင်တို့က ယေဘုယျအားဖြင့် မှတ်သားကြသည်။

## သမိုင်းခေတ်သို့ပြောင်းစေခဲ့သော အခြေအနေများ

မြန်မာနိုင်ငံ အရှေ့တောင်အာရှအကြောင်း ခေတ်ပြိုင်မှတ်တမ်းတင်မှု ရှေးဦးစွာ တွေ့ရသည်မှာ ခရစ်နှစ်များပေါ်ပြီးစကာလ တနည်းဆိုသော် ပထမရာစု အေဒီနှစ်များ ပတ်ဝန်းကျင်လောက်တွင် ဖြစ်သည်ဟု ဆိုနိုင်သည်။ ဤသည်ကို ထောက်၍ မြန်မာနိုင်ငံနှင့်အရှေ့တောင်အာရှဒေသတို့တွင် ခရစ်နှစ်များ ပေါ်ဦးကာလတဝိုက်တွင် သမိုင်းခေတ်ဦးစတင်ခဲ့သည်ဟု သာမန်အားဖြင့် ဆိုနိုင်လေသည်။ ဤကာလတွင် အခြေအနေသစ်များ ဖြစ်ပေါ်ခဲ့၏။ သို့ပင် ဖြစ်လင့်ကစား ဤဒေသတွင် ရှိနေခဲ့သော သမိုင်းဦးဘုံမြေစနစ်သည် ဆက်လက်တည်ဆဲဖြစ်၏။

သမိုင်းခေတ်ဦးအတွင်းသို့လည်း အမျှင်တန်း၍ ပါလာခဲ့ပေသည်။

ထူးခြားသော အခြေအနေသစ်တို့ကား အဘယ်တို့နည်း။

(၁) စာပေမှတ်တမ်းတင်မှုကို ဖြစ်စေသော နိုင်ငံခြားမှလူများ ဤဒေသသို့ ရောက်ရှိလာခြင်း။
(၂) နိုင်ငံတွင်းသို့ တိုင်းရင်းသားလူမျိုးသစ်များ ရွှေ့ပြောင်းဝင်ရောက်လာခြင်း နှင့်
(၃) လူသုံးလက်နက်ကရိယာများ ပြုလုပ်သည့်ဝတ္ထုပစ္စည်းသစ်ကို တွေ့ရှိသုံးစွဲခဲ့ခြင်းတို့ ဖြစ်သည်။

## နိုင်ငံခြားသားများ ရောက်လာခြင်း

စာပေမှတ်တမ်းတင်မှုကို ဖြစ်စေနိုင်သည့် နိုင်ငံခြားသားများ ရောက်ရပုံကို နှစ်ပိုင်းခွဲနိုင်သည်။ ပထမတပိုင်းမှာ မြန်မာနိုင်ငံမြောက်ပိုင်းမှ ဖြတ်သန်းသွားသော ကုန်သွယ်လမ်းမကြီးကို ပိုမိုတိုးချဲ့အသုံးပြုလာမှုနှင့်ဒုတိယပိုင်းမှာ မြန်မာနိုင်ငံတောင်ပိုင်း ပင်လယ်ကမ်းတလျှောက်တွင် အရှေ့အနောက်ကုန်သည်များ ပိုမိုရောက်ရှိလာခြင်းတို့ ဖြစ်၏။

## မြောက်ပိုင်းကုန်သွယ်လမ်းမကြီး

ခရစ်နှစ် ပေါ်ဦးကာလပတ်ဝန်းကျင်တွင် ဥရောပတောင်ပိုင်း၌ ရောမအင်ပါယာကြီး တန်ခိုးထားနေသည်။ အာရှတိုက်တွင် တရုတ်ဟန်အင်ပါယာကြီး တန်ခိုးထွားနေသည်။ ရောမနှင့်ဟန်တို့သည် အာရှအလယ်ပိုင်း ကုန်းလမ်းခရီးဖြင့် ကုန်စည်ရောင်းဝယ်ဖောက်ကားခဲ့ကြသည်။ ဟန်အင်ပါယာ တန်ခိုးထားခဲ့သော်လည်း အစောပိုင်းခေတ်တွင် ယူနန်နယ်ကို ပိုင်ဆိုင်ခြင်း မရှိသေးပေ။

အစောပိုင်းဟန်မင်းဆက်(၂၀၆ဘီစီမှ ၂၅အေဒီ)၊ ဟန်စူတိဧကရာဇ် (၁၄၀-၈၇ဘီစီ)လက်ထက်တွင် အာရှတိုက်အလယ်ပိုင်းရှိ လူမျိုးတို့သည် ဟန်တရုတကို ပုန်ကန်တိုက်ခိုက်သဖြင့် ကုန်သွယ်လမ်းပိတ်ခဲ့သည်။ ထိုတိုက်ခိုက်သူတို့၏အနောက်ဖက်ရှိနိုင်ငံများသို့ တရုတ်သံများ သွားရောက်ဆက်သွယ်ကြရာမှ မြန်မာနိုင်ငံမြောက်ပိုင်းကိုဖြတ်၍ အိန္ဒိယမှတဆင့် အာရှအနောက်ပိုင်းသို့ ရောက်သော ကုန်သွယ်ခရီးလမ်းတခုရှိကြောင်း သိခဲ့ကြရသည်။ ဤ

တွင်မှ ဟန်တရုတ်တို့သည် မြန်မာနိုင်ငံမြောက်ပိုင်းဆီသို့ ခရီးလမ်းဖောက်ရန် ကြိုးစားခဲ့ကြသည်။ နောက်ပိုင်း ဟန်မင်းဆက်လက်ထက်(၂၅-၂၂၀အေဒီ) ရောက်မှ ယူနန်နယ် ဟန်တရုတ်တို့ ယာယီကြီးစိုးနိုင်ခဲ့၍ ယနေ့မြန်မာနယ်စပ်နှင့်မိုင် ၇၀-ကွာ ယူနန်နယ်အနောက်ဖက်ပိုင်းရှိ ယုင်ချန်(ယနေ့ ပေါင်ရှန်) တွင် အုပ်ချုပ်မှုနယ်တခုကို ၆၉-အေဒီတွင် ဖွင့်လှစ်ကာ ကုန်သွယ်လမ်းမကြီးကို ထိန်းသိမ်းချုပ်ကိုင်ခဲ့ကြလေသည်။ ဤလမ်းကြီးကို လိုက်၍ ရောမအင်ပါယာဘက်မှ သံအဖွဲ့များ တရုတ်ပြည်သို့ရောက်ခဲ့ကြ၏။ ကုန်သည်များလည်း အပြန်အလှန် ကူးလူးဆက်ဆံခဲ့ကြ၏။

ဤသို့ဖြင့် မြန်မာနိုင်ငံမြောက်ပိုင်းရှိ ဤကုန်သွယ်လမ်းနှင့်ဆက်သွယ်နေသော လူတို့အကြောင်းကို ဟန်ခေတ်တရုတ်ရာဇဝင်တို့တွင် မှတ်တမ်းတင်လာခဲ့ပေသည်။

## အိုင်လောင်လူမျိုး

ယုင်ချန်အုပ်ချုပ်ရေးနယ်တွင် နေထိုင်သူများမှာ အိုင်လောင်လူမျိုးဖြစ်ကြောင်း၊ လှပဆန်းကျယ်စွာ ထိုးထားသောဇာအဝတ်၊ ပန်းထိုးအဝတ်တို့ကို ဝတ်ဆင်၍ ရောင်စုံဦးဆောင်းအဝတ်ကို ဆင်ယင်ကြောင်း၊ စဥ့် သို့မဟုတ် ဖန် လူသုံးပစ္စည်းများကို သုံးစွဲကြောင်း၊ ပုလဲနှင့်ပင်လယ်သတ္တဝါတို့၏အခွံများကို အသုံးပြုကြကြောင်း၊ အိုင်လောင်တို့၏အနောက်ဖက် မြန်မာနိုင်ငံမြောက်ပိုင်းရှိ လူတို့မှာ လူပုမျိုးဖြစ်ကြောင်း စသည်ဖြင့် ဟန်ခေတ် ရာဇဝင်ကျမ်းတို့က ဆိုသည်။ ဤလူတို့မှာ ယဥ်ကျေးသော ကမ္ဘာ့နိုင်ငံကြီးနှစ်ခုကို ဆက်သွယ်ပေးထားသော ကုန်သွယ်လမ်းမကြီးနှင့်ဆက်စပ်နေသူများဖြစ်၍ မြန်မာနိုင်ငံတွင် ကမ္ဘာ့ယဥ်ကျေးမှုနှင့်ရှေးဦးစွာ ထိတွေ့ခဲ့ရသူများဟု ဆိုနိုင်ပေသည်။ အိုင်လောင်ဟူသော အမည်ကိုထောက်၍ ထိုအမည်ရှိသူတို့မှာ ရှေးဦး ထိုင်းအမျိုးသားများလောဟု ပညာရှင်အချို့က တွေးထင်ခဲ့ကြပေသည်။ လူပုမျိုးတို့မှာ မွန်ဂိုလွိုက်မဟုတ်သော မူရင်းတိုင်းရင်းသားများဟု ဆိုဘွယ်ရာရှိ၏။

## တောင်ဘက်ပင်လယ်ခရီးလမ်း

ရောမနှင့်ဟန်တို့သည်လည်းကောင်း၊ အာရှအနောက်နှင့်အရှေ့ပိုင်းတို့သည်လည်းကောင်း၊ ထိုခေတ်လောက်တွင်ပင် ပင်လယ်ခရီးဖြင့် ကူးလူးဆက်ဆံခဲ့ကြ၏။ ပထမသော် ရောမရွက်သင်္ဘောတို့သည် ပင်လယ်ပြင်သို့ ရွက်မလွှင့်ခဲ့ကြသေး။ ကမ်းရိုးတန်းကိုလိုက်၍သာ အိန္ဒိယနိုင်ငံအထိ ကူးသန်းခဲ့ကြသည်။ နောက်ပိုင်းတွင် မုတ်သုန်လေ၏အသုံးကို သိပြီးနောက် အာရေဗျပင်လယ်ကို ဖြတ်ကူးကာ အိန္ဒိယတောင်ပိုင်းသို့ တိုက်ရိုက်ရောက်ခဲ့၏။ အာရှအရှေ့ပိုင်းမှ တရုတ်နှင့်မလေးကုန်သည်တို့သည် အရှေ့တောင်အာရှမှ ကုန်ပစ္စည်းများကို အိန္ဒိယတောင်ပိုင်းနှင့်သီဟိုဠ်ကျွန်းသို့ သယ်ဆောင်၍ ရောင်းဝယ်ဖောက်ကားကြသည်။ ဤသို့သော ကူးလူးဆက်ဆံမှုများ ပေါ်ပေါက်ခဲ့ရာမှ ဤဒေသတို့အကြောင်းသည် ခေါမ၊ ရောမနှင့်အိန္ဒိယစာပေတို့တွင် ပါဝင်ခဲ့ပေသည်။

ဟန်အင်ပါယာ ပျက်သုဉ်းပြီးနောက် တရုတ်ပြည် ဝူနိုင်ငံမှ သံတို့သည် ဖူနန်(ယခု ကမ္ဘောဒီးယား)နိုင်ငံသို့ ရောက်ခဲ့၍ အရှေ့တောင်အာရှနိုင်ငံများ၊ အိန္ဒိယနိုင်ငံနှင့်မြန်မာနိုင်ငံတို့အကြောင်းကို မှတ်တမ်းတင်ခဲ့ကြပြန်သည်။

## တော်လမီ၏ပထဝီကျမ်း

ခေါမမှတ်တမ်းတို့တွင် တော်လမီ၏ပထဝီကျမ်းကို အသိများကြသည်။ အိန္ဒိယစာပေများဖြစ်သော ၅၅၀-နိပါတ်တော်များ၊ မိလိန္ဒပဥှာစသည့်ဗုဒ္ဓဝါဒစာပေများ၊ ရာမာယနစသည့် ဟိန္ဒူဝါဒစာပေများတွင် မြန်မာနိုင်ငံနှင့်အရှေ့တောင်အာရှဒေသအကြောင်းကို တွေ့ရသည်။ တရုတ်၊ ခေါမမှတ်တမ်းများနှင့်အိန္ဒိယစာပေလာ အချက်အလက်တို့မှာ များစွာကွဲပြားခြင်းမရှိပေ။ အထူးသဖြင့် အိန္ဒိယစာပေနှင့်တော်လမီပထဝီကျမ်းလာ ဒေသအမည်၊ သို့မဟုတ်အမည်၏အဓိပ္ပါယ်တို့မှာ လွန်စွာနီးစပ်သည်။ တော်လမီသည် အိန္ဒိယကုန်သည်ထံမှရသော သတင်းအချက်တို့ကို မူတည်၍ သူ့ပထဝီကျမ်းကို ရေးခဲ့ဟန်တူ၏။ မည်သို့ပင်ဖြစ်စေ ဤအထောက်အထားများတွင် ပါရှိချက်များကို ခြုံ၍ ကောက်ချက်ချကြသောအခါ အောက်ပါအကြောင်းခြင်းရာများကို သိရ၏။

## သမိုင်းခေတ်ဦး မြန်မာနိုင်ငံအခြေအနေ ဘီလူးများ

မြန်မာနိုင်ငံကမ်းရိုးတန်းတလျှောက်တွင် ကူးသန်းရောင်းဝယ်ရေးစခန်းများဖြစ်သော ဆိပ်ကမ်းမြို့များ ရှိခဲ့သည်။ အထင်ရှားဆုံးမှာ သုဝဏ္ဏဘူမိဖြစ်သည်။ ဆိပ်ကမ်းမြို့များတွင် အိန္ဒိယနိုင်ငံသားကုန်သည်များ စတည်းချနေထိုင်ခဲ့ကြသည်။ တိုင်းရင်းသားတို့မှာ ပု၍တုတ်ခိုင်သည်။ ဆံပင်လိုင်းထနေသကဲ့သို့ တွန့်သည်။ နှာခေါင်းပြား၍ အမွေးအမျှင်ထူသည်။ ဤလူစုမှာ ဩစတြေလွိုက်လူမျိုးနွယ်ဝင် ရှေးကျသောလူများ ဖြစ်တန်ရာ၏။ ရှေးကျသောဩစတြိုအေးရှားတစ် စကားကို ပြောကြသော ရှေးဦးမွန်ခမာ အနွယ်ခွဲဝင်များဟု ဆိုဘွယ်ရာရှိ၏။ မြန်မာစာအုပ်များ၊ ပုံပြင်များတွင် ပါဝင်သော ဘီလူးတို့မှာ ဤသူများကိုပင် ဆိုလေသလောဟု တွေးဘွယ်ရာဖြစ်သည်။ မြောက်ပိုင်း တရုတ်နယ်စပ်အနီးနေ လူပုမျိုးတို့သည် တရုတ်ပြည်ထွက် ကုန်ပစ္စည်းများကို သယ်ယူပို့ဆောင်ပေးခြင်းဖြင့် အရှေ့အနောက် ကုန်ကူးမှုကို ကူညီခဲ့ကြသည်။

## ဗိဿနိုး

သုဝဏ္ဏဘူမိ(တရုတ်မှတ်တမ်းတွင် ကျင်လင်ခေါ်သည်။ ရွှေနယ်နိမိတ်ဟု အဓိပ္ပါယ်ရသည်။)မုတ္တမကွေ့တဝိုက်တွင် ရှိနိုင်ကောင်း၏ဟု မှတ်တမ်းများမှ တွက်ချက်ယူနိုင်သည်။ တရုတ်မှတ်တမ်းနှင့်ခေါမပထဝီကျမ်းတို့က သုဝဏ္ဏဘူမိ၏မြောက်ဖက်(မြန်မာနိုင်ငံအလယ်ပိုင်း)တွင် မြို့ကြီးတမြို့ ရှိကြောင်းဆို၏။ တရုတ်မှတ်တမ်းတွင်မူ ဗုဒ္ဓဝါဒထွန်းကားသောနိုင်ငံဟု ဆိုသည်။

ထိုနိုင်ငံမှာ အရှေ့အနောက် ကုန်းကြောင်းကုန်သွယ်ရာ ခရီးလမ်းခွဲဖြစ်သော ဧရာဝတီမြစ်အနီးရှိ ဗိဿနိုးမြို့ကိုပင် ညွှန်းခြင်းဖြစ်တန်ရာသည်။ ဤမြို့ဟောင်း တူးဖေါ်ရာတွင် ၂-ရာစုအေဒီသုံး အိန္ဒိယတောင်ပိုင်း ဖြဟ္မီအက္ခရာနှင့်တံဆိပ်တခုကို တွေ့ခဲ့ဘူးသည်ဖြစ်ရာ ထိုခေတ်က စာရေးသည့်အတတ်သည် မြန်မာနိုင်ငံသို့ရောက်နေပြီဟု ယူဆဘွယ်ရာရှိပေသည်။

## ပဒေသရာဇ်စနစ်၏အစ

ဤသည်တို့ကို ထောက်၍ သမိုင်းဦးဘုံမြေစနစ်နှင့်နေထိုင်လျက်ရှိသော မြန်မာနိုင်ငံနှင့်အရှေ့တောင်အာရှဒေသရှိ မူရင်းတိုင်းရင်းသားတို့၏လူ့အဖွဲ့အစည်းအတွင်းသို့ တမူထူးခြားသောလူနေမှုစနစ်တခုသည် သမိုင်းခေတ်ဦးအတွင်းက ရောက်ရှိလာခဲ့သည်ဟု ခိုင်ခိုင်လုံလုံ ဆိုနိုင်ပေသည်။ ယင်းစနစ်သစ်မှာ အခိုင်အမာ အရံတန်တိုင်း၊ ကျုံးမြို့ရိုးတို့ဖြင့် တည်ဆောက်အပ်သော မြို့ကြီးပြကြီးတွင် တိုက်တာအိုးအိမ်နှင့်နေထိုင်လာသည့်စနစ်၊ လူ့အဖွဲ့အစည်းတွင် အုပ်ချုပ်သူအကြီးအကဲနှင့်အုပ်စိုးသူလူတန်းစား၊ အအုပ်ချုပ်ခံလူတန်းစားတို့ပါဝင်လာသောစနစ်၊ စုပေါင်းဆောင်ရွက် စုပေါင်းအကျိုးခံစားမှုမှသွေဖည်၍ အမိန့်ပေးအခွင့်အရေးထူးခံသူ လူနည်းစုက အလုပ်လုပ်သောလူများစုကို စေစားသည့်အမြတ်ထုတ်သည့်လူနေမှုစနစ်မျိုး ဖြစ်သည်။

အိန္ဒိယနိုင်ငံသားတို့ရောက်လာ၍ ဦးဆောင်ဖွဲ့စည်းခဲ့သော သူတို့ထံမှ နည်းယူဖွဲ့စည်းခဲ့သော ပဒေသရာဇ်စနစ်ပင် ဖြစ်သည်။ ဤသို့သော ပဒေသရာဇ်စနစ်ကျင့်သုံးသည်မှာ ကူးသန်းရောင်းဝယ်ရေး အချက်အချာနေရာမျိုး၌သာဖြစ်၍ လူများစုမှာမူ ရှိရင်းစွဲ ဘုံမြေစနစ် စီးပွားရေးကိုပင် ဆက်လက်ကျင့်သုံးဆဲဟု ဆိုရပါမည်။

## လူမျိုးသစ်များ ဝင်ရောက်လာခြင်း

တောင်ဘက်ပိုင်းတွင် နိုင်ငံခြားကုန်သည်အစုငယ်ကလေးများ ရောက်ရှိအခြေစိုက်နေလာမှုသည် သမိုင်းခေတ်ဦး၏ထူးခြားချက်တရပ် ဖြစ်သည်။ ဤအချိန်လောက်တွင် မြောက်ပိုင်းမှ တိုင်းရင်းသားသစ်တို့ အင်နှင့်အားနှင့် တသုတ်ပြီးတသုတ် ဆိုသလို တဆင့်ပြီးတဆင့် ဝင်ရောက်လာကြသည်။ ဤသည်မှာ သမိုင်းခေတ်ဦး၏ဒုတိယထူးခြားချက်ဖြစ်သည်။ ဤတိုင်းရင်းသားသစ်တို့ ဝင်ရောက်လာမှုသည်လည်း သမိုင်းခေတ်ဦးလူတို့၏သမိုင်းစဉ်ကို အသွင်ပြောင်းစေခဲ့သည်။

တိုင်းရင်းသားလူမျိုးသစ်တို့ မရောက်လာမီက အာရှအရှေ့တောင်ပိုင်းမှာ ဩစတြိုအေရှားတစ်အနွယ်ဝင် မွန်ခမာဘာသာစကားများကို ပြောသူ

တို့၏ဒေသဖြစ်ကြောင်း ဆိုခဲ့ပြီးဖြစ်သည်။ သူတို့မှာ ကျောက်ခေတ်နှောင်း ယဉ်ကျေးမှုနှင့်သမိုင်းဦးဘုံမြေစနစ်အရ အခြေတစိုက် နေထိုင်ကြသူများဖြစ်သည်။ ထိုလူတို့၏ဒေသသို့ တိုင်းရင်းသားလူမျိုးသစ်တို့ ရွှေ့ပြောင်းဖောက်ထွင်းလာကြသောအခါ ရှိရင်းစွဲလူ့အဖွဲ့အစည်းတို့မှာ တကွဲတပြားစီဖြစ်ကြ၍ တိုင်းရင်းသားသစ်လူ့အဖွဲ့အစည်းတို့ ပေါ်ပေါက်လာခဲ့ခြင်းဖြစ်သည်။ ဤသည်ကိုပြောင်းလဲမှုတရပ်ဟု ဆိုခြင်းဖြစ်၏။

## ပျူ၊ သက်၊ နာဂ၊ ချင်း၊ ကရင်

မြောက်ဖက်ဆီမှ အသစ်ဝင်ရောက်လာသူတို့မှာ တိဗက်မြန်မာနွယ်ဝင်စကားများကို ပြောသူများ ဖြစ်၏။ တိဗက်မြန်မာနွယ်ဝင်လူတို့၏ရွှေ့ပြောင်းမှုတည်းဟူသော လူရေစီးကြောင်းတွင် တပ်ဦးမှ ပါလာသူတို့မှာ ရှေးဦးပျူများ၊ သက်များ၊ နာဂများ၊ ချင်းများနှင့်ကရင်များဟု ယူဆရပေသည်။

ရှေးဦးပျူတို့သည် အရှေ့မြောက်ဆီမှ ဝင်လာ၍ ၁-ရာစုအေဒီလောက်တွင် ယခုဗိဿနိုးဟုတွင်နေသော သိရသမ္ဘ ရှေးအကျဆုံးမြို့ကြီးကို တည်ထောင်ခဲ့ကြသူများ ဖြစ်သည်။ ကသာခရိုင်ရှိ ယခု ကဒူး၊ ကနန်းတိုင်းရင်းသားတို့၏ရှေးဘိုးဘေးကြီးများ ဖြစ်ကြသည်။ သက်တို့သည် အနောက်မြောက်ဖက်မှ ဧရာဝတီမြစ်အထိ ပြန့်နှံ့နေခဲ့ကြ၏။ သူတို့၏ဒေသသို့ နာဂလူမျိုးများဝင်လာကြ၏။ နာဂတို့သည် အနောက်ဖက်ပိုင်းတွင် နေထိုင်လာကြ၍ သက်တို့၏အနောက်ဖက်ပိုင်းဒေသကို ဖောက်ထွင်းခဲ့ကြသည်။ ချင်းတို့သည်လည်း အနောက်မြောက်မှ ဝင်လာ၍ ချင်းတွင်းမြစ်ရိုးတလျှောက်တွင် နေထိုင်လာကြသဖြင့် သက်တို့၏အစုမှာ ထပ်မံ၍ ကွဲသွားရပြန်သည်။ တောင်ဘက်သို့လည်း တဆင့်တိုး၍ ရွှေ့သွားခဲ့ရဟန် တူသည်။

ဤသက်၊ နာဂနှင့်ချင်းတို့ ဝင်လာကြသဖြင့် မူလကရှိခဲ့သော မွန်ခမာအနွယ်ဝင်တို့မှာလည်း ဝေးလံစွာ တကွဲတပြားစီ ဖြစ်ခဲ့ရပေသည်။

အလားတူပင် သမိုင်းခေတ်ဦးလောက်က ကရင်အမျိုးသားတို့သည် အရှေ့မြောက်ဖက်ဆီမှ သံလွင်မြစ်ကြောင်းတလျှောက်တွင် လှုပ်ရှားရွှေ့ပြောင်းနေပြီး ဖြစ်ခဲ့ဟန်တူ၏။ သူတို့သည် ရှမ်းပြည်မြောက်ပိုင်းရှိ မွန်ခမာအနွယ်ခွဲဝင်တို့နေရာကို ဖောက်ထွင်းခဲ့၍ ငြိမ်းချမ်းအေးဆေးစွာ တောင်ဘက်သို့ရွှေ့

ပြောင်းလာခဲ့၏။ ရှမ်းပြည်တောင်ပိုင်းလောက်သို့ ရောက်မှ အနောက်သို့ဆက်လက် ရွှေ့ပြောင်းခဲ့ကြဟန်တူသည်။ ဤသို့ဖြင့် ရှမ်းပြည်နှင့်ယခုယိုးဒယားနိုင်ငံရှိ မွန်ခမာအနွယ်ခွဲဝင်တို့သည် တကွဲတပြားဖြစ်ခဲ့ကြရသည်ဟု ဆိုဘွယ်ရာရှိပေသည်။

## ပြောင်းလဲမှုများ

ရှိရင်းမူလတိုင်းရင်းသားတို့မှာ မိမိတို့ပိုင် လူနေမှုစနစ်၊ ယဉ်ကျေးမှုနှင့်စီးပွားရေးစနစ်တို့ရှိကြသည်။ ယင်းတို့အနက် အနည်းစုမှာ နိုင်ငံခြားမှ ရောက်လာသော အိန္ဒိယသားလူစုတို့၏ယဉ်ကျေးမှုစနစ် စသည်တို့နှင့် တွေ့ထိရသည်။

ယခု တဖန် တိဗက်မြန်မာအနွယ်ဝင်တို့ ရောက်လာပြန်သည်။ အသစ်ဝင်လာသော လူစုမှာလည်း သူတို့စနစ် သူတို့ယဉ်ကျေးမှုနှင့်ဖြစ်သည်။ ရှိရင်းလူစုနှင့်တွေ့ထိရောနှောမိကြသောအခါ လူမှုရေး၊ စီးပွားရေးနှင့်ယဉ်ကျေးမှုတို့သည် အပြန်အလှန် အကျိုးပြုခြင်းရှိ၍ အထိုက်အလျောက်ပြောင်းလဲမှုများ ရှိမည်သာဖြစ်မည်။

မြို့ပြပြည်ရွာ တည်ထောင်၍ အိန္ဒိယစနစ်အားကောင်းသော နေရာတို့တွင် ပဒေသရာဇ်လူမှုရေးစနစ်သစ်၊ စီးပွားရေးစနစ်သစ်တို့ ပုံတည်ပေါ်ပေါက်မည်သာဖြစ်သည်။

သို့ဖြစ်လင့်ကစား လူမျိုးများ ရွှေ့ပြောင်းမှု၊ စီးပွားရေးနှင့်လူမှုရေးစနစ်အသွင်ပြောင်းမှုတို့မှာ ရက်ချင်း၊ လချင်း၊ နှစ်ချင်းဖြစ်သည့် ဖြစ်ရပ်များမဟုတ်။ နှစ်ရှည်လများ လူအဆက်ဆက်ကြာအောင် တရွေ့ရွေ့တဖြည်းဖြည်းဖြစ်ပေါ်ပြောင်းလဲလာသည့်ဖြစ်ရပ်များဖြစ်သည်။ ရွှေ့ပြောင်းခြင်းမပြုဘဲ ချန်နေရစ်ခဲ့ခြင်း၊ လူမှုရေးနှင့်စီးပွားရေးစနစ်ဟောင်း၌ပင် စွဲမြဲစွာကျန်နေရစ်ခြင်းများ အများပင် ရှိသည်ကို သတိချပ်ဖို့ လိုပေသည်။

လူမှုစီးပွားရေးကို ထူးခြားစွာ ပြောင်းလဲစေခဲ့သော သမိုင်းခေတ်ဦးဖြစ်ရပ်တခုမှာ လူသုံးကုန်ထုတ်လက်နက်များကို ကြေးသတ္တုနှင့်ပြုလုပ်တတ်လာခြင်းပင် ဖြစ်သည်။ ဤအကြောင်းကိုကား သီးခြားဖေါ်ပြရန် လိုပေမည်။

## ကုန်ထုတ်ကရိယာပြောင်းလဲမှု

သမိုင်းဦး ဘုံမြေခေတ်မှ မြေရှင်ပဒေသရာဇ်ခေတ်ဦး၏အစသို့ပြောင်းလဲလာခဲ့ပုံကို အထက်တွင် ဆိုခဲ့ပြီး ဖြစ်သည်။ ကုန်လုပ်ဆက်ဆံရေးပေါ်တွင် အခြေပြုသော လူနေမှုဘဝပြောင်းလဲမှုကို ဖန်တီးသည့် အကြောင်းအရာတို့တွင် ကုန်လုပ်ကရိယာ ပြောင်းလဲလာမှုသည် အကြောင်းတရားတရပ် ဖြစ်ပေသည်။

သမိုင်းဦးဘုံမြေခေတ်အတွင်းက ကုန်လုပ်ကရိယာများ ပြောင်းလဲလာမှုကြောင့် ကုန်ထုတ်လုပ်နည်းနှင့်စနစ်များပါ ပြောင်းလဲခဲ့ပုံ၊ ယင်းတို့ကို အခြေပြု၍ လူနေမှုဘဝ တိုးတက်ခဲ့ပုံကို တွေ့ခဲ့ရပြီးဖြစ်၏။

## ရှေးဦးပဒေသရာဇ်များ

ခရစ်နှစ်ပေါ်ဦးကာလတွင်မူ အရှေ့တောင်အာရှ လူတို့သည် ကြေး၏အသုံးကို သိခဲ့၏။ ကြေးသွန်းအတတ်ကို တတ်သိလာကြ၏။ ကြေးသတ္တုမှာ ကျောက်လောက်မပေါများ၊ လွယ်ကူစွာလည်း မရနိုင်။ အဖိုးတန်ပစ္စည်းဖြစ်သည်။ သို့ဖြစ်ရကား ကြေးသွန်းအတတ်ကို သိကြပြီဆိုသည့်တိုင်အောင် လူနည်းစုလောက်သာ ကြေးဖြင့်ပြုလုပ်သော ကုန်ထုတ်ကရိယာ လက်နက်များကို ပိုင်ဆိုင်ကြသည်။ အများစုကမူ အစဉ်အလာကျောက်ချောလက်နက်များကိုသာ သုံးနိုင်ခဲ့ကြသည်။ ထက်မြက်သော ကြေးလက်နက်များကိုသာ သုံးနိုင်ခဲ့ကြသည်။ ထက်မြက်သော ကြေးလက်နက်ပိုင်သူတို့မှာ အခြားသူများထက် အခွင့်အရေး ပိုသာလာကြ၏။ အခွင့်အရေးပို၍ ယူနိုင်ကြ၏။ အခြားသူများပေါ် လွှမ်းမိုးလာနိုင်ကြ၏။

ဤသို့ဖြင့် လွှမ်းမိုးကြီးစိုးလာသူလူများနှင့်အလွှမ်းမိုးခံလူများဟု ကွဲပြားလာကြ၏။ လွှမ်းမိုးနိုင်သူတို့သည် အခြားသူများကို စေစား၍ ကိုယ်ကျိုးရှာလာကြ၏။ ဤသို့ဖြင့် ရှေးဦးခေါင်းပုံဖြတ်မှုများ ပေါ်လာခဲ့သည်။ ဤခေါင်းပုံဖြတ်သူတို့သည် ကုန်ထုတ်လက်နက်များနှင့်တကွ စိုက်ပျိုးမြေစသည့် အခြားကုန်ထုတ်အရင်းအနှီးများကိုပါ ပိုင်ဆိုင်လာခဲ့ကြ၏။ ဤသူတို့ကား အရှေ့တောင်အာရှ၏ရှေးဦးပဒေသရာဇ်များပေတည်း။

ဤသို့ပြောင်းလဲမှုရှိလာသော ကာလလောက်တွင်ပင် အိန္ဒိယသားများနှင့်အတူ အိန္ဒိယယဉ်ကျေးမှုနှင့်ပဒေသရာဇ်စနစ်များ အရှေ့တောင်အာရှသို့ရောက်လာခဲ့၏။ ယင်းတို့၏လွှမ်းမိုးမှုကြောင့် အရှေ့တောင်အာရှတွင် အိန္ဒိယအသွင်ဆောင်သော ပဒေသရာဇ်နိုင်ငံများ ပေါ်ပေါက်လာခဲ့လေသည်။

မြန်မာနိုင်ငံတွင် ပေါ်ပေါက်ခဲ့သော အိန္ဒိယအသွင်ဆောင်သည့် ပဒေသရာဇ်နိုင်ငံငယ်များအကြောင်းကို မဆိုမီ မြန်မာနိုင်ငံနှင့်အရှေ့တောင်အာရှတွင် တွေ့ခဲ့ရပြီးဖြစ်သော ကြေးလက်နက်များ၊ ကုန်ထုတ်ကရိယာများ၊ လူသုံးပစ္စည်းများအကြောင်းနှင့်ယင်းတို့မှ သိရှိနိုင်သော ကြေးခေတ်လူတို့အကြောင်းကို အကျဉ်းအားဖြင့် ဖော်ပြလိုသည်။

မြန်မာနိုင်ငံ၌ ကြေးလက်နက် ကရိယာများနှင့်လူသုံးပစ္စည်းများကို ကချင်ပြည်နယ် တြိဂံဒေသ၊ မုံရွာခရိုင်၊ ရမည်းသင်းခရိုင်၊ ပဲခူးရိုးမတောင်စွယ်

များ၊ သရက်မြို့၊ ရှမ်းပြည်မြောက်ပိုင်းနှင့်တောင်ပိုင်းဒေသများတွင် အနှံ့အပြား တွေ့ခဲ့ရပြီးဖြစ်၏။ မိုးမိတ်နှင့်တြိဂံဒေသတို့တွင် ကြေးနီလက်ဝတ်တန်ဆာများကိုပါ တွေ့ရသည်။ လက်နက်အများစုမှာ ပုဆိန်သွားနှင့်လှံစွပ်များဖြစ်သည်။ လက်ကိုင်အရိုးစွပ်ရန် အခေါင်းပေါက်များပါသည်လည်း ရှိသည်။ မပါသည်လည်းရှိသည်။ ဧရာဝတီမြစ်ဝှမ်းတွင် တွေ့ရသော ကြေးပုဆိန်သွားများမှာ အချိုးကျ၍ ရှေ့နောက်ညီသည်။ ရှမ်းပြည်ဘက်တွင် တွေ့ရသော ကြေးပုဆိန်သွားတို့မှာ အသွားနောက်ပိုင်းတို့၌ ရှေ့ပိုင်းရှည်ပြီးလျှင် အထက်သို့ကော့တက်နေ၏။ ခြေပုံနှင့်တူသော အသွားမျိုးဖြစ်သည်။ ဤပုံမျိုးကို တရုတ်ပြည်တောင်ပိုင်းယူနန်နယ်နှင့်ဗီယက်နမ်နိုင်ငံမြောက်ပိုင်းတို့တွင် တွေ့ရသည်။

မြန်မာနိုင်ငံ ကြေးလက်နက်ကိရိယာများသည် ချောမွေ့၍ လက်ရာမြောက်လှသည်။ ကြေးသွန်းအတတ်ကို ကောင်းစွာ တတ်မြောက်သူတို့၏ လက်ရာများဖြစ်သည်။ ဤလက်နက်တို့သည် အိန္ဒိယနိုင်ငံဘက်၌ တွေ့ရသော လက်နက်များနှင့်မတူ။ ယူနန်နယ်တွင် တွေ့ရသော လက်နက်များနှင့်ဆင်သည်။ သို့ဖြစ်၍ အိန္ဒိယသားများ မရောက်မီကတည်းက မြန်မာနိုင်ငံ၌ ကြေးသွန်းအတတ်ရှိနေပြီဟု ဆိုနိုင်သည်။

ထိုမှတပါး တိဗက်-မြန်မာရှေ့ပြေးလူများ မဝင်ရောက်မီကတည်းကပင် မြန်မာနိုင်ငံ၌ ကြေးသွန်းအတတ်ရှိနေပြီဟုလည်း ဆိုနိုင်၏။

အကြောင်းမှာ ဗီယက်နမ်နိုင်ငံမြောက်ပိုင်း ဒုင်စောင်သင်းချိုင်းဂူများတွင် တွေ့ရသော လက်နက်တို့မှာ တိဗက်မြန်မာမဟုတ်သူတို့၏လက်နက်များဖြစ်သောကြောင့်တည်း။ ထိုဒေသတွင်တွေ့ရသော ကြေးဖားစည်များနှင့်ခြေပုံပုဆိန်သွားများပေါ်တွင် ထိုခေတ်လူတို့၏ပုံများ၊ လှေများနှင့်ပင်လယ်ခရီးစစ်ချီပုံများ၊ ကခုန်တီးမှုတ်နေပုံများကို တွေ့ရ၏။

ယင်းပုံတို့ကို ထောက်၍ ကြေးခေတ်လူတို့တွင် မုဆိုးများ၊ တံငါများ၊ လယ်သမားများ၊ စစ်သည်များပါဝင်သည်ကို တွေ့ရသည်။ ဒုင်စောင် ကြေးပစ္စည်းတို့တွင် လယ်သမားအသုံးအဆောင်ပစ္စည်းများလည်း ပါဝင်သည်။ အေဒီ ၁၀၀-ခန့်က တရုတ်ကြေးပစ္စည်းများလည်း တွေ့ရသည်။ ဒုင်စောင်ကြေးပစ္စည်းများသည် သပ်ရပ်၍ ချပ်ချပ်ရပ်ရပ် ရှိသည်။ တရုတ်ပစ္စည်းများမှာ ပွယောင်းယောင်းနှင့်ထူပိန်းပိန်း ရှိသည်။ တရုတ်လက်ရာနှင့်မတူသောပစ္စည်းများ ဖြစ်သည်။

ဒုင်စောင်ကြေးခေတ်လူတို့၏ဖားစည်မျိုးကို လော၊ ယိုးဒယားနှင့်မြန်မာနိုင်ငံတို့တွင်လည်း တွေ့ရသည်။ သူတို့၏ဗူးခါးပလွေမှာ ရှမ်းပြည်တောင်ပိုင်း တိုင်းရင်းသားကုန်းမြင့်သားတို့၏ကဲန်းခေါ်ဗူးခါးပလွေများနှင့်အလွန်တူသည်။ ယူနန်မြန်မာနယ်စပ်တွင် ဒုင်စောင်ခြေပုံပုဆိန်သွားနှင့်တူသော ပုဆိန်သွားများကို တွေ့ရသည်။ သို့ဖြစ်၍ ဒုင်စောင်ကြေးခေတ်ယဉ်ကျေးမှုမျိုးသည် မြန်မာနိုင်ငံဘက်တွင်လည်း ပေါ်ပေါက်ခဲ့သည်ဟု ဆိုနိုင်သည်။

ခရစ်ပေါ်ဦးလောက်ကဟု ခန့်မှန်းရသော ဧရာဝတီမြစ်ဝှမ်း မကွေးခရိုင် ဗိဿနိုးမြို့ဟောင်းတွင် သံပစ္စည်းအချို့ကို တွေ့ရသည်။ သို့ဖြစ်၍ မြန်မာနိုင်ငံတွင် ကြေးခေတ်အတွင်းက သံ၏အသုံးကိုလည်း သိနေကြပြီဟုဆိုရပေမည်။

## ရှေးဦးပဒေသရာဇ်နိုင်ငံငယ်များ

သမိုင်းခေတ်ဦးတွင် အရှေ့တောင်အာရှ၌ ပဒေသရာဇ်နိုင်ငံငယ်များ ပေါ်ပေါက်ခဲ့သော်လည်း သမိုင်းဦးဘုံမြေစနစ်လူနေမှုဘဝနှင့်နေထိုင်သူအများ ဆက်လက်၍ ရှိနေခဲ့ပေသည်။ စနစ်သစ်အတွင်းသို့ စနစ်ဟောင်းအမျှင်တန်း၍ ပါလာခြင်းသည် သဘာဝတရားအတိုင်း ဖြစ်သည်။

မြန်မာနိုင်ငံတွင် ရှေးဦးပေါ်ပေါက်ခဲ့သော ပဒေသရာဇ်နိုင်ငံတို့အနက် သုဝဏ္ဏဘူမိ၊ ဗိဿနိုး၊ တကောင်းနှင့်ဝေသာလီနိုင်ငံငယ်တို့ ထင်ရှားသည်။

## သုဝဏ္ဏဘူမိ

ယခုစစ်တောင်းနှင့်သံလွင်မြစ်နှစ်သွယ်စပ်ကြား မုတ္တမပင်လယ်ကွေ့ပေါ်ရှိ ကမ်းမြောင်ဒေသမှာ သုဝဏ္ဏဘူမိနိုင်ငံတည်ခဲ့ရာ ဒေသဖြစ်၏။ မြို့တော်မှာ ထိုဒေသရှိ ကေသာလတောင်ခြေတွင် ရှိသည်။ အိန္ဒိယတောင်ပိုင်း မလေးကျွန်းဆွယ်၊ သီဟိုဠ်ကျွန်းတို့နှင့်ကုန်သွယ်ရာ ဆိပ်ကမ်းမြို့ကြီးဖြစ်၏။ ထိုမြို့သည် တနင်္သာရီရိုးမကို ဖြတ်ကျော်ကာ ယိုးဒယားနိုင်ငံဘက်ရှိ ဒွါရာဝတီနိုင်ငံနှင့်ကုန်းလမ်းကုန်သွယ်ရာ စခန်းမြို့လည်း ဖြစ်သည်။

သမိုင်းခေတ်ဦးက ဤမြို့ကို ရတနာသိုက်ကြီးအဖြစ် သိခဲ့ကြ၏။ တရုတ်၊ ရောမ၊ ခေါမ၊ အိန္ဒိယကုန်သည်များက ဤမြို့ကို 'ရွှေမြေ'ဟု အဓိပ္ပါယ်ရသော မိမိတို့ဘာသာစကားဖြင့် အမည်ပေး၍ မှတ်တမ်းတင်ခဲ့ကြ၏။ သုဝဏ္ဏဘူမိနိုင်ငံ၏နယ်အကျယ်မှာ အနောက်ဖက် ဧရာဝတီမြစ်၊ အရှေ့ဘက် သောင်ရင်းမြစ်အထိဖြစ်သော ဧရာဝတီ၊ စစ်တောင်း၊ သံလွင်မြစ်တို့၏မြစ်ဝကျွန်းပေါ်ဒေသဟု ယူဆနိုင်သည်။

ဤဒေသတွင် ခရစ်ပေါ်ဦးလောက်က နေထိုင်သွားကြသူတို့မှာ ဩစတြေလွိုက်လူမျိုးနွယ်ဝင်များ ဖြစ်သည်။ မြန်မာဒန္တာရီ(ဒဏ္ဍာရီ)တို့တွင် ဘီလူးဟုခေါ်နေသူများမှာ ဤလူများပင် ဖြစ်သည်ဟု ယူဆရ၏။ ဘီလူးတို့နေရာသို့ ရှေးဦးမွန်များ ရောက်လာသောအခါ ဘီလူးတို့သည် ပင်လယ်တွင်းသို့ ဆုတ်ခွာပေးခဲ့ရဟန်တူသည်။ မိမိတို့နေရာဟောင်းကို ပြန်ရရေးအတွက် ဘီလူးတို့သည် ကမ်းသို့တက်၍ ရှေးဦးမွန်တို့နှင့်အခါအားလျော်စွာ စစ်ဆင်ခဲ့ကြသည်။ မနိုင်သည်၏အဆုံး၌ အချို့ပင်လယ်တွင်းရှိ ကျွန်းများသို့ ရွှေ့ပြောင်းခဲ့သည်။ အချို့မှာ ယခု သထုံဖြစ်သောရက္ခပူရမြို့ကို တည်ထောင်ခဲ့၏။ ရှေးဦးမွန်တို့အင်အားများလာသောအခါ ဘီလူးတို့သည် ထိုဒေသမှာပင် တောင်ဘက်သို့ ရွှေ့ပြောင်းခဲ့ကြဟန်တူ၏။

ဘီစီ ၂၅၀-ခန့် ရှင်သောနနှင့်ရှင်ဥတ္တရမထေရ် ၂-ပါးသည် သုဝဏ္ဏဘူမိသို့ သာသနာပြုရောက်ခဲ့ကာ ထေရဝါဒသာသနာ၏အစကို ဤနိုင်ငံတွင် ပျိုးထောင်ခဲ့သည်ဟု အဆိုရှိသည်။ ဤဒေသရှိ ကေလာသတောင်မှာ ပုဂံခေတ်ကျန်စစ်သားမင်းကြီးနှင့်ဟံသာဝတီ ဓမ္မစေတီမင်းတို့ အထွတ်အမြတ်ထားရာ ဗုဒ္ဓသာသနာ၏အချက်အချာဒေသတခု ဖြစ်ပေသည်။

သုဝဏ္ဏဘူမိနိုင်ငံသားတို့သည် ဆင်ဖမ်းဝါသနာပါ၍ ဆင်ကို စီးနင်းကြကြောင်း၊ ဆင်များသေလျှင် ဆင်စွယ်ကို နုတ်ယူကြကြောင်း၊ ထိုမြို့မှ အတွင်းပိုင်းသို့ သွားသော ကုန်းလမ်းခရီးကိုလိုက်လျှင် 'လင်ယန်'ခေါ်နိုင်ငံတခု ရှိကြောင်း၊ ဤနိုင်ငံတွင် လူဦးရေစည်ကား၍ ဗုဒ္ဓသာသနာထွန်းကားကြောင်းနှင့် အေဒီ ၃၀၀-ခန့်က ရေးသော တရုတ်မှတ်တမ်းတွင်တွေ့ရ၏။

## ဗိဿနိုးမြို့

ဤမှတ်တမ်းလာ အထောက်အထားများအရ ‘လင်ယန်’မှာ ယခု ဗိဿနိုးမြို့ဟောင်းဟု ယူဆရန်ရှိပေသည်။ ဗိဿနိုးမြို့ဟောင်းသည် မကွေး ခရိုင် ဧရာဝတီမြစ်၏အရှေ့ဘက် လက်တက်ငယ်တခုဖြစ်သော ယင်းချောင်း ဝှမ်း၏အနောက်စွန်းတွင် ရှိသည်။ ဤမြို့၏စီးပွားရေး ကျောထောက်နောက် ခံနယ်မှာ ဤယင်းချောင်းဝှမ်းပင်ဖြစ်၏။ ယင်းချောင်းဝှမ်းမှာ မြေသြဇာကောင်း ၍ စပါးစိုက်ပျိုးနိုင်သည်။ ပုဂံခေတ် ရှေးဦးမြန်မာတို့ တည်ထောင်ခဲ့၍ သမိုင်း စဉ်တွင် ထင်ရှားခဲ့သော တောင်တွင်းကြီးမြို့သည် ဤချောင်းဝှမ်း၏အရှေ့စွန် တွင် ရှိသည်။

ဗိဿနိုးမြို့မှာ အေဒီ ၁-ရာစုထက်နောက်မကျဘဲ တည်ခဲ့သော မြို့ ဖြစ်၏။ မြို့သားတို့မှာ မွန်ဂိုလွိုက်လူမျိုးနွယ် တိဗက်မြန်မာအနွယ်ဝင်ဘာသာ စကားကို ပြောသော ရှေးဦးပျူများဖြစ်ကြသည်။ ဤနိုင်ငံငယ်မှာ ပျူပဒေသ ရာဇ်သမိုင်း၏အစပင် ဖြစ်သည်။

တရုတ်နှင့်အိန္ဒိယကို ဆက်သွယ်ပေးထားသော ကုန်သည်ကုန်းလမ်း မကြီးတွင် ဧရာဝတီမြစ်ကို ဖြတ်သည့်နေရာမှ ဧရာဝတီမြစ်ကို လိုက်သည့် တောင်ဘက်လမ်းခွဲတခု ရှိခဲ့သည်။ ယင်းလမ်းခွဲအတိုင်းလိုက်သော် တကောင်း နှင့်ဗိဿနိုးကို ဖြတ်၍ ပင်လယ်ကမ်းသို့ ရောက်နိုင်၏။

ယင်းမှတဆင့် အိန္ဒိယနိုင်ငံတောင်ပိုင်းသို့ ဆက်သွားနိုင်သည်။ အိန္ဒိယ တောင်ပိုင်းမှ ကုန်သည်တို့သည် ဤတောင်ဘက်လမ်းခုလပ် ပျူတို့၏ဒေသ ဖြစ်သော ဗိဿနိုးတွင် ကုန်သည်စခန်းဖွင့်ခဲ့ဟန် တူ၏။ ဤမြို့ဟောင်းတွင် တွေ့ရသော ယဉ်ကျေးမှုဆိုင်ရာ အထောက်အထားတို့မှာ အိန္ဒိယနိုင်ငံတောင် ပိုင်းနှင့်ဆက်သွယ်နေသည်ကို တွေ့ရ၏။ သရေခေတ္တရာယဉ်ကျေးမှုလက္ခဏာ များကိုလည်း ဗိဿနိုးတွင်တွေ့ရ၏။

ဗိဿနိုးမြို့ဟောင်းမှာ လေးဒေါင့်မကျတကျ၊ မြို့ရိုးတန်တိုင်းနှင့်ကျုံး များ ရံလျက်ရှိသည်။ မြို့နေမြို့ခင်း ကျယ်ဝန်းသည်။ မြို့တွင်း၌ တောင်မြောက် တန်းနေသော တန်တိုင်းကြီးတခုသည် မြို့ကို အရှေ့ခြမ်း အနောက်ခြမ်းဟု နှစ်ခြမ်းခွဲထား၏။ အရှေ့ခြမ်းတွင် မြို့တွင်းသားတို့၏ရိက္ခာအတွက် စိုက်ပျိုး ခင်းများသာ ရှိ၏။

အနောက်ခြမ်းတွင် နန်းတော်ဟောင်းနှင့်သာသနာအဆောက်အအုံများရှိ၍ လူနေရပ်ကွက်ဖြစ်သည်။ ရှေးဟောင်းခေတ် စစ်ဆင်မှုတွင် မြို့ကို ဝန်းရံတိုက်ခိုက်ကြသည်ဖြစ်ရာ ဤတိုက်ခိုက်မှုကို ကြာရှည်ခုခံနိုင်ရန် မြို့ကို ကျယ်ဝန်းစွာ တည်ဆောက်၍ မြို့တွင်း၌ပင် စားရေရိက္ခာထုတ်လုပ်နိုင်ရန် စီစဉ်ထားချက်ဖြစ်သည်။

မြို့တွင်းနေလူတို့မှာ အုပ်စိုးသူပဒေသရာဇ်များနှင့်သူတို့ကို အလုပ်အကျွေးပြုသူများဖြစ်ဟန် တူ၏။ သာမန်တိုင်းသူပြည်သား၊ အလုပ်သမား၊ လယ်သမားတို့မှာ ယင်းချောင်းလွင်ပြင်၌ ပြန့်နှံ့နေထိုင်ခဲ့သည်။

ဗိဿနိုးနိုင်ငံသားတို့သည် သံ၏အလုံးကို ကောင်းစွာသိခဲ့ကြ၏။ နိုင်ငံသားတို့၏အဓိကကုန်ထုတ်လုပ်ငန်းမှာ စပါးစိုက်ပျိုးမှုဖြစ်သည်။ ပန်းရံ၊ ပန်းဘဲ၊ ပန်းတဉ်း၊ ပန်းထိမ်၊ ပန်းတမော့၊ မြေအိုးလုပ်ငန်း၊ ရောင်စုံပုတီးလုပ်ငန်းငယ်တို့ကို ပြုလုပ်တတ်သည့်အနုပညာဗီဇရှိနေကြပြီဖြစ်၏။

ယက်ကန်းအတတ်ကိုလည်း တတ်သိကြပြီးဟု ယူဆဘွယ်ရာရှိသည်။ အေဒီ ၂-ရာစုက အိန္ဒိယတောင်ပိုင်းတွင် အသုံးပြုခဲ့သည့်ဗြဟ္မီအက္ခရာနှင့် ရိုက်နှိပ်ထားသော မြေတံဆိပ်တခုကိုလည်း တွေ့ရသဖြင့် ထိုခေတ်ကပင် အက္ခရာနှင့်စာပေရေးသားမှုအတတ် ရောက်ခဲ့ပြီဟု ဆိုနိုင်၏။

အိန္ဒိယနိုင်ငံတောင်ပိုင်းမှ ရုပ်ပွားဆင်းတုတော်များကို ကိုးကွယ်ယုံကြည်မှုမရှိသေးသော ဗုဒ္ဓသာသနာဂိုဏ်း၏ကိုးကွယ်ယုံကြည်မှုသည် ဗိဿနိုးမြို့သို့ရောက်ခဲ့ပြီဖြစ်ကြောင်း အခိုင်အမာ သိရပေသည်။

ဗိဿနိုးနိုင်ငံငယ်၏လုပ်သားပြည်သူတို့မှာ အုပ်စိုးသော ပဒေသရာဇ်များနှင့်သူတို့၏ခံတပ်မြို့ကြီးတို့ကို မိမိတို့၏ဘဝလုံခြုံရေးအတွက် အဓိကအားဖြင့် အမှီပြုခဲ့ကြရသည်။

ဤနိုင်ငံမှာ အေဒီ ၁-ရာစုခန့်တွင် ရှေးဦးပျူတို့သည် ထောင်ခဲ့သော အိန္ဒိယအသွင်ကို ဆောင်သည့်နိုင်ငံဖြစ်၏။ နှစ်ရှည်လများ နေထိုင်ခဲ့ပြီးနောက် မြို့သည် တကြိမ်ပျက်ခဲ့ရသည်။ တဖန် ပြန်လည်တည်ထောင်၍ နေထိုင်လာခဲ့ကြရာ အေဒီ ၅-ရာစုလောက်တွင် သရေခေတ္တရာပျူတို့နှင့်စစ်မက်ဖြစ်၍ ပျက်သုဉ်းခဲ့ရပေသည်။

ဗိဿနိုးမြို့၏အခန်းမှာ မြန်မာနိုင်ငံပျူတို့၏သမိုင်းစဉ်တွင် ရှေးဦးလက်မွန်အခန်းဖြစ်သည်ဟု မှတ်သားရပေသည်။

## တကောင်း

ကသာခရိုင် ဧရာဝတီမြစ်၏အရှေ့ဘက်ကမ်းပေါ်တွင်ရှိခဲ့သော တကောင်းမှာလည်း ပဒေသရာဇ်လူ့အဖွဲ့အစည်း၏ရှေးကျလှသော အချက်အချာမြို့ကြီးတမြို့ ဖြစ်သည်။ တကောင်းမှာ တိဗက်မြန်မာဘာသာစကား အနွယ်ဝင်သက်တို့၏မြို့တော်ဖြစ်၏။

တကောင်းနိုင်ငံသည် အနောက်ဖက် မဏိပူရပြည်၊ အရှေ့ဘက် ရှမ်းကုန်းပြင်မြင့်၏အခြေ၊ တောင်ဘက် မြန်မာနိုင်ငံအလယ်ပိုင်း ပုဂံမြို့လောက်ထိ ကျယ်ပြန့်ခဲ့ဟန်တူ၏။ အုပ်ချုပ်ရေးအာဏာစက်သည် ဤဒေသများအထိ ပြန့်နှံ့သည်ဟု အတိအကျမဆိုနိုင်သည့်တိုင်အောင် ရှေးသက်တို့သည် ဤဒေသများအထိ ပြန့်နှံ့ရောက်ခဲ့ကြောင်းကိုကား ဆိုနိုင်ပေသည်။

မဏိပူရပြည်ကိုဖြတ်၍ အိန္ဒိယပြည်ကို သွားသော ရှေးကုန်သည်လမ်းနှင့်တောင်ဘက်ပင်လယ်သို့သွားသော ခရီးလမ်းတို့ပေါ်တွင် တည်ရှိနေသဖြင့် တကောင်းသည် အိန္ဒိယနှင့်တရုတ်ပြည်ယဉ်ကျေးမှုများကို ရရှိနိုင်သည့်နေရာတွင် ရှိခဲ့ပေသည်။ ခန့်ညားသော မြို့ရိုးမြို့တာများ ရှိသည့်ပဒေသရာဇ်မြို့တမြို့ ဖြစ်သည်။ ဤမြို့ကို စနစ်တကျ တူးဖော်ခြင်း မရှိသေးသဖြင့် ဤမြို့အကြောင်းကို ဗိဿနိုးမြို့လောက် မသိရသေးပေ။

ဤဒေသတွင် ပုဂံခေတ်က ကြီးစိုးခဲ့သူတို့မှာ သက်ဘာသာစကားအစုဝင် ကဒူးများဖြစ်သည်။ ပုဂံခေတ်တွင် သင်းတွဲမြို့ဟုထင်ရှားသည်။ ပုဂံခေတ်ပျက်သည့် (၁၃၀၀-အေဒီ)ထိပင် အရေးပါသော မြို့တမြို့ဖြစ်၏။ ရှေးက တသီးတခြားရှိခဲ့သော်လည်း ပုဂံနားဋ္ဌောင်းများ မင်းလက်ထက်မှစ၍ ပုဂံနိုင်ငံနှင့်တပူးတပေါင်းတည်းဖြစ်ခဲ့သည်။ ပုဂံအနော်ရထာမင်းလက်ထက်တွင် တကောင်းကို အထူးအရေးထားခဲ့၍ တကောင်းကို ဗဟိုပြုသော ကဒူးတို့နှင့် ရင်းနှီးစွာ ဆက်ဆံခဲ့ဟန် တူ၏။

## ဝေသာလီနိုင်ငံ

ရခိုင်တိုင်း ကုလားတန်မြစ်နှင့်လေ့မြို့မြစ်ဝှမ်းတို့တွင် ပေါ်ပေါက်သော ဝေသာလီနိုင်ငံသည် မည်မျှရှေးကျသည်ကို အတိအကျမဆိုနိုင်သေးပေ။ အ

ချက်အချာဖြစ်သော ဝေသာလီမြို့ဟောင်းမှာ မြောက်ဦးခေါ်မြို့ဟောင်း၏ မြောက်ဖက် ၆-မိုင်ခန့်အကွာတွင် ရှိသည်။ မြို့နေမြို့ထားမှာ အဝန်းအဝိုင်း ပုံဖြစ်သည်။ ဗိဿနိုးမြို့ကဲ့သို့ပင် ကျယ်ဝန်းသည်။ ဤမြို့ကို တည်ထောင်ခဲ့သူ တို့မှာ အင်ဒိုအာရေယန်အနွယ်ဝင် အိန္ဒိယမြောက်ပိုင်းသားတို့ ဖြစ်သည်။

ထိုမြို့တွင် ရှေးဦးစွာ ထွန်းကားခဲ့သော ကိုးကွယ်ယုံကြည်မှုမှာ သိဝ နတ်ကိုးကွယ်သော ဟိန္ဒူဝါဒဖြစ်သည်။ နောက်ပိုင်းတွင် ဗုဒ္ဓသာသနာရောက် ခဲ့သည့် အထောက်အထားများကို တွေ့ရသည်။ ထိုသမိုင်းခေတ်ဦးလောက်က ကုလားတန်နှင့်လေ့မြို့မြစ်ဝှမ်းတွင်ရှိခဲ့သော တိုင်းရင်းသားတို့မှာ 'မဂို'များဖြစ် ဟန်တူ၏။ ဝေသာလီမြို့ကို အခြေပြုသော ပဒေသရာဇ်တို့သည် စပါးကောင်း စွာထွက်သည်။ ဤမြစ်ဝှမ်းများနေ လူများကို ကြီးစိုးအုပ်ချုပ်ခဲ့၍ အိန္ဒိယမြောက် ပိုင်း စာပေယဉ်ကျေးမှုနှင့်ကိုးကွယ်ယုံကြည်မှုတို့ကို ကျင့်သုံးခဲ့သူများ ဖြစ်သည်။

ဝေသာလီပြည်သည် ရှေးဦးမြန်မာများ(ရခိုင်များ)ရွှေ့ပြောင်းရောက် ရှိလာသည့် ၁၀-၁၁-ရာစုနှစ်များအထိ ရှိခဲ့သည်ဟု ယူဆရပေသည်။

သုဝဏ္ဏဘူမိ၊ ဗိဿနိုး၊ တကောင်းနှင့်ဝေသာလီတို့မှာ ပဒေသရာဇ် နိုင်ငံငယ်များ ဖြစ်သည်။ ထိုနိုင်ငံငယ်တို့၏အသိုင်းအဝိုင်းအတွင်း နေထိုင်ခဲ့ ကြသော တိုင်းသူပြည်သားတို့၏လူနေမှုဘဝကို ဖန်တီးချုပ်ကိုင်ခဲ့သော အဖွဲ့ အစည်းဖြစ်သည်။

ဤအဖွဲ့အစည်းတို့ထက် ကြီးမားသောပဒေသရာဇ်လူ့အဖွဲ့အစည်း ကို အေဒီ ၅-ရာစုလောက်မှစ၍ မြန်မာနိုင်ငံအလယ်ပိုင်းတွင် တွေ့နိုင်ပေ သည်။ ဤလူ့အဖွဲ့အစည်းမှာ သရေခေတ္တရာကို အခြေပြုသည့်ဒုတိယပျူခေတ် ၏ပဒေသရာဇ်လူ့အဖွဲ့အစည်းပေတည်း။



## သမိုင်းဦးဘုံမြေခေတ်မှ ပဒေသရာဇ်သို့ ကူးပြောင်းမှုပြဿနာ

ပျူခေတ်အကြောင်းကို မဆိုမီ မြန်မာနိုင်ငံနှင့်အရှေ့တောင်အာရှ နိုင်ငံတို့တွင် လူနေမှုဘဝသည် ပဒေသရာဇ်သို့ ပြောင်းလဲခဲ့ခြင်းနှင့်စပ်လျဉ်း၍ အချက်နှစ်ချက်ကို ဖေါ်ပြလိုသည်။

ပထမအချက်မှာ ဤဒေသလူ့သမိုင်းတွင် သမိုင်းဦးဘုံမြေခေတ်မှ ပဒေသရာဇ်ခေတ်သို့ တိုက်ရိုက်ပြောင်းလာခဲ့ရသလော၊ စပ်ကြားတွင် ဥရောပနိုင်ငံမှာကဲ့သို့ ကျေးပိုင် ကျွန်ပိုင်စနစ်ရှိခဲ့သလောဟူသောအချက် ဖြစ်သည်။

ဒုတိယအချက်မှာ ပဒေသရာဇ်စနစ် ပေါ်ပေါက်လာပုံမှာ ကျေးပိုင် ကျွန်ပိုင်စနစ်တွင်မှ သို့မဟုတ် ယင်းစနစ်၏ပယောဂယှဉ်မှုဖြင့် ပေါ်ပေါက်လာရခြင်းလော သို့မဟုတ် မည်သို့ပေါ်ပေါက်လာခဲ့သနည်း။

## ကျွန်လူတန်းစား

ပုဂံခေတ် လူ့အဖွဲ့အစည်းတွင် ကျွန်လူတန်းစား အတန်များများရှိကြောင်း အခိုင်အမာသိရသည်။ ပျူခေတ်ပျက်စဉ်(၈၃၅-အေဒီ)က နန်ကျောက်တို့သည် ပျူအများကို သုံ့အဖြစ်ဖမ်းသွား၍ ကျွန်အဖြစ် စေထားကြောင်းသိရသည်။ ပျူအထက်တန်းလွှာတို့တွင် ကိုယ်လုပ်ကျွန်များရှိကြောင်းလည်း သိရသည်။ ဤထက်စော၍ ကျွန်လူတန်းစား ရှိ မရှိကို အထောက်အထား အခိုင်အမာနှင့်မသိရသေးပေ။

သို့သော် ပုဂံနှင့်ပျူခေတ်တို့တွင် ကျွန်ရှိသည်ကို ထောက်၍ ပဒေသရာဇ်ခေတ်ဦးအစပိုင်းဖြစ်သော ကြေးခေတ်တွင်လည်းကောင်း၊ လယ်ယာစိုက်ပျိုးမှုကို သိရှိလာပြီးနောက် ဘုံပိုင်ဆိုင်မှုမှ ပုဂ္ဂလိကပိုင်ဆိုင်မှုသို့ ကူးပြောင်းသည့်ကာလတို့တွင် ကျွန်လူတန်းစား ရှိခဲ့ပြီဟု သွယ်ဝိုက်၍ ယူဆနိုင်ပေသည်။

## အနောက်နိုင်ငံ ကျွန်စနစ်နှင့်မတူပုံ

ကျွန်လူတန်းစားပင် ရှိလင့်ကစား ပုဂံခေတ် ကျွန်တို့၏လူမှုရေး အခြေအနေနှင့်လူမှုဆက်ဆံရေးအခြေအနေကို ထောက်၍ အရှေ့တောင်အာရှကျွန်စနစ်သည် ဥရောပနှင့်အနောက်နိုင်ငံတို့တွင် ခေတ်တခေတ်ဟု ခွဲခြားဆိုရလောက်အောင် များပြား၍ အခြားလူတန်းစားတို့က တိရစ္ဆာန်တမျှ သဘောထားဆက်ဆံသော ကျွန်စနစ်မျိုးကား မဟုတ်ပေ။ လူလူချင်းညှာတာမှု၊ အကြင်နာတရား ထားတတ်မှုတို့မှာ အရှေ့တောင်အာရှသားတို့၏ယေဘုယျဗီဇစရိုက်ဖြစ်သည်။

ထိုမှတပါး ကရုဏာမေတ္တာနှင့်စေတနာအရင်းခံမှုကို ပိုမိုရင့်သန်စေသည့်ဗုဒ္ဓဝါဒယဉ်ကျေးမှုကို ရလာကြသူများဖြစ်သည်။ ပုဂံခေတ် ကျွန်တို့၏အခြေအနေများကို ထောက်၍လည်းကောင်း၊ အထက်တွင်ဆိုခဲ့သော အကြောင်းများကို ထောက်၍လည်းကောင်း၊ အရှေ့တောင်အာရှ၌ ဥရောပနှင့်အနောက်နိုင်ငံတို့တွင်ပေါ်ပေါက်ခဲ့သော ကျေးပိုင် ကျွန်ပိုင်စနစ်မျိုး မရှိခဲ့တန်ရာဟု ယူဆခြင်းဖြစ်ပေသည်။

## အိန္ဒိယမှ တင်သွင်းလာသော ပဒေသရာဇ်

ဒုတိယအချက်ဖြစ်သော ပဒေသရာဇ်စနစ် ပေါ်ပေါက်လာပုံ အကြောင်းကို အထက်တွင် ရှင်းလင်းဖော်ပြခဲ့ပြီး ဖြစ်ပါသည်။ ဖြည့်စွက်ဖော်ပြလိုသောအချက် အနည်းငယ်ရှိပါသည်။ ပြောင်းလဲလာသော အခြေအနေအရ ပုဂ္ဂလိကပိုင်စနစ်ပေါ်ခဲ့သည်။ ကြေးလက်နက်ပိုင်သူတို့က ကြီးစိုးလာသည်။

ဤသို့ဖြင့် ဒေသိကပဒေသရာဇ်အသွင်ဆောင်သော ပဒေသရာဇ်စနစ်စတင်ခဲ့သည်။ စနစ်ဆိုသည့်တိုင်အောင် အစဉ်အလာနှင့်ထုံးတမ်းနည်းနာအရ

စနစ်တကျဖြစ်သောပဒေသရာဇ်စနစ်ဟု မဆိုသာပေ။

ဤကာလတွင် အိန္ဒိယသားများ ရောက်ရှိလာသည်။ သူတို့သည် ပဒေသရာဇ်စနစ်ဖြင့် နေလာခဲ့သည်မှာ ကာလကြာမြင့်ကြပြီဖြစ်သည်။ သူတို့ထံမှ ရရှိသော အသစ်အဆန်းဖြစ်သည့်လူမှုစီးပွားရေး အချက်အလက်တို့တွင် ဤပဒေသရာဇ်စနစ်လည်း ပါလာသည်။

ဤစနစ်လွှမ်းမိုးမှုကြောင့် အရှေ့တောင်အာရှတွင် ပဒေသရာဇ်စနစ်သည် ခိုင်မြဲလာခဲ့၏။ သို့ဖြစ်၍လည်း အိန္ဒိယအသွင်ဆောင်သော ပဒေသရာဇ်နိုင်ငံများဟူသော အခေါ်အဝေါ်ကို သုံးစွဲထားခြင်းဖြစ်ပေသည်။

## လူ့ဘောင်ဘဝ ခေတ်ပြောင်းလဲလာပုံမှာ အနောက်နှင့်ထပ်တူမဟုတ်

မြန်မာနိုင်ငံနှင့်အရှေ့တောင်အာရှဒေသတွင် ပဒေသရာဇ်စနစ်ပေါ်ပေါက်ခဲ့သည်မှာ အခြေခံအားဖြင့် မှန်သော်လည်း စနစ်တကျဖြစ်သော ပဒေသရာဇ်စနစ်မှာမူ အိန္ဒိယနိုင်ငံမှ သွင်းယူလာသော စနစ်ဖြစ်သည်ဟုဆိုလိုပေသည်။

သို့ဖြစ်ရကား အရှေ့တောင်အာရှဒေသသမိုင်းမတင်မီခေတ်နှင့်သမိုင်းခေတ်ဦးကာလအတွက် လူ့ဘောင်ဘဝနှင့်ခေတ်ပြောင်းလဲပုံသည် ဥရောပတိုက်နှင့်မြေထဲပင်လယ်ပတ်ဝန်းကျင်ဒေသ လူ့ဘောင်ဘဝခေတ်ပြောင်းလဲပုံမျိုးနှင့် ထပ်တူထပ်မျှဖြစ်သည်ဟု မမှတ်ယူအပ်ပေ။

## ပျူပဒေသရာဇ်ခေတ် မြန်မာနိုင်ငံ

သိရှိရသမျှသော အထောက်အထားများအရ ၁-ရာစုအေဒီခန့်မှ ၉-ရာစုအလယ်ပိုင်းလောက်အထိဖြစ်သော ကာလကို မြန်မာနိုင်ငံသမိုင်းတွင် ပျူပဒေသရာဇ်ခေတ် ကြီးစိုးခဲ့သောကာလဟု သာမန်အားဖြင့် ခေါ်ဆိုနိုင်၏။ စစ်တောင်းမြစ်ဝကျွန်းပေါ်နှင့်သံလွင်မြစ်ဝကျွန်းပေါ်တို့တွင် သုဝဏ္ဏဘူမိနိုင်ငံ ကုလားတန်နှင့်လေးမြို့မြစ်ဝှမ်းတွင် ဝေသာလီနိုင်ငံတို့သည် ဤပျူပဒေသရာဇ်ခေတ်နှင့်အပြိုင် ထွန်းကားခဲ့သည်ဟု မှတ်ယူရန်ရှိပေသည်။

## ပျူနိုင်ငံ ၂-နိုင်ငံ

၁-ရာစုခန့်မှ ၉-ရာစုနှစ်များအလယ်လောက်ထိ ကြာညောင်းခဲ့သော ပျူပဒေသရာဇ်အစောပိုင်းနှင့်အနောက်ပိုင်း(သို့မဟုတ် ပထမပျူနိုင်ငံနှင့်ဒုတိယ ပျူနိုင်ငံ)ဟု နှစ်ပိုင်းခွဲခြားနိုင်၏။ အစောပိုင်းကို ၁-ရာစုခန့်မှ ၅-ရာစုခန့်ထိဟု လည်းကောင်း၊ နောက်ပိုင်းကို ၅-ရာစုခန့်မှ ၉-ရာစု အလယ်ခန့်ထိလည်း ကောင်း ခွဲခြားသတ်မှတ်နိုင်၏။ အစောပိုင်းဖြစ်သော ပျူပထမနိုင်ငံ၏မြို့တော် မှာ ဗိဿနိုးမြို့ဖြစ်သည်။ နောက်ပိုင်းဖြစ်သော ပျူဒုတိယနိုင်ငံ၏မြို့တော်မှာ သရေခေတ္တရာဖြစ်သည်။ ပျူမြို့တော်တခုဖြစ်သည်ဟု သိရှိသတ်မှတ်ထားသော ရွှေဘိုခရိုင် ဟန်လင်းကြီးမြို့၏ခေတ်ကာလကို အတိအကျမဆိုနိုင်ပေ။

## ဟန်လင်းပြဿနာ

ဟန်လင်းမှာ သရေခေတ္တရာ ပျက်ပြီးနောက်မှ တည်ထောင်ခဲ့သော ပျူမြို့ဖြစ်သည်။ ဟန်တရုတ်ပြည်နှင့်ဆက်သွယ်ခဲ့သော ပျူမြို့မှာ ဟန်လင်း ဖြစ်သည်။ အေဒီ ၈၃၂-တွင် နန်ကျောက်တို့ တိုက်ခိုက်၍ ပျက်ခဲ့ရသော ပျူ မြို့မှာလည်း ဤဟန်လင်းပင်ဖြစ်တန်ရာ၏ဟု ဆရာကြီးလု(စ်)က ယူဆသည်။

ဤပျူမြို့ဟောင်းသုံးမြို့တွင် တူးဖော်တွေ့ရှိချက်များကို နှိုင်းယှဉ်ကြည့် ပြီးနောက် ဟန်လင်းသည် ယဉ်ကျေးမှု အချက်အလက်တို့၌ ဗိဿနိုးနှင့်ပို၍ နီးစပ်ကြောင်း ရှေးဟောင်းသုတေသနဌာနက တွေ့ရှိခဲ့သည်။

အခြားအခြားသော အထောက်အထားသက်သေများကို အခြေပြုပြီး နောက် ဤပျူမြို့ကြီးသုံးမြို့ ပေါ်ပေါက်ထွန်းကားခဲ့သောအစဉ်မှာ ပထမဗိဿ နိုး၊ ဒုတိယဟန်လင်း၊ တတိယသရေခေတ္တရာဖြစ်သည်ဟု ယူဆဘွယ်ရာရှိ သည်။ ဟန်လင်းသည် ဗိဿနိုးပျက်ပြီးနောက် သို့မဟုတ် ဗိဿနိုးခေတ်နောက် ပိုင်းတွင် ပေါ်ပေါက်ခဲ့သောမြို့ဖြစ်သည်။ ဗိဿနိုးနှင့်အဆက်အသွယ်များခဲ့ သော မြို့ဖြစ်ဖွယ်ရာ ရှိပေသည်။

ရှေးဟောင်းသုတေသနဌာနသည် ဟန်လင်းမြို့ဟောင်းကို အတော် အတန် တူးဖော်ရှာဖွေ၍ သုတေသနပြုခဲ့ပြီး ဖြစ်သည်။ ယင်းသုတေသနလုပ် ငန်းဆိုင်ရာ အစီရင်ခံစာပေါ်ထွက်လာသောအခါတွင် ဟန်လင်းအကြောင်းကို

ပိုမိုသိရှိနိုင်မည်ဟု ယူဆရသည်။ ရှေးကတွေ့ရှိရချက်များကို ထောက်၍ ယဉ်ကျေးမှုဆိုင်ရာတို့တွင် ဟန်လင်းသည် ဗိဿနိုးမြို့ဟောင်းနှင့်ပိုမိုနီးစပ်ကြောင်း ၊ သို့သော် ယဉ်ကျေးမှုဆိုင်ရာတို့တွင် ဟန်လင်းသည် ဗိဿနိုးယဉ်ကျေးမှုထက် များစွာ သာလွန်တိုးတက်နေပြီဖြစ်ကြောင်း သိရသည်။

## ပထမပျူနိုင်ငံ
## (၁-ရာစုခန့်မှ ၅-ရာစုခန့်ထိ)

ပထမပျူနိုင်ငံဖြစ်သော ဗိဿနိုးနိုင်ငံအကြောင်းကို ရှေ့ပိုင်းတွင်ဖေါ်ပြခဲ့ပြီး ဖြစ်သည်။ အေဒီ ၅-ရာစုလောက်တွင် သရေခေတ္တရာပျူနိုင်ငံနှင့်စစ်မက်ဖြစ်၍ ဤနိုင်ငံပျက်သုဉ်းရကြောင်းကိုလည်း ဆိုခဲ့ပြီး ဖြစ်သည်။

## ဒုတိယပျူနိုင်ငံ
## (၅၀၀-အေဒီခန့်မှ ၈၃၂-အေဒီအထိ)

သရေခေတ္တရာကို အခြေပြုသော ဒုတိယပျူနိုင်ငံမှာ ထိုခေတ်က ကမ္ဘာသိနိုင်ငံကြီးတခုဖြစ်၏။ ခေတ်ပြိုင်ဟန်တရုတ်ပြည်၊ ပါရှင်းနိုင်ငံ၊ အာရပ်နိုင်ငံ၊ ယခု အင်ဒိုနီးရှားနိုင်ငံတို့၏ခေတ်ပြိုင်စာပေတို့တွင် ဤနိုင်ငံအကြောင်းကို တွေ့ရှိနိုင်သည်။ ခေတ်ပြိုင်မဟုတ်ဘဲ များစွာနောက်ကျမှ ရေးသားခဲ့သော မြန်မာရာဇဝင်ကျမ်းများတွင် ပါရှိသည့် ဤနိုင်ငံတည်ထောင်ခဲ့ပုံအကြောင်းမှာ ဒန္တာရီ(ဒဏ္ဍာရီ)ဆံလှသည်။

ဤရာဇဝင်ကျမ်းတို့ထက် ရှေးကျသော ကျန်စစ်သားမင်းကြီး၏ရွှေဆံတော်စေတီ(ပြည်မြို့)ကျောက်စာတွင် မြတ်စွာဘုရား ပရိနိဗ္ဗာန်ပြုသည့်နှစ် (၅၄၄-ဘီစီ)တွင် ဗိဿနိုးရသေ့ဂဝံပတိ၊ သိကြားမင်း၊ ဝိသကြုံနတ်သား၊ ကတကမ္ပနဂါးမင်းတို့ ပူးပေါင်း၍ သရေခေတ္တရာမြို့ကို တည်မည်ဖြစ်ကြောင်း၊ ထိုမြို့သည် နှစ်ပေါင်း ၁၂၀၀(၆၅၆-အေဒီထိ)တည်တန့်မည်ဖြစ်ကြောင်း မြတ်စွာဘုရားက ဗျာဒိတ်ပေးခဲ့ဟန် ဖေါ်ပြထား၏။

ပုဂံခေတ်ကတည်းကပင် ရှေးကျလှသော ဤမြို့တော်အကြောင်းမှာ ယင်းထက်ရှေးကျသော ဗိဿနိုးမြို့တော်အကြောင်းနှင့်ရောထွေးနေပြီဟု ထင်

မှတ်ဖွယ်ရာ ဖြစ်သည်။

ရှေးဟောင်းသုတေသန အထောက်အထားနှင့်ခေတ်ပြိုင်နိုင်ငံခြား စာပေအထောက်အထားများအရ ခန့်မှန်းသိရှိရသော ဤမြို့၏သမိုင်းအကျဉ်း မှာ ဤသို့ဖြစ်သည်။

## သရေခေတ္တရာမြို့တော်နှင့်ပျူပဒေသရာဇ်များ

ပြည်မြို့၏အရှေ့တောင် ၅-မိုင်ခန့်ကွာ ယခုမော်ဇာမီးရထားဘူတာ ရုံမှာ 'သရေခေတ္တရာမြို့'ဟောင်း၏အလယ်ဗဟိုလောက်တွင် ရှိသည်။ သရေ ခေတ္တရာ(အသရေရှိသော လယ်မြေ)ဟူသောအမည်မှာ အိန္ဒိယနိုင်ငံ ဩရိသ နယ် မဟာနဒီမြစ်ဝရှိ ပူရီမြို့၏ရှေးအမည်ဖြစ်သည်။ ဤသည်ကို ထောက်၍ ဒုတိယပျူနိုင်ငံနှင့်ဩရိသနယ်၏ဆက်စပ်မှုကို ခန့်မှန်းနိုင်သည်။

ယခုသော် ပင်လယ်နှင့်မိုင်နှစ်ရာကျော် ကွာနေသော်လည်း ၅-ရာစု အေဒီခန့်ကသော် ဤမျှကွာဝေးသည် မဟုတ်ပေ။ ထိုစဉ်က မြို့သည် ဧရာဝတီ မြစ်ဝကျွန်းပေါ်ထိပ်လောက်တွင် ဧရာဝတီမြစ်ခွဲနှစ်ခု ရံထားသော ကျွန်းပေါ် တွင် ရှိခဲ့ဟန်တူ၏။ မြို့၏အရှေ့မြောက်ဖက် အင်းကြီးကို ယနေ့တိုင် ပင်လယ် ဟုခေါ်နေခြင်းမှာ စိတ်ဝင်စားဘွယ် ဖြစ်သည်။

## မြို့၏အစီအရင်

မြို့၏အနောက်ဖက်တွင် မြင်ဗာဟုတောင်ရှိသည်။ ယင်း၏နောက် ဖက်တွင်မှ ဧရာဝတီမြစ်ရှိသည်။ ဗိဿနိုးနှင့်ဟန်လင်းတို့ကဲ့သို့ပင် မြစ်နှင့်လက် လှမ်းဝေးရာတွင် တောင်ခြား၍ တည်နေသည်။ မြို့၏ပုံသဏ္ဍာန်မှာ စက်ဝိုင်း မကျတကျ ဖြစ်သည်။ အကျယ်အဝန်းမှာ စတုရန်း ၅-မိုင်ကျော်ရှိသည်။ မြို့ ၏မျက်နှာပြင်သည် အနောက်တောင်မှ အရှေ့မြောက်ဖက်သို့ ဆင်ခြေလျှော တဖြည်းဖြည်း နိမ့်ဆင်းသွားသည်။

မြို့မြောက်ပိုင်းမှာ လယ်ယာစိုက်ပျိုးရေးအတွက် သီးသန့်ထားသည်။ တောင်ဘက်ပိုင်းတွင် နန်းတော်ရာ၊ လူနေရပ်ကွက်နှင့်သာသနာ့အဆောက် အအုံများရှိသည်။ မြို့တွင်း အဖက်ဖက်တွင် ရေတွင်းရေနုတ်မြောင်းများ၊

သောက်ရေသုံးရေကန်များ၊ ကျုံးများရှိသည်။ ဤအစီအရင်များမှာ ဗိဿနိုး အစီအရင်များကဲ့သို့ပင် ဖြစ်သည်။

မြို့တော်မှာ ဗိဿနိုးထက် ကျယ်ဝန်းသော ခံတပ်ကြီးဖြစ်သည်။ ဤမြို့ကြီးမှ ဤခေတ်မြန်မာနိုင်ငံ ပဒေသရာဇ်လူ့အဖွဲ့အစည်း၏အချက်အချာဖြစ်သည်။ ပဒေသရာဇ်ခေတ်စစ်မှုရေးရာနှင့်ကိုက်ညီအောင် စီရင်အပ်သော ပဒေသရာဇ်တို့၏အစီအစဉ်ဖြစ်သည်။

## နိုင်ငံအကျယ်အဝန်း

မြို့၏တောင်ဘက်နှင့်မြောက်ဖျားတွင် ခံမြို့ငယ်များရှိသေးသည်။ မြို့ကာကွယ်မှုအစီအစဉ်များဖြစ်သည်။ ယင်းတို့အပြင် မြို့ကြီး၏အချို့နေရာတွင် မြို့ရိုး ၂-ထပ်ထားသည်လည်း ရှိသည်။ ၃-ထပ်ထားသည်လည်း ရှိသည်။ ထုထယ်ကြီးမား၍ မြင့်လှသော အကာအကွယ် ကုန်းတန်းကြီးများဖြစ်၏။ သာမန်အားဖြင့် ကြည့်သော် ယခုအခါတွင် တောင်ရိုးတန်းများနှင့်တူနေသည်။

ဤမျှကြီးကျယ်ခမ်းနားသော နေပြည်တော်မှ အုပ်စိုးသော ပျူတို့၏ ဒုတိယနိုင်ငံသည် တရုတ်မှတ်တမ်းများအဆိုအရ လွန်စွာကျယ်ဝန်းသည်။ မြစ်ကြီးနားလောက်မှ သံလွင်မြစ် မြန်မာနိုင်ငံကို ဖြတ်ဝင်သည့်နေရာလောက်အထိ ဆက်ပေးထားသောနေရာမှာ ဒုတိယပျူနိုင်ငံ၏အရှေ့မြောက်နယ်နိမိတ်ဖြစ်ကြောင်း တရုတ်မှတ်တမ်းများက ဆိုသည်။

ဤနယ်နိမိတ်မှာ နန်စောာ(နန်ကျောက်*)နိုင်ငံနှင့်အစပ်ဖြစ်သည်။ ဒုတိယပျူနိုင်ငံ၏ဩဇာလွှမ်းမိုးမှုသည် အနောက်ဖက်အိန္ဒိယပြည်အရှေ့ပိုင်း၊ အရှေ့ဘက်ကမ္ဘောဒီးယားနိုင်ငံတောင်ဘက်ပင်လယ်အထိ ရောက်ကြောင်း တရုတ်မှတ်တမ်းများက ဆိုသည်။

---

*'နန်ကျောက်'ဟူသည်မှာ ရှမ်းအသံထွက်ဖြစ်သည်။ 'နန်'မှာ တရုတ်စကားဖြစ်၍ 'တောင်ဘက်'ဟု အဓိပ္ပါယ်ရသည်။ 'ကျောက်'မှာ ရှမ်းစကားဖြစ်သည်။ 'အကြီးအကဲ၊ အရှင်သခင်' ဟုအဓိပ္ပါယ်ရသည်။ သို့သော် 'ကျောက်'ဟူသောအသံထွက်ကိုရေးသော ရှမ်းဝေါဟာရနှင့် ရှေးမြန်မာဝေါဟာရတို့မှာ 'စဝ်'ဖြစ်သည်။ ဤ'စဝ်'ကို ရှမ်းတို့က အသုံးမများမီ ရှေးမြန်မာတို့က ပို၍ သုံးစွဲခဲ့သည်။ (စဝ်၊စော)မှာ မြန်မာဝေါဟာရ'စိုဝ်(စိုး)'နှင့်ထပ်တူဖြစ်သည်။ မူရင်းကျ၍ ပိုမိုမှန်ကန်သည်ဟု ယုံကြည်သဖြင့် 'နန်ကျောက်'ကို 'နန်စော'ဟုပြင်ဆင်ရေးသားပါသည်။

လက်အောက်ခံနိုင်ငံပေါင်း ၁၈၊ ခံမြို့ပေါင်း ၉၊ တိုင်းရင်းသားလူမျိုးစုပေါင်း ၂၉၈-ပါဝင်သည်ဟုဆိုသည်။ ဤအဆိုတို့မှာ ကျယ်ဝန်းလှသည်။ တရုတ်အထောက်အထားကို ထောက်ခံသည့်အခြားအထောက်အထားများကိုလည်း မတွေ့ရသေးပေ။

ယေဘုယျအားဖြင့်ဆိုသော် ပျူနိုင်ငံသည် မြောက်ဖက်နန်စောနိုင်ငံနှင့်အစပ်၊ တောင်ဘက် ပင်လယ်အထိ ကျယ်ပြန့်၍ အရှေ့အနောက်နယ်နိမိတ်တို့မှာ သဘာဝနယ်နိမိတ်များဖြစ်သော အနောက်ရိုးမနှင့်သံလွင်မြစ်တို့ထိသာ ရောက်မည်ဟု ခန့်မှန်းနိုင်ပေသည်။

## ပဒေသရာဇ်များ

မြန်မာရာဇဝင်ကျမ်းများတွင် သရေခေတ္တရာ၌ အုပ်စိုးခဲ့သောမင်းကြီးများအကြောင်းကို ဆိုရာ၌ စူဠသမ္ဘဝ၊ မဟာသမ္ဘဝ၊ ဒွတ္တပေါင်မင်းကြီးတို့နှင့်စ၍ သုပညာနာဂရဆိန္နမင်းနှင့်ဆုံးထားသည်။ ရှေးဟောင်းသုတေသန အထောက်အထားများဖြစ်သော မင်းတို့၏ကျောက်အရိုးအိုးစာများအရ သရေခေတ္တရာတွင် အေဒီ ၆၇၃ မှ ၇၁၀[×]အထိ အုပ်စိုးခဲ့သောမင်းတို့မှာ. . .

သူရိယဝိကရမ. . . နန်းသက် ၁၅-နှစ်

ဟရိဝိကရမ. . . . . နန်းသက် ၇-နှစ်

သီဟဝိကရမ. . . . နန်းသက် ၂၃-နှစ်တို့ ဖြစ်ကြောင်းသိရသည်။

ဤဝိကရမမင်းဆက်နှင့်အပြိုင် အုပ်စိုးခဲ့သည်ဟုယူဆရသော ဝါရ်ိမန်မင်းဆက်လည်း ရှိသေးသည်။ နိုင်ငံ ၂-ခုကွဲနေခဲ့ဟန်တူ၏။ ကွဲနေသောအခြားနိုင်ငံမှာ မည်သည့်ပျူနိုင်ငံဖြစ်သည်ကို မသိရပေ။ ဝါရ်ိမန်မင်းဆက်ပင်ဇယစန္ဒရဝါရ်ိမန်မင်းသားသည် ဟရိဝိကရမမင်းသား၏အကိုဖြစ်ကြောင်း သီရိပရဘုဝါရ်ိမန်မင်းနှင့်မိဖုရား သီရိပရဘုဒေဝီတို့လည်း ရှိခဲ့ကြောင်း သိရသည်။

---

[×]အရိုးအိုးစာတွင် ပျူခုနှစ်သက္ကရာဇ်ကို ပေးထားသည်။ တရုတ်မှတ်တမ်းမှ ရှေးဟောင်းပစ္စည်းနှင့်စာတို့ကို ထောက်၍ ပျူသက္ကရာဇ်မှာ ၆၃၈ မှစသော ကောဇာသက္ကရာဇ်ပင်ဖြစ်တန်ရာ၏ဟု ပညာရှင်များက ယူဆကြသည်။

ဟန်တရုတ်ရာဇဝင်ဟောင်းတွင် ပျူမင်း၏အမည်မှာ မဟာရာဇာ၊ နန်းရင်းဝန်၏အမည်မှာ မဟာသေနာဖြစ်ကြောင်း သာမန်မျှသာ ဖေါ်ပြထားသည်။

ဒုတိယပျူနိုင်ငံ၏ပဒေသရာဇ်စနစ်မှာ ပထမနိုင်ငံ၏ပဒေသရာဇ်စနစ်ထက် များစွာကြီးထွားကျယ်ပြန့်နေပြီဖြစ်သည်။ ဤကာလတွင် ပျူပဒေသရာဇ်စနစ်သည် အထွတ်အထိပ်သို့ ရောက်ခဲ့သည်ဟု ဆိုနိုင်ပေသည်။

## ဒုတိယပျူနိုင်ငံ စီးပွားရေး

စီးပွားရေးအခြေခံမှာ လယ်ယာစိုက်ပျိုးမှုပင် ဖြစ်သည်။ ဗိသနိုးခေတ်မှာထက် ပိုမိုကျယ်ပြန့်သည်။ ပျူနိုင်ငံတွင် စပါး၊ နှံစားပြောင်း၊ ပြောင်းနှင့်ပဲမျိုးစုံဖြစ်ထွန်းသည်။ ဂျုံနှင့်ဂုံလျှော်ပင်များ မဖြစ်ထွန်း။ ကြံပင်များမှာ ခြေသလုံးရိုးလောက်ကြီးအောင် ဖြစ်ထွန်းသည်ဟု တရုတ်ခေတ်ပြိုင်မှတ်တမ်းက ဆိုသည်။

လယ်စပါးစိုက်ပျိုးမှုသည် တိုးတက်ဖြစ်ထွန်းခဲ့သည်။ ကျယ်လည်းကျယ်ပြန့်ခဲ့သည်။ တူးမြောင်းနှင့်ရေသွယ်စိုက်ပျိုးမှုကိုလည်း သိခဲ့ကြပြီးဖြစ်သည်။ နိုင်ငံခြားဆက်ဆံမှု များပြားလာသည်နှင့်အမျှ သီးနှံပင် အသစ်အဆန်းများ ရောက်ရှိစိုက်ပျိုးခဲ့ကြပြီဟု ယူဆရသည်။

## လက်မှုပညာ

တောင်သူလယ်သမားလုပ်ငန်းအပြင် လက်မှုပညာလုပ်ငန်းများလည်းရှိသည်။ လူသုံးပစ္စည်းများ၊ သာသနိကပစ္စည်းများ ပြုလုပ်မှုတွင် များစွာကျယ်ပြန့်လာခဲ့သည်။

အနုပညာလက်ရာလည်း အံ့ဩဘွယ်ကောင်းလောက်အောင် ပြောင်မြောက်ခဲ့သည်။ ပန်းဘဲ၊ ပန်းထိမ်၊ ပန်းပု၊ ပန်းရံ၊ ပန်းတမော့၊ ပန်းတျဉ်း၊ ဗိသုကာ၊ မြေအိုးလုပ်ငန်း၊ စဥ့်လုပ်ငန်း၊ (တရုတ်မှတ်တမ်းအရ)မှစ၍ အသက်မွေးဝမ်းကျောင်း ပညာရပ်များထွန်းကားခဲ့သည်။ ရွှေ၊ ငွေ၊ ကျောက်မျက်ရတနာ

ထုတ်လုပ်သည့်လုပ်ငန်း၊ ယင်းတို့ကို လူသုံးပစ္စည်းအဖြစ်သို့ ရောက်အောင်ပြု လုပ်သည့်လုပ်ငန်းများလည်း ရှိခဲ့သည်။

## ကုန်သွယ်မှု

ရွှေငွေ၊ ကျောက်သံပတ္တမြား ကြွယ်ဝလှသောနိုင်ငံဖြစ်သည်။ လုပ်သား ပြည်သူတို့၏ထုတ်လုပ်မှု စွမ်းအားကောင်းခြင်း၊ နိုင်ငံခြားများနှင့်ကူးသန်း ရောင်းဝယ်ထွန်းကားခြင်း၊ နိုင်ငံအတွင်း ကူးသန်းရောင်းဝယ်မှု ကောင်းမွန် ခြင်းတို့ကြောင့် ဤသို့ကြွယ်ဝချမ်းသာခြင်းဖြစ်သည်။ နိုင်ငံတွင်းတွင် ပျူတို့ သည် အခြားတိုင်းသားတို့အား ဧရာဝတီမြစ်ဝှမ်းထွက် မြေအိုး၊ အထည်အ ဝတ်(ချည်ထည်ဟုယူဆရ၏။)စဥ့်အိုး၊ စဥ့်ခွက်များကို ရောင်းကြကြောင်း၊ ပျူ တို့သည် ရွှေဒင်္ဂါး၊ ငွေဒင်္ဂါးများဖြင့် အရောင်းအဝယ်ပြုကြကြောင်း တရုတ် ရာဇဝင်ကျမ်းများတွင် ဆိုသည်။

## ပျူဒင်္ဂါးများ

ပျူငွေဒင်္ဂါးအမျိုးမျိုးကို မြန်မာနိုင်ငံအနှံ့အပြားတွင် တွေ့ရပြီးဖြစ် သည်။ အချို့ဒေသတွင် ရာနှင့်ချီ၍ တွေ့ခဲ့ကြရသည်။ အရွယ်အစား ၃-မျိုး ရှိသည်။ သို့ဖြစ်၍ တရုတ်ရာဇဝင်ကျမ်းတို့က ဆိုထားသည့်အတိုင်း ငွေဒင်္ဂါး ကို သွန်းလုပ်၍ အသပြာအဖြစ် အသုံးပြုသည်မှာ ယုံမှားဘွယ်ရာမရှိပေ။ သို့ သော် ရွှေဒင်္ဂါးကိုကား မတွေ့ဘူးသေးပါ။ ရွှေချထားသော ငွေဒင်္ဂါးမျိုးကိုသာ တွေ့ဘူးသည်။

## နိုင်ငံခြားကုန်သွယ်မှု

ပျူငွေဒင်္ဂါးများကို ယခု ယိုးဒယားနိုင်ငံတောင်ပိုင်းတွင် ထွန်းကားခဲ့ သော ဒွါရဝတီမွန်နိုင်ငံတွင်လည်း တွေ့ခဲ့ရသည်။ ဒုတိယပျူနိုင်ငံခေတ်က ပျူ တို့၏ကုန်သွယ်ရေးသည် အိန္ဒိယတောင်ပိုင်း ဒွါရဝတီနိုင်ငံ၊ မလေးကျွန်းဆွယ် နှင့်အရှေ့အိန္ဒိယကျွန်းစုများအထိ အပြန်အလှန်ရောက်ခဲ့သည်။ ကျယ်ပြန့်ခဲ့

သည်ဟုဆိုဘွယ်ရာ ရှိပေသည်။ မြောက်ဖက်ရှိ နန်စောနိုင်ငံနှင့်ကား အထူး ဆိုဘွယ်ရာ မရှိပေ။

## ပဒေသရာဇ်စီးပွားရေး

ဤကဲ့သို့ ကုန်သွယ်မှုထွန်းကားခြင်း၊ အဖိုးတန်ရတနာများပေါခြင်း၊ လူနေမှုအဆင့်အတန်းမြင့်ခြင်း(လူမှုရေးပိုင်းကိုရှုပါ)တို့ရှိခဲ့၍ ဒုတိယပျူနိုင်ငံကို ကြွယ်ဝချမ်းသာသောနိုင်ငံဖြစ်သည်ဟု ဆိုရန်ရှိသည်။ ယင်းသို့ ကြွယ်ဝသည်မှာမှန်သော်လည်း ဒုတိယပျူနိုင်ငံ၏စီးပွားရေးတွင် ကြွယ်ဝချမ်းသာ၍ အဆင့်အတန်းမြင့်စွာ နေနိုင်ကြသူတို့မှာ ပဒေသရာဇ်များ၊ ပဒေသရာဇ်တို့၏ အသိုင်းအဝိုင်းများဖြစ်သော အုပ်စိုးသူလူတန်းစားနှင့်ကုန်သည်ကြီးများသာ ဖြစ်ခဲ့သည်။

လူများစုဖြစ်၍ အခြေခံကုန်ကြမ်းပစ္စည်း၊ လူသုံးပစ္စည်းထုတ်လုပ်ပေးရသော လုပ်သားပြည်သူ အအုပ်အချုပ်ခံလူတန်းစားတို့မှာကား ဤကုန်ထုတ်လုပ်ပေးမှု၏အကျိုးအမြတ်ကို အနည်းအကျဉ်းမျှသာ ခံစားကြရသော ပဒေသရာဇ်စီးပွားရေးသာ ဖြစ်ကြောင်း သတိချပ်ရန် လိုအပ်ပေသည်။

## လူမှုရေးအခြေအနေ

ဆိုခဲ့ပြီးသည်တို့ကို ထောက်ရှုလျက် ပျူတို့၏စီးပွားရေးအခြေအနေမှ ပျူခေတ်လူမှုရေးအခြေအနေကို သာမန်အားဖြင့် ခန့်မှန်းသိရှိနိုင်ပါသည်။ အုပ်စိုးခြယ်လှယ်သူ လူတန်းစားနှင့်အအုပ်အစိုး အခြယ်အလှယ်ခံ လူတန်းစားဟု လူတန်းစားနှစ်ရပ်ရှိရာ ခြယ်လှယ်သူလူတန်းစားတွင် ဧကရာဇ်ပဒေသရာဇ်များ၊ ကုန်သည်ကြီးများနှင့်မြေပိုင်ရှင်ကြီးများ ပါဝင်၍ အခြယ်လှယ်ခံလူတန်းစားများတွင် ကျွန်များ၊ တောင်သူလယ်သမားများ၊ အလုပ်သမားများနှင့်အနုပညာသည်များ ပါဝင်သည်။

စီးပွားရေးသည် မြေရှင်ပဒေသရာဇ်စီးပွားရေးဖြစ်သည့်နည်းတူ လူမှုရေးနှင့်လူနေမှုအဖွဲ့အစည်း၊ လူမှုဆက်ဆံရေးတို့သည်လည်း မြေရှင်ပဒေသရာဇ်စနစ်ပေါ်တွင် အခြေတည်နေသည်သာဖြစ်သည်။

## နေအိမ်များ

ပဒေသရာဇ်တို့၏နန်းတော်နှင့်အဆောင်များမှာ ခမ်းနားဆန်းကျယ် လှကြောင်း ခေတ်ပြိုင်တရုတ်အထောက်အထားတို့က ဆို၏။ ကြမ်းများပေါ် တွင် ပန်းကော်ဇောကြီးများကို ခန်းလုံးပြည့် ခင်းထား၍ နံရံပေါ်တွင် ဟင်္သာ ပြဒါးစသည့်အရောင်တောက်ပြောင်သည့် ဆေးများဖြင့် ခြယ်မှုန်းထားသည့် ပြင် ရွှေ၊ ငွေတို့ဖြင့် မွမ်းမံတန်ဆာဆင်ထား၏။ ဗုဒ္ဓဘာသာဖုန်းတော်ကြီး ကျောင်းများကိုလည်း ဤနည်းနှင်နှင် မွမ်းမံထားသည်။ သာမန်မြို့တွင်းသား တို့၏နေအိမ်များကို သစ်ဝါးတို့ဖြင့် ဆောက်လုပ်ခဲ့၍ ခဲ သို့မဟုတ် သံဖြူပြား များဖြင့် မိုးထားသည်။ မြို့တွင်း၌ သာမန်လူတို့၏နေအိမ်များ ထောင်နှင့်ချီရှိ ၍ ဖုန်းတော်ကြီးကျောင်းများမှာ ရာနှင့်ချီ၍ရှိကြောင်း ဖော်ပြထားသည်။

## လူမှုအစဉ်အလာ

ပျူအများစုမှာ ဗုဒ္ဓဝါဒီများ ဖြစ်သည့်အားလျော်စွာ ကလေးသူငယ် များသည် ကျား‌မ,မရွေး အသက် ၄-နှစ်အရွယ်သို့ရောက်ပါက ဦးပြည်းရိတ် ၍ ဖုန်းတော်ကြီးကျောင်းသို့ ဝင်ရသည်။ ကျောင်းတွင် ရဟန်းတော်တို့၏သွန် သင်ဆုံးမမှုကို ခံယူ၍ စာပေသင်ကြားရ၏။ အသက်နှစ်ဆယ်အရွယ်သို့ရောက် သောအခါ သာသနာ၏အဆုံးအမတွင် သဘောပေါက်သူတို့သည် ရဟန်း ဘောင်တွင်ဆက်နေကြ၍ တရားသဘောမပေါက်နိုင်သူတို့သည် လူဝတ်လဲ ကြသည်ဟု တရုတ်အထောက်အထားများမှ သိရသည်။ ရှင်ပြုခြင်း၊ ပဉ္စင်းခံ ခြင်း အစဉ်အလာကို ဆိုလိုဟန်တူသည်။

ဤတရုတ်အထောက်အထားများကို ကိုးစားထောက်ထား၍ ပျူခေတ် က အမျိုးသားများသာမက အမျိုးသမီးတို့ပင်လျှင် သာသနာ့ဘောင်သို့ဝင်ခဲ့ ကြသည့်အစဉ်အလာရှိခဲ့သည်ဟု ဆိုရပေသည်။ ပုဂံခေတ်၌ပင် ဘိက္ခုနီမ(အ မျိုးသမီးရဟန်း)ရှိခဲ့သည်ကို ထောက်၍ ဤအဆိုကို ယုတ္တိတန်သည်ဟု လက် ခံနိုင်ဘွယ်ရာ ရှိသည်။

## ဝတ်စားဆင်ယင်မှု

ပျူခေတ်တွင် ပိုးထည်ကို သိကြပြီးဖြစ်သည်။ ပိုးထည်ရက်လုပ်ရာတွင် ပါဏာတိပါတကံ ကျူးလွန်မှု မကင်းသော ပိုးတုံးလုံးကို သတ်ဖြတ်မှုပါနေသဖြင့် ဗုဒ္ဓဝါဒီများဖြစ်ကြသော ပျူတို့သည် ပိုးထည်ဝတ်ဆင်ခြင်းကို ရှောင်ကြဉ်ကြသည်။ အိန္ဒိယနှင့်အဆက်အသွယ်ရှိနေပြီဖြစ်၍ ဝါ၏အသုံးကိုလည်း သိနေကြပြီဟု ယူဆရသည်။ သို့သော် အခိုင်အမာကား မဆိုနိုင်ပေ။ လက်ပံမှိုမှရသော ချည်ဖြင့် ပြုလုပ်ထားသောအထည်များကို ဝတ်ကြောင်းကား သိရ၏။

အမျိုးသားတို့သည် ပုဆိုးဖြူကို ခါးပုံစချ၍ ဝတ်ကြောင်း၊ ရွှေပန်းပွင့်တို့ဖြင့် အလှဆင်ထားသော ဦးထုပ်၊ ပုလဲသွယ်များကို တွဲရရွဲဆွဲထားသော သံပုရာခွံဦးထုပ်မျိုးကို ဆောင်းကြောင်း၊ အမျိုးသမီးတို့သည် ထမီပြာကို ဝတ်၍ ပုဝါပါးများနှင့်ကိုယ်ကို သိုင်းခြုံကာ အစများချထားကြကြောင်း။ အိမ်ထောင်ကျပြီးအမျိုးသမီးတို့သည် ဆံထုံးကို ခပ်မြင့်မြင့်ထုံးကြောင်း၊ လမ်းလျှောက်ထွက်လျှင် ယပ်တောင်ကိုကိုင်ကြောင်း၊ အထက်တန်းလွှာ အမျိုးသမီးတဦး လမ်းလျှောက်လျှင် နောက်မှ အခြွေအရံ ငါးဦး ခြောက်ဦး ပါတတ်ကြောင်း တရုတ်အထောက်အထားတို့တွင် တွေ့ရ၏။

## ယဉ်ကျေးမှုဓလေ့များ

ပျူအချင်းချင်းတွေ့လျှင် လက်မောင်းကိုဆုပ်ကိုင်ပြီး နှုတ်ဆက်ကြသည်။ ဂါရဝပြုသောအခါ လက်နှစ်ဖက်ယှက်၍ ဦးညွှတ်ကြသည်။ သန့်ရှင်းစင်ကြယ်မှု၊ သပ်ရပ်မှု၊ တင့်တင့်တယ်တယ်ရှိမှုတို့ကို နှစ်သက်သူများဖြစ်သည်။ ပျူတို့သည် စကားနည်းကြ၏။ အေးအေးဆေးဆေး နေတတ်သည်။ သဘောဖြူ အူစင်းသူများ ဖြစ်သည်။ စည်းကမ်းသေဝပ်သူ၊ တရားဥပဒေကို ရိုသေလိုက်နာကြသူများ ဖြစ်သည်။ တရုတ်ခေတ်ပြိုင်အထောက်အထားတွင်လာသော ဤအရည်အသွေးများအရ ဆိုလျှင် ပျူတို့သည် လူမှုရေးတွင် စံထားထိုက်သူများဖြစ်သည်ကို တွေ့ရပေသည်။

ပျူတို့သည် ခေတ်နှင့်လျော်ညီစွာ အယူသည်းသူများ ဖြစ်သည်။ သူတို့သည် ဗေဒင်ကို အလွန်ယုံကြည်ကြသည်။ ပျူမြို့တော်အတွင်း၌ ရှေ့ဖြစ်

ဖတ်ဆရာ၊ ပေဒင်ဆရာအမြောက်အမြားရှိကြောင်း တရုတ်အထောက်အထား တို့က ဆို၏။

ဘုရင်ဇကရာဇ်သည်ပင်လျှင် တိတ်နိမိတ်ကောက်ပြီး တိုင်းရေးပြည်ရာကို ဆောင်ရွက်သည်။ နန်းတော်တွင်း၌ ရွှေခေါင်းလောင်းတလုံး၊ ငွေခေါင်းလောင်းတလုံး ဆွဲထားသည်ဆို၏။ မြို့တော်ကို တိုက်ခိုက်မည့်ရန်သူ ပေါ်ပေါက်လာသောအခါတွင် ဘုရင်ဇကရာဇ်သည် ယင်းခေါင်းလောင်းများကို တီး၍ ရန်သူအား တွန်းလှန်နိုင်မည် မတွန်းလှန်နိုင်မည်ကို တိတ်နိမိတ်ယူသည်။

## တရားဥပဒေ

ပျူတို့၏တရားဥပဒေတို့မှာ လွယ်ကူ၍ရှင်းလင်းသည်။ ပျူတို့သည် ရုပ်ပိုင်းထက် စိတ်ပိုင်းတွင် တိုးတက်ဖွံ့ဖြိုးမှုရှိနေသူများဟု ဆိုဘွယ်ရာရှိ၏။ သူတို့သည် ဗုဒ္ဓမြတ်စွာဘုရား၏အဆုံးအမများကို တရားဥပဒေအဖြစ်လိုက်နာသူများဖြစ်သည်။ ပြစ်မှုကျူးလွန်သူကို လက်ထိပ်ခတ်ခြင်း၊ ထူးခတ်ခြင်း၊ တုပ်နှောင်ခြင်းပြုရမည်ဟု သူတို့၏တရားဥပဒေတွင် မပါရှိပေ။ ရုပ်ကို အပြစ်ပေးခြင်းထက် စိတ်ကို အပြစ်ပေးသည့်စနစ် ဖြစ်ဟန်တူ၏။ ပြစ်မှုကို တကြိမ်တခါ ကျူးလွန်သူများအား ပြောဆိုဆုံးမ၍သာ လွှတ်လိုက်သည်။ ဒုတိယအကြိမ်ကျူးလွန်လျှင်မူကား ကျောပြင်ကို ငါးချက်အထိ ရိုက်နှက်၏။ ငါးချက်ထက် မပိုစေရဟု ဆိုသည်။

သူတို့သည် သူ့အသက်သတ်ခြင်းကို လွန်စွာ မုန်းတီးရွံ့ရှာကြသည်။ မြို့တော်အတွင်း သူ့အသက်သတ်ခြင်း လုံးဝမရှိစေရဟုဆိုသည်။ သို့သော် လူ၏အသက်ကို သတ်သူတဦးအား ပျူတို့၏တရားဥပဒေအရ သေစားသေစေသည်။

## တရားစီရင်မှု

ကိုယ်ကျင့်တရား လွန်စွာကောင်းလှသော ပျူတို့၏တရားစီရင်ပုံမှာလည်း စိတ်ဝင်စားဘွယ်ရာ ကောင်း၏။ ရုပ်ပိုင်းထက် စိတ်ပိုင်းတွင် သန်နေသူများ ဖြစ်သည့်အားလျော်စွာ တရားတဘောင် ဖြစ်လာလျှင် အမှန်တရား

ကို ပြန်လည်သုံးသပ်စေခြင်းဖြင့် အမှုကို ပြီးပြတ်စေသည်။ တရုတ်အထောက်အထားများအရ ပျူတို့၏တရားစီရင်ပုံမှာ ဤသို့ဖြစ်၏။

ပျူနှစ်ဦး တရားတဘောင်ဖြစ်လျှင် မင်းဇကရာဇ်ထံ တိုင်ကြားရသည်။ မင်းဇကရာဇ်သည် ကြားနာပြီး တရားလိုတရားခံနှစ်ဦးစလုံးအား နန်းတော်ရှေ့ရှိ ရုပ်ပွားတော်ကြီးရှေ့မှောက်သို့ သွားစေ၏။ ရုပ်ပွားတော်ကြီး၏ရှေ့မှောက်သည် ပျူတို့၏တရားရုံးဖြစ်၏။ ရုပ်ပွားတော်ရှေ့ ရောက်သော် နှစ်ဦးသား အမွှေးတိုင်များကို မီးညှိ၍ ဘုရားကို အာရုံပြုရသည်။

ထိုနောက် မိမိတို့ အငြင်းပွားရသည့်ပြဿနာကိုလည်း ပြန်လည်စဉ်းစားရသည်။ ဤပြဿနာတွင် မိမိတို့ပါနေသည့်အပိုင်းတွင် မိမိတို့ မှန် မမှန်ကိုလည်း သုံးသပ်ရသည်။ မိမိတို့၏အပြစ်များကို ပြန်လည်စဉ်းစားမိကြသောအခါ နှစ်ဦးနှစ်ဖက် ပြေအေးနိုင်သည့်နည်းလမ်းကို တွေ့ကြသည်။ ဤသို့ဖြင့် ပြီးပြေမှုကို ရသွားကြတော့သည်။ ဘုရားရှေ့မှောက်တော်တွင် ပျူတို့ စိတ်အတွင်း၌ပင် မလိမ်ဝံ့ကြပေ။

နိုင်ငံတော်အတွင်း ကပ်ဆိုးများ ကျရောက်လာသောအခါတွင်လည်း ဘုရင်ဇကရာဇ်ကိုယ်တိုင် အဆိုပါ ရုပ်ပွားတော်ရှေ့သို့သွား၍ အမွှေးတိုင်များ မီးညှိပြီးလျှင် ဘုရားကို အာရုံပြုသည်။ ကပ်ဆိုးကျရောက်ရသည်မှာ မင်းဇကရာဇ်၏ချွတ်ယွင်းချက်များကြောင့် ဖြစ်သည်ဟု ယုံကြည်သဖြင့် ဘုရင်ဇကရာဇ်သည် ရုပ်ပွားတော်၏ရှေ့မှောက်တွင် မိမိ၏ပြစ်မှုများ၊ ဒုစရိုက်မှုများ၊ မတရားမှုများ၊ ချွတ်ယွင်းချက်များကို ပြန်လည်ဝေဖန်သုံးသပ်သည်။

ထိုနောက် မိမိ၏မှားယွင်းမှုများကို အမှန်တကယ် နောင်တရ၍ မြတ်စွာဘုရား၏ရှေ့မှောက်တွင် ဝန်ချတောင်းပန်ခြင်း၊ ဝန်ခံခြင်းပြုရသည်။ ဤသို့ပြုလုပ်လျှင် ကပ်ဆိုးများကို ကျော်လွှန်နိုင်သည်ဟု ပျူတို့ယုံကြည်ကြသည်။ ဤသည်မှာ ပဒေသရာဇ်အုပ်ချုပ်ရေးစနစ်ကို ချုပ်ကိုင်ပေးသည့် ပျူတို့၏အစဉ်အလာတရပ်ဖြစ်သည်ဟု ယူဆဘွယ်ရာရှိပေသည်။

## ကိုးကွယ်ယုံကြည်မှု

ပျူတို့သည် ဘာသာတရားကို လွန်စွာကိုင်းရှိုင်းကြသူများဖြစ်၏။ ရိုးရာယုံကြည်မှုအပြင် ဗြဟ္မဏဝါဒ၊ မဟာယာနဗုဒ္ဓဝါဒနှင့်ထေရဝါဒ၊ ဗုဒ္ဓဝါဒတို့

ကို သက်ဝင်ယုံကြည်ကြသူများ ဖြစ်ကြသည်။

ရိုးရာယုံကြည်မှု၊ တမလွန်ဘဝကို ယုံကြည်ခြင်း၊ သေသူကို မီးသဂြိုဟ်၍အရိုးပြာများကို အိုးများတွင်ထည့်ကာ တရိုတသေ သိမ်းဆည်းထားခြင်း၊ မဟာသေလာ(ကျောက်တုံးကြီး)ကို အလေးအမြတ်ထား၍ကိုးကွယ်ခြင်း၊ သံ၏အစွမ်းအာနိသင်သည် တမလွန်ဘဝတိုင်ထက်မြက်ခြင်း စသည်တို့မှာ ပျူတို့၏ရိုးရာယုံကြည်မှုအစဖြစ်၍ တိတ်နိမိတ်ဖတ်ခြင်း၊ ဗေဒင်ဖြစ်ဟောခြင်းစသည်တို့ အကြောင်းကို လူမှုရေးအပိုင်းတွင် ဆိုခဲ့ပြီး ဖြစ်၏။

## ဗိဿနိုးကိုးကွယ်မှု

အိန္ဒိယတွင် မူတည်ပေါ်ပေါက်ခဲ့၍ အိန္ဒိယသားတို့မှတဆင့်ရရှိသော ဗြဟ္မဏဝါဒတွင် ဗိဿနိုးနတ်ဘုရားကို ကိုးကွယ်သည့်ဓလေ့သည် ပျူနိုင်ငံတွင် ထင်ရှားခဲ့၏။ ဗိဿနိုးနတ်မင်းနှင့်ကြင်ယာတော်တို့၏ကျောက်ဆစ်လက်ရာ ရုပ်ဝက်ဖော်ပုံများကို တွေ့ရသည်။

## မဟာယာနဂိုဏ်း

မဟာယာနဂိုဏ်းဆိုင်ရာ ဘုရားအလောင်းတော်များဖြစ်သော အာလောကီတေသွာ၊ မဥ္ဇူသီရိ၊ အရိမိတ္တေယျဘုရားလောင်းနှင့်တာရာဒေဝီခေါ် အမျိုးသမီးဘုရားလောင်းတို့ကို ကိုးကွယ်ကြကြောင်း တွေ့ရှိရသော ရုပ်ပွားတော်အထောက်အထားများအရ သိရပေသည်။

## ထေရဝါဒဂိုဏ်း

ဗြဟ္မဏဝါဒနှင့်မဟာယာနဂိုဏ်းဗုဒ္ဓဝါဒတို့သည် သရေခေတ္တရာသို့ အလွန်စောစွာ ရောက်ခဲ့ဟန်တူ၏။ သို့သော် ထေရဝါဒဂိုဏ်းဆိုင်ရာ ဗုဒ္ဓဝါဒသည် သရေခေတ္တရာတလျှောက် ထွန်းကားခဲ့သော ဝါဒဖြစ်သည်။ ဤဂိုဏ်းဆိုင်ရာ သာသနာ့အဆောက်အအုံများ၊ သာသနိကပစ္စည်းများနှင့်စာပေများကို သရေခေတ္တရာတွင် အမြောက်အမြားတွေ့ခဲ့ရပေသည်။ ပျူအများစုမှာ

ထေရဝါဒဂိုဏ်းဝင်များ ဖြစ်သည်ဟု ဆိုနိုင်၏။ သရေခေတ္တရာတွင် တွေ့ရသော ရွှေပေလွှာတို့တွင် ပျူအက္ခရာနှင့်ရေးသားသည့် ပိဋကတ်တော်ကောက်နုတ်ချက်တို့မှာ နက်နဲသိမ်မွေ့လှသော တရားကိုယ်များ ဖြစ်သည်။

ယင်းတို့ကို ထောက်၍ ပျူထေရဝါဒသည် သုတ္တန်ပိဋကတ်ထက် အဘိဓမ္မာပိဋကတ်ကို ပို၍အလေးပေးသည်ဟု ဆိုဘွယ်ရာရှိ၏။ ပုဂံဗုဒ္ဓသာသနာထေရဝါဒဂိုဏ်းသည် သုတ္တန်ပိဋကတ်လာ လွယ်ကူသော ဇာတ်တော်များနှင့် အစပြုသည်ဟု ဆိုနိုင်၏။ သရေခေတ္တရာတွင်မူ နက်နဲသော သဘောတရားဖြစ်သည့် 'ယေ ဓမ္မာ ဟေတုပ္ပဘဝါ'အစချီသော ဂါထာဖြင့် ပြုသည်ဟုဆိုရပေမည်။

## ပျူအနွယ် ဘာသာစကားနှင့်စာပေ

လူမျိုးနွယ်အားဖြင့် ပျူတို့သည် မွန်ဂိုလွိုက်များဖြစ်ကြ၏။ ယနေ့ပြည်ထောင်စုသားတို့၏လူမျိုးနွယ်ပင် ဖြစ်သည်။

ဘာသာစကားအားဖြင့် ပျူဘာသာသည် တိဗက်မြန်မာနွယ်ဝင်ဖြစ်သည်။ ယနေ့ပြည်ထောင်စုအတွင်း ပြောဆိုနေကြသော မြန်မာ၊ ကရင်၊ ချင်း၊ ကချင်စသည့်စကားတို့မှာ အနွယ်တူဖြစ်သည်။ မြန်မာဘာသာစကားများနှင့် အလှမ်းမကွာလှပေ။ ယခုအခါတွင် ပျူစကား ပြောသူတို့မရှိတော့သော်လည်း ပုဂံရာဇကုမာရ်၏လေးမျက်နှာဘာသာ ကျောက်စာလာ ပျူမျက်နှာကို မြန်မာမျက်နှာနှင့်တိုက်ဆိုင်၍ ဆိုခြင်းဖြစ်ပေသည်။

ပျူကျောက်စာ၊ ရွှေပေစာ၊ ငွေကြုတ်စာ၊ အုပ်ချပ်စာမှစ၍ ပျူစာအတော်များများကို တွေ့ခဲ့ရပြီးဖြစ်သည်။ ပျူအက္ခရာတို့သည် အေဒီ ငါးရာနှစ်များအရင်က အိန္ဒိယနိုင်ငံတောင်ပိုင်းတွင် သုံးခဲ့သော အက္ခရာတို့မှ ဆင်းသက်သည့်အက္ခရာများဖြစ်သည်ဟု သာမန်အားဖြင့် ဆိုနိုင်၏။ သို့ရာတွင် သရေခေတ္တရာတွင်တွေ့ရသော ပျူအက္ခရာတို့မှာ နေရာလိုက်၍ ပုံသဏ္ဌာန်များကွဲပြားနေသည်ကို တွေ့ရသည်။

ဤသည်ကိုထောက်၍ သရေခေတ္တရာသို့ ရောက်သောပျူအက္ခရာတို့၏ မူရင်းဒေသမှာ တနေရာတည်းမဟုတ် ရောက်သည့်ကာလမှာလည်း ကာလတခုတည်း မဟုတ်ဟု ဆိုနိုင်သည်။ ပျူအက္ခရာအမျိုးအစားများ နေရာ

ဒေသနှင့်အချိန်ကာလကွဲပြားနေမှုကိုထောက်၍ ဒုတိယပျူနိုင်ငံသည် အလွန်ကြာမြင့်စွာ တည်တန့်ခဲ့ကြောင်း သိနိုင်ပေသည်။

## ဗိသုကာပညာ

မြန်မာနိုင်ငံဗိသုကာနှင့်အနုပညာသမိုင်းတွင် အသစ်အဆန်းတီထွင်မှုကို ရှာဖွေလျှင် အစောဆုံးနှင့်အထူးခြားဆုံးသော တီထွင်မှုကို သရေခေတ္တရာပျူတို့၏ကာလတွင် တွေ့ရပေမည်။

လုံခြုံရေးအတွက် ထုထယ်ကြီးမားခိုင်ခန့်စွာ လူတို့တည်ဆောက်ခဲ့သော ရှေးမြို့ဟောင်းကြီးများကို ဗိဿနိုးနှင့်ဟန်လင်းတို့တွင် တွေ့ရပြီဖြစ်သည်။ သရေခေတ္တရာပျူတို့ တည်ဆောက်ခဲ့သော မြို့ရိုးမြို့တာမှာ ထူးခြားသည်။ စတုဂံပုံမဟုတ်ဘဲ အဝန်းအဝိုင်းပုံ ဖြစ်သည်။ မြို့ရိုးကြီးများသည် ထုထယ်ကြီးမားလှ၏။ ပြိုပျက်၍ တောဖုံးကျန်နေသော မြို့ရိုးပိုင်းတို့သည်ပင် ယခုအခါတွင် တောင်ကုန်းတန်းဟု ထင်ရလောက်အောင် မြင့်၍ ထုထယ်ကြီးနေပေသည်။

ရန်သူလာမည်ဟု ယူဆရာဘက်ဖြစ်သော မြို့၏အနောက်မြောက်နှင့်အရှေ့တောင်ဘက်တို့တွင် မြို့ရိုးနှစ်ထပ်မှ သုံးထပ်အထိရှိ၏။ မူလက နက်ရှိုင်းသောကျုံးဖြင့် ရံထားသည်။

မြို့တောင်ဘက်အနီးတွင်လည်းကောင်း၊ (ဗိဿနိုးမြို့)ခပ်လှမ်းလှမ်းတွင်လည်းကောင်း(ပျူတိုက်များ)၊ ခံမြို့ငယ်များဟု ယူဆရသော အုတ်မြို့ရိုးနှင့်အရံအတားနေရာများ ရှိသည်။

## အဆောက်အအုံများ

လူမှုဆိုင်ရာ အဆောက်အအုံများ မကျန်မရှိတော့ဖြစ်၏။ နန်းတော်မှာ အောက်ခံခုံလောက်သာ ကျန်တော့သည်။ လွန်မင်းစွာ ပျက်စီးခြင်းမရှိသေးဘဲ မူလပုံကိုဖမ်း၍ ရနိုင်သေးသောအဆောက်အအုံတို့မှာ သာသနာဆိုင်ရာ ထူပါ၊ စေတီ၊ ဂူဘုရား စသည်တို့ဖြစ်၏။

## ထူပါ

ထင်ရှားသော သရေခေတ္တရာပျူ ထူပါတို့မှာ ဘောဘောကြီး၊ ဘုရားကြီးနှင့်ဘုရားမာတို့ဖြစ်သည်။ ထူပါတို့၏ပုံမှာ ယနေ့ အတွေ့အမြင်များသော ခေါင်းလောင်းပုံ လုံးပတ်ပါသည့်စေတီပုံများနှင့်မတူ။ အုပ်ဆောင်းပုံ သို့မဟုတ် တိုင်လုံးကြီး(ဆလင်ဒါ)အသွင်ဆောင်သော ပုံမျိုးဖြစ်သည်။

နိမ့်လည်း နိမ့်၊ ကျဉ်းလည်း ကျဉ်းသော ပစ္စယံတို့အပေါ်တွင် အချိုးအားဖြင့် အဆမတန်မြင့်သော ထူပါလုံးကို အဓိကအသားပေးကာ မားမားမတ်မတ် ထင်ထင်ရှားရှား ရှိအောင် ဆောက်လုပ်ထားပုံဖြစ်၏။

ယင်းထူပါတို့မှာ အမြင်အားဖြင့် အတွင်းပိတ် အုတ်အပြည့်စီထားပုံ ပေါ်သော်လည်း အတွင်း၌ ဌာပနာတိုက်အတွက် နေရာလွတ်ထား၍ တည်ဆောက်ထားသော 'အတွင်းခေါင်းပါ'ထူပါများဖြစ်သည်။ ဘောဘောကြီးနှင့် ဘုရားကြီးတို့တွင် ဤအတိုင်း အထင်အရှား တွေ့ရသည်။

## စေတီ

ထူပါပုံ မဟုတ်ဘဲ ခေါင်းလောင်းပုံ လုံးပတ်ရှိသော စေတီပုံကိုလည်း သရေခေတ္တရာတွင် တွေ့ရ၏။ ယင်းစေတီမှာ 'သောင်ပြည့်ကုန်း'တွင် တူးဖော်တွေ့ရသော ပေါ်တော်မူစေတီဖြစ်သည်။ မူရင်းအတိုင်း တွေ့ရသော စေတီတို့တွင် ဤစေတီတော်မှာ မြန်မာနိုင်ငံတွင် ရှေးအကျဆုံးဖြစ်၏။

ထူပါနှင့်စေတီတို့သည် မြတ်စွာဘုရား ပရိနိဗ္ဗာန်စံဝင်တော်မူခြင်းကို အထိမ်းအမှတ်ပြုသော အဆောက်အအုံဖြစ်၏။

## ဂူဘုရား

အစောဆုံးဟု ဆိုရမည့်ဂူဘုရားအဆောက်အအုံကို သရေခေတ္တရာတွင် တွေ့ရသည်။ အတွင်းတွင် ဗုဒ္ဓရှင်တော်၏ရုပ်ပွားတော်ကိန်းအောင်း၍ လူများဝင်ရောက်ပူဇော်နိုင်အောင် ဂန္ဓကုဋီအခန်းဖွဲ့ကာ အုတ်ဖြင့် တည်ဆောက်ထားသော အဆောက်အအုံဖြစ်သည်။ (မြတ်စွာဘုရား သက်တော်

ထင်ရှားရှိ၍ သီတင်းသုံးနေတော်မူသည်ကို အထိမ်းအမှတ်ပြုရန်)အချို့မှာ ဝင်ပေါက်နှင့်ဂန္ဓကုဋီသာပါသော ဂူငယ်များဖြစ်၏။

အချို့တွင် ဝင်ပေါက်အာရုံခံဂန္ဓကုဋီပါသည်။ တဆူတွင်မူ လေးမျက်နှာ၌ ဝင်ပေါက်လေးပေါက်ပါ၍ အတွင်းလေးမျက်နှာ ဗဟိုတိုင်ကြီးတွင် နံရံကပ် ရုပ်ပွားတော်များ ထည့်ထားသည်။ ယင်းဗဟိုတိုင်ကိုပတ်၍ ပူဇော်နိုင်ရန် ကြောင်လိမ်စင်္ကြံထည့်ပေးထားသည်။

## ပျူတို့တီထွင်ခဲ့သော ဗိသုကာနည်း

ယင်းဂူတို့၏ဝင်ပေါက်များကို ပြုလုပ်ရာတွင် ဘေးတဖက်ချက်မှ အုပ်ချပ်များကို အတွင်းသို့တိုးကာ တလွှာပြီးတလွှာစီပြီး ခုံးဖော်ခြင်းမျိုးမပြုဘဲ အုတ်ကို အပြားလိုက်တဖက်မှ တဖက်ထောင်ကပ်ကာ ခုံးဖော်လာပြီးနောက် နှစ်ဖက်မှ ကပ်လာသော အုတ်ပြားတို့ဆုံမိရာ နေရာထိပ်တွင် တြိဂံပုံဖော်၍ ကျန်နေသော ကွက်လပ်တွင် သပ်အုပ်ထည့်ပေးရ၏။

ဤသို့ဖြင့်စီထားသော အုတ်တို့ကို ပို၍ကျပ်စေ၍ ခိုင်စေသည်။ ဤသို့သပ်ဖြင့် အဆုံးသတ်စီရသော ခုံးတို့ကို 'သပ်စီခုံး'ဟုခေါ်သည်။ အထက်တွင် ရှေ့သို့ တလွှာပြီး တလွှာ တိုးကာ စီခြင်းဖြင့် ခုံးကို 'တိုးစီခုံး'ဟုခေါ်သည်။ သပ်စီနည်းဖြင့် အုတ်ကို တလွှာပြီးတလွှာ ကပ်စီကာ ရှည်လျားသော လိုဏ်ကို ဖြစ်စေနိုင်သည်။ ဤခုံးမျိုးအပေါ်တွင် ထပ်တိုး၍ ဆောက်လုပ်လိုလျှင် အလေးချိန်ပိသဖြင့် ခုံးသည် ခိုင်သည်ထက် ပိုခိုင်သည်။

တိုးစီခုံးမှာမူ ယင်းသို့ ကြာရှည်မခံနိုင်၊ ကွဲပြားတတ်သည်။ သပ်စီခုံးနည်းအရ ဂန္ဓကုဋီအမိုးကို ဒေါင်လိုက်အုတ်စီကာ အုန်းလေးဘက်ချ၍ ယူသည်။ ယင်းအမိုးပေါ်တွင် ပစ္စယံများ သိကရ(ကွန်းတောင်)စေတီအထွတ်ကို ထပ်တင်သည်။

သပ်စီခုံး၊ သပ်စီအုန်း၊ လေးဘက်ချ၊ အမိုးခုံးဖွဲ့နည်းကို ပိုမိုကျယ်ပြန့်ကြီးကျယ်စွာ အသုံးပြုခြင်းအားဖြင့် အံ့ချီးဘွယ်ဖြစ်သော အာနန္ဒာ၊ သဗ္ဗညု၊ စူဠာမဏိ၊ ထီးလိုမင်းလိုကဲ့သို့သော ကြီးကျယ်ခန့်ငြားလှသည့်ပုဂံအဆောက်အအုံကြီးများ ပေါ်ပေါက်လာခဲ့ခြင်းဖြစ်သည်။ အရှေ့တောင်အာရှတွင် ဤဗိသုကာနည်းကို ရှေးဦးစွာ တီထွင်ပေးသူတို့မှာ သရေခေတ္တရာ ပျူများဖြစ်သည်။

တီထွင်ထားသော ဤဗိသုကာနည်းနှင့်ဆောက်လုပ်ခဲ့၍ နှစ်ပေါင်း ၁၂၀၀-ကျော် ၁၃၀၀-ကြာသည့်တိုင် တည်နေသေးသော ပျူဂူအဆောက်အအုံတို့မှာ ဘဲတဲဂူဘုရား၊ အရှေ့ဈေးဂူ၊ လေးမျက်နှာဂူဘုရားတို့ ဖြစ်သည်။ ဤဂူဘုရားငယ်တို့မှာ ပုဂံဂူဘုရားကြီးတို့၏ရှေ့ပြေးပုံစံငယ်များပင် ဖြစ်ပေသည်။

## လက်မှုအနုပညာများ

အနုပညာလက်ရာဘက်တွင်လည်း ပျူတို့၏တီထွင်မှု အများပင်ရှိ၏။ သရေခေတ္တရာသည် အိန္ဒိယအသွင်ဆောင်၍ အိန္ဒိယယဉ်ကျေးမှုကို အခြေပြုသော ပဒေသရာဇ်နိုင်ငံဖြစ်သည်။ အိန္ဒိယယဉ်ကျေးမှုနှင့်အစဉ်အလာတို့သည် မြို့တော်နှင့်မြို့တော်ပတ်ဝန်းကျင်ဒေသတို့လောက်တွင်သာ ထင်ရှားသောလွှမ်းမိုးမှုကို ပြုနိုင်၏။ တခြားဒေသတို့တွင် ထိထိရောက်ရောက် ပြန့်နှံ့ခဲ့ခြင်း မရှိပေ။

မြို့တော်၌ပင်လျှင် ပျူတို့သည် အစပထမ၌သာ အိန္ဒိယယဉ်ကျေးမှုနှင့်လက်မှုအနုပညာတို့ကို အိန္ဒိယဟန်၊ အိန္ဒိယပုံစံအတိုင်း လက်ခံအသုံးပြုခဲ့ကြသည်။ နောက်ပိုင်းတွင် မိမိတို့ကိုယ်ပိုင်ဟန်နှင့်အသွင်သို့ ပြောင်းယူ၏။

ဥပမာ ရုပ်ပွားတော် ပုံသွင်းပြုလုပ်မှု၊ ထုလုပ်မှုတို့တွင် ပျူတို့သည် အိန္ဒိယပုံအတိုင်း အင်ဒိုအာရိယန်မျက်နှာသွင်ပြင်တော်မျိုး နှာခေါင်းချွန်ချွန်မျက်နှာတော် သွယ်ပုံမျိုးကို ထုလုပ်ခဲ့ကြ၏။ သွန်းလုပ်ခဲ့ကြ၏။ ထိုနောက် ယင်းအသွင်နှင့်ဟန်မှ မွန်ဂိုလွိုက်မျက်နှာတော်သွင်ပြင်များ၊ နှာခေါင်းပုံအနေတော်မျက်နှာဝိုင်းဝိုင်းပုံတော်မျိုးသို့ ပြောင်းလဲသွန်းလုပ်ထုလုပ်လာကြသည်ကို တွေ့နိုင်၏။

ဒုတိယပျူနိုင်ငံတွင် တတ်ကျွမ်းလိမ္မာ၍ ထူးချွန်စွာ လက်ရာမြောက်လှသော လက်မှုအနုပညာသည်များ ပေါ်ထွန်းခဲ့၏။ ယင်းလက်ရာတို့သည် ပုဂံအနုပညာလက်ရာထက်ပင် ပို၍သာသည်။ ကောင်းသည်။ နုသည်။ လက်ရာမြောက်သည်ဟုပင် ဆိုနိုင်ပေသည်။

တွေ့ရှိရပြီးသော အထောက်အထားများကို အခြေပြု၍ ပျူလက်မှုအနုပညာသည်တို့ကို-

(က) ပန်းတမော့(ကျောက်သစ်)အနုပညာသည်များ။

(ခ) ပန်းဘဲ၊ ပန်းထိမ်၊ ပန်းတဉ်းစသည့်သတ္တုအနုပညာသည်များ။
(ဂ) ပန်းရံအနုပညာသည်များ။
(ဃ) ပုတီးလုံး၊ လည်ဆွဲစသည်တို့ကို ပြုလုပ်သည့်ကျောက်သွေးအနုပညာသည်များ။
(င) မြေအိုး၊ မြေရုပ်စသည်တို့ကို ပြုလုပ်သည့်မြေမီးဖုတ် အနုပညာသည်များဟု ငါးမျိုးခွဲခြားနိုင်၏။

ပုဂံတွင် တွေ့ရသော ပန်းချီနှင့်ပန်းပုအနုပညာသည်မျိုး သရေခေတ္တရာတွင် ရှိခဲ့ကြောင်းကို သက်သေထူနိုင်ရန် အထောက်အထားများ မတွေ့ရသေးပေ။ ယင်းသို့ မတွေ့ရသဖြင့် ပန်းချီ၊ ပန်းပုအနုပညာသည်များ မရှိဟုကား မဆိုနိုင်ချေ။

## ပန်းတမော့

တွေ့ရသော လက်မှုအနုပညာပစ္စည်းများကို ဖေါ်ပြ၍ ပျူတို့၏အနုပညာအကြောင်းကို ဆွေးနွေးမည်ဆိုလျှင် ကျယ်ပြန့်ရှည်လျားလှတော့မည်။ ဤနေရာတွင် အကျဉ်းမျှသာ ဆိုနိုင်ပေမည်။

ပန်းတမော့လက်ရာတို့တွင် ရုပ်ဝက်ဖေါ် နံရံကပ်ရုပ်ပွားတော်များ၊ ရုပ်လုံးများ၊ ဗုဒ္ဓုပ္ပတ္တိနှင့်စပ်လျဉ်းသည့် ရုပ်ဝက်ဖေါ်ကျောက်ဆစ်လက်ရာများ၊ ဖွားတော်မူခန်း၊ ဓမ္မစကြာဟောတော်မူခန်းစသည်များ၊ ဗိဿနိုးနတ် ဂဠုန်စီးနေပုံရုပ်ဝက်ဖေါ်၊ မဟာယာနဂိုဏ်းဝင် ဘုရားအလောင်းတော်များပုံ၊ ထူပါရုပ်ဝက်ဖေါ် ဌာပနာတိုက်ဖုံးကျောက်ပြားကြီးများ၊ ကြာပန်း ကြာခက်တို့ဖြင့် တန်ဆာဆင်ထားသော ကျောက်ပလ္လင်များ၊ တံခါးစောင့်နတ်ရုပ်၊ ကျောက်ခြသေ့်၊ ကျောက်အရိုးအိုး၊ ကျောက်စာ၊ ကျောက်လှေကားတို့မှာ ပျူတို့ထားခဲ့ရစ်သော ကျောက်ဆစ်အနုလက်ရာများ ဖြစ်သည်။

## သတ္တုအနုပညာ

သရေခေတ္တရာတွင် တွေ့ရသော သံချောင်း၊ သံကောက်၊ သံချွန်၊ သံချောင်းများစွာ လျှိုထားသော သံပြားပေါက်၊ ဓားသွား၊ သံကွင်းစသည်တို့

က ပျူတို့သည် ပန်းဘဲလုပ်ငန်းတွင် ကျွမ်းကျင်ကြောင်း ထောက်ခံနေသည်။

ထို့ပြင်မကသေး ပျူတို့သည် သံရည်သွန်းအတတ်ကိုလည်း ကောင်းစွာ တတ်မြောက်ကြောင်း မကြာမီနှစ်များအတွင်းက တွေ့ရသော သံဘီလူးမရုပ်နှင့်ရှိခိုးနေသောသံရုပ်ငယ်တို့ကို ထောက်၍ သိနိုင်၏။

## ပန်းတဉ်း

ကြေးသတ္တုကိုလည်း ပိုင်နိုင်စွာ အသုံးချတတ်ကြောင်းကို ပျူတို့ထားရစ်ခဲ့သည့်အချိုးကျ၍ သပ္ပါယ်လှသော ကြေးဆင်းတုတော်ငယ်အမျိုးမျိုး၊ ကြေးဖလား၊ လင်ဗန်း၊ ကြုတ်နှင့်လက်ကိုင်ပါ ကြေးမုံတို့မှ သိရှိနိုင်၏။ အုတ်ခွက်ဘုရားပြုလုပ်ရန် ကြေးပုံစံများကိုလည်း ပြုလုပ်ခဲ့ကြသည်။

## ပန်းထိမ်

ပျူတို့သည် ရွှေပန်းထိမ်၊ ငွေပန်းထိမ်တို့တွင်လည်း တဖက်ကမ်းခတ်သူများဟု ဆိုနိုင်၏။ ခေါင်းပွ ရွှေဆင်းတုများ၊ ဖောင်းကြွရွှေပေလွှာများ၊ ရွှေပန်းပွင့်ငယ်များ၊ ရွှေပုတီးလုံး၊ ရွှေခေါင်းလောင်း၊ ရွှေကြက်ဥ၊ ရွှေလက်စွပ်စသည့်လက်ဝတ်တန်ဆာများ၊ ငွေဆင်းတု၊ ငွေထူပါငယ်၊ ကြာခွက်ပါ ကြာပွင့်ကြီးများ၊ ငွေခြင်းလုံးငယ်၊ ငွေလင်ဗန်း၊ ငွေခွက်၊ လေးထောင့်ကြုတ်၊ ငွေဆီမီးခွက်၊ ငွေဒင်္ဂါးများသည် ပျူပန်းထိမ်တို့၏သပ်ရပ်ကောင်းမွန်လှသောလက်ရာများ ဖြစ်၏။

အထူးသဖြင့် ပွင့်တော်မူပြီး ဘုရားလေးဆူအား သာဝကများရံလျက်ရှိပုံကို ဖောင်းကြွပုံဖော်ကာ ရွှေရည်သွန်း၍ထားသော ကြုတ်ဝိုင်းကြီးတွင် အဖုံးအလယ်မှ ညောင်ပင်ပေါက်ထားပေးပုံမှာ လက်ရာမြောက်လှသောပန်းထိမ်လက်စွမ်းပင် ဖြစ်သည်။

ဖောင်းကြွစသောနည်းဖြင့် ခတ်ထားသော ဗုဒ္ဓရုပ်ပွားပုံပါ ရွှေပြားငွေပြားများ၊ တံခါးစောင့်ရုပ်ငွေပြားများကိုလည်း တွေ့ရ၏။ ပျူတို့သည် ရွှေရည်စိမ် သို့မဟုတ် ရွှေချသည့်ပညာကိုလည်း တတ်ကျွမ်းသူများ ဖြစ်ကြ၏။

မြန်မာနိုင်ငံတွင် ရှေးအကျဆုံးဟုဆိုရမည့် ဖန်ဆင်းတုတော်တဆူကို

သရေခေတ္တရာတွင် တွေ့ရ၏။ ယင်းတို့အပြင် ဖန်ပုတီးလုံးများကိုလည်း တွေ့ခဲ့ရ၏။ ဤပစ္စည်းတို့မှာ နိုင်ငံခြားမှသွင်းယူသော ပစ္စည်း သို့မဟုတ် ပျူတို့ပြုလုပ်သည့် ပစ္စည်းဟုအတိအကျခွဲခြား၍ မဆိုနိုင်သေးပေ။

## ကျောက်သွေးအနုပညာ

ကြုတ်အချို့တို့တွင် ကျောက်သံပတ္တမြားကို မြှုပ်ထား၏။ လူသုံးလည်ဆွဲကျောက်မျက်ရတနာများကိုလည်း တွေ့ရ၏။ အသုံးပြုခဲ့သော ကျောက်မျက်ရတနာတို့မှာ ဆိုခဲ့ပြီးသည့်အတိုင်း ပတ္တမြား၊ နီလာ၊ ကြောင်၊ ကျောက်နီ၊ မဟူရာ၊ ဂေါ်မုတ်၊ ဂေါ်ဒန်၊ ကျောက်သလင်း၊ ကျောက်စိမ်း၊ ဥဿဖယားစသည်တို့ဖြစ်၏။ ချောမွေ့ညီညာစွာ လုံးနေသော အရွယ်အစား(အချို့မှာသျှစ်သျှားသီးခန့်ကြီးသည်။)ရှိ ပုတီးလုံးများ၊ ရှစ်မြောင့်၊ ခြောက်မြောက်ပါ ပုတီးစေ့များ၊ အလယ်တုတ်၍ ဘေးသို့သွယ်သွားသော စည်ပုံပုတီးစေ့များ၊ ဆင်၊ သမင် စသည့်တိရစ္ဆာန်ပုံတို့ ပုံပေါ်အောင် ထုလုပ်ထားသည့်ကျောက်စိမ်းတုံးငယ်များ ပါဝင်သည်။ ဤကဲ့သို့ ပုံအမျိုးမျိုးပေါ်အောင် သွေးခြင်း၊ ဆစ်ခြင်းဖြင့် ပြုလုပ်စွမ်းရှိသည့်လက်မှုပညာသည်များ ဖြစ်သည်။

## မြေမီးဖုတ်အနုပညာ

ဗုဒ္ဓရုပ်ပုံတော်၊ မဟာယာနဘုရားလောင်း ပုံတော်ပါ၍ ပုံအမျိုးမျိုး၊ ပုံစံအမျိုးမျိုးရှိသော အုတ်ခွက်များ၊ ဌာပနာခန်းနံရံပတ်လည်ကို နံရံပြည့်တန်ဆာဆင်ရန် ပြုလုပ်ထားသော သဘာဝကျလှသည့် ရုပ်ဝက်ဖေါ်မြင်း၊ ခြင်္သေ့၊ အသီး၊ ပန်း၊ တိုင်၊ ရသေ့ရုပ်၊ မင်းရုပ်များက မြေစေးကို အနုပညာမြောက်စွာ ပုံဖေါ်၍ ကြာရှည်ခံအောင် မီးဖုတ်သည့်လုပ်ငန်း၌ ပျူတို့၏ထူးချွန်မှုကို သက်သေခံနေပေသည်။

အုတ်လုပ်ငန်းတွင်လည်း တော်ကြသူများဖြစ်သည်။ မြို့ရိုးအတွက် ဖုတ်လုပ်ထားသော အလျား ၁၈-လက်မ၊ အနံ ၉-လက်မ ထု၃-လက်မရှိအုတ်ကြီးများမှာ နှစ်ပေါင်း ၁၂၀၀-ကျော်၊ ၁၃၀၀-ကြာသည့်တိုင်အောင် ကောင်းမွန်လျက် ရှိသေးသည်။

မြေအိုး မြေခွက်လုပ်ငန်းတွင်လည်း လက်ရာမြောက်ကြ၏။ ပြောင်အိုးများအပြင် အိုးအပြင်ပကို ပုံစံအမျိုးမျိုး တန်ဆာဆင်ထားသောအိုးများကို ပြုလုပ်နိုင်ကြသည်။ သေသူ၏အရိုးပြာထည့်ရန် မြေအိုးများကို အထူးတလည် အဆန်းတကျယ် ပြုလုပ်ကြသည်။ အိုးပုံစံအမျိုးမျိုး ရှိသည်။

## စဉ့်လုပ်ငန်း

တရုတ်ခေတ်ပြိုင်ကျမ်းများက ပျူတို့သည် စဉ့်အိုး စဉ့်ခွက်များကို ရောင်းချကြောင်း၊ မြို့ရိုး၏ပြင်ပမျက်နှာအုတ်တို့ကို စဉ့်ကိုင်ထားကြောင်းဖော်ပြကြ၏။ သို့သော် သရေခေတ္တရာခေတ်က စဉ့်အထောက်အထားများကို သရေခေတ္တရာတွင် မတွေ့ရသေးပေ။

## ပျူသဘင်ပညာ

တူရိယာဂီတနှင့်သဘင်ပညာတွင်လည်း ပျူတို့၏တိုးတက်အောင်မြင်မှုမှာ အံ့သြဘွယ်ပင်ဖြစ်ကြောင်း တရုတ်ခေတ်ပြိုင်ကျမ်းတို့က ဆို၏။ ၈၀၀ နှင့် ၈၀၂-အေဒီနှစ်များတွင် နန်စောမှတဆင့် ပျူယဉ်ကျေးမှု ချစ်ကြည်ရေးအဖွဲ့တို့သည် ထန်တရုတ်နန်းတော်သို့ ရောက်ခဲ့ကြ၍ ထိုယဉ်ကျေးမှုအဖွဲ့အကြောင်းကို အသေးစိတ်ရေးမှတ်ထားသော တရုတ်မှတ်တမ်းတို့မှ သိရှိရ၏။

## တူရိယာပစ္စည်း

ပျူတို့၏တူရိယာတီးဝိုင်းတွင် တူရိယာပစ္စည်း ၂၂-မျိုးပါ၏။ ဤပစ္စည်းတို့ဖြင့် အသံရှစ်မျိုး တီးမှုတ်နိုင်သည်ဆို၏။ ဤတူရိယာပစ္စည်း ၂၂-မျိုးတွင် သတ္တုနှင့်ပြီးသော ကရိယာ ၂-မျိုး၊ ကြိုးတပ်ကရိယာ ၁၇-မျိုး၊ ဝါးကရိယာ ၂-မျိုး၊ ဗူးခွံကရိယာ ၂-မျိုး၊ သားရေကရိယာ ၂-မျိုး၊ ဆင်စွယ်ကရိယာ ၁-မျိုး၊ ဦးချိုကရိယာ ၂-မျိုး၊ ခရုခွံကရိယာ ၁-မျိုးစသည်တို့ ပါဝင်သည်။

တူရိယာပစ္စည်းတို့၏အမျိုးအမည်၊ ပုံသဏ္ဌာန်အရွယ်အစားတို့ကိုပါ တရုတ်မှတ်တမ်းက ဖော်ပြသည်။ ခေါင်းလောင်း၊ လင်းကွင်း၊ စောင်းပြား၊ မိ

ကျောင်း၊ ယခုခေတ် ဒုံမင်းဟုခေါ်နေသော ကြိုးအများတပ်ထားသော ပျပ်စောင်းတမျိုး၊ ပျပ်စောင်းဝိုင်း၊ ပလွေ၊ တံမြွာ၊ ယနေ့ ရှမ်းပြည်ကုန်းမြင့်သားတို့ သုံးနေသော ကဲန်းခေါ်ဗူးခါးပလွေ၊ မြွေရေကျက်ထား၍ မျက်နှာ ၃-ဘက်ပါသော ဗုံနှင့်စည်၊ သံလက်ခုတ်များ ပါဝင်သည်။

ကြိုးတပ်ကရိယာတို့တွင် ကြိုးမည်မျှ၊ အသံညှိခလုတ်မည်မျှ၊ ကြိုးတပ်တုံးငယ်[1] မည်မျှစသည်တို့ကိုပင် ဖော်ပြထား၏။ ဤကရိယာပစ္စည်းများကိုထောက်၍ ပျူကရိယာဂီတမည်မျှ တိုးတက်နေပြီကို ခန့်မှန်းနိုင်ပေသည်။

## သီချင်းများ

ထန်နန်းတော်တွင် ပျူယဉ်ကျေးမှုအဖွဲ့သည် သီချင်း ၁၂-ပုဒ်ဆိုခဲ့၏။ သီချင်းအားလုံးမှာ ဗုဒ္ဓဝါဒနှင့်စပ်လျဉ်း၍ သီကုံးထားသော သီချင်းများဖြစ်သည်။ သီချင်းတို့ကိုလည်း ဗုဒ္ဓ၏တံဆိပ်တော်၊ အင်ကြင်းပန်းဘွဲ့၊ ချိုးဖြူ ဈာန်၏ငြိမ်းချမ်းမှု၊ ဥဒေါင်းမင်း စသည်ဖြင့် အမည်များ ပေးထားသည်။

ကချေသည်တို့၏ဆန်းကျယ်သော ဝတ်စားဆင်ယင်မှု၊ အလှပြင်မှု၊ သရုပ်ဖော်၍ ကကြပုံ၊ အတီးနှင့်အက ပနံရ၍ ညက်ညက်ညောညောငြိမ့်ငြိမ့်ပြောင်းပြောင်းရှိပုံ၊ မကမီ အခမ်းအနားမှူးက အကအကြောင်းကို ရှင်းလင်းတင်ပြ၍ ဘာသာပြန်ပေးပုံ၊ ကပြီးသောအခါ အနုပညာသည်တို့က ဦးညွှတ်၍ အလေးပြုပုံ၊ ထန်ဧကရာဇ်ကိုယ်တိုင် ပျူတူရိယာဂီတနှင့်ကပြဖြေဖျော်မှုတွင် စိတ်ဝင်စားစွာ အားပေးသည်ကို တရုတ်အနုပညာသည်တို့ကပင် ဝန်တိုလာပုံတို့ကို တရုတ်မှတ်တမ်းများတွင် အသေးစိတ်ဖော်ပြထား၏။

လွန်စွာ တိုးတက်အောင်မြင်၍ တရုတ်နန်းတော်တွင် ပါဝင်ခဲ့သော အဆင့်အတန်းမြင့်လှသည့် တူရိယာဂီတနှင့်သဘင်ပညာ ဖြစ်သည်။

## ပျူနိုင်ငံပျက်သုဉ်းရခြင်း

ပျူတို့၏ယဉ်ကျေးမှုသည် အဆင့်အတန်း မြင့်လှ၏။ ထူးချွန်အောင်မြင်မှုများ ရှိ၏။ ဤကဲ့သို့ ယဉ်ကျေးမှုတွင်သာ တဖက်သတ်ထူးချွန်သဖြင့် ပျူ

1. Bridge

တို့မှာနူးညံ့ပျော့လျော့သောအခြေသို့ ရောက်မှန်းမသိ ရောက်ခဲ့ကြ၏။

အနုပညာတွင်သာ နစ်မျောနေကြသဖြင့် တိုင်းပြည်တည်တန့်ခိုင်မြဲရေးနှင့်ကာကွယ်ရေးတို့ဘက်တွင် လျော့ညံ့လာကြပြီဟု ဆိုရန်ရှိသည်။ အထက်တန်းကျသော ယဉ်ကျေးမှုနှင့်ကြာမြင့်စွာ နေလာခဲ့ကြသဖြင့် ပျူတို့သည် ယဉ်ကျေးနူးညံ့ရည်မွန်လွန်းသည့် တဖက်စွန်းသို့ရောက်ခဲ့ကြ၏။ လိုအပ်သည့်မဇ္ဈိမပဋိပဒါလမ်းကြောင်းမှ လွဲဖယ်သွေဖည်ရာ ရောက်ခဲ့ကြပေသည်။

မှန်၏။ ပျူတို့၏လူ့အဖွဲ့အစည်းသည် ပြည်ထောင်စုမြန်မာနိုင်ငံသမိုင်းတွင် သိရသမျှ အထက်တန်းကျ၍ ခမ်းနားလှသော မြတ်နိုးဘွယ်ရာဖြစ်သော ယဉ်ကျေးမှုနှင့်သိမ်မွေ့ညက်ညောလှသည့်လူမှုဆက်ဆံရေးတို့ ရှိခဲ့သော ရှေးအကျဆုံးသော ပဒေသရာဇ်လူ့အဖွဲ့အစည်းဖြစ်သည်။

သို့သော် ပျော့ညံ့မှု၊ နူးညံ့သိမ်မွေ့မှုတည်းဟူသော တဖက်စွန်းသို့ရောက်ခဲ့ကြသဖြင့် ၈၃၂-အေဒီတွင် မမျှော်လင့်ဘဲ နန်စောတပ်များ ဝင်ရောက်တိုက်ခိုက်လာသောအခါ မခုခံနိုင်ဘဲ အညံ့ခံလိုက်ကြရရှာသည်။ နန်စောတပ်တို့သည် ပျူမြို့တော်ကို တိုက်ခိုက်လုယက်ဖျက်ဆီးရုံသာမက ပျူ ၃၀၀၀-ကျော်ကို သုံ့အဖြစ် ဖမ်းဆီးသွားကြသည်။

သုံ့တို့ကို နန်စော၏အရှေ့ပိုင်း မြို့တော်ဖြစ်သော ကျေတုင်၁(ယခုယူနန်ဖူ)အနီးတွင် ကျွန်အဖြစ် နေရာချထားပေး၏။ ကျွန်အဖြစ် စေခိုင်းကြသော်လည်း သူတို့ဘာသာ အသက်မွေးဝမ်းကျောင်းမှုကို ပြုလုပ်စေသည်။ နန်စောသခင်တို့က ကျွေးမွေးခြင်း မပြုကြပေ။

အထက်တန်းကျလှသော ပျူယဉ်ကျေးမှုသည် တဖက်စွန်းသို့ရောက်ခဲ့သဖြင့် ဤကဲ့သို့ အဆုံးသတ်ကာ တစခန်း သိမ်းခဲ့ရရှာသည်။

---

1. Chetung

× × × × × × × × × × × × × × × × × ×

## ကာလပျက်ချိန် အခြေအနေ

မြန်မာနိုင်ငံ အရှေ့မြောက်ဖက် ယူနန်နယ်ကို ဗဟိုပြုသောနန်စော နိုင်ငံက ဝင်ရောက်တိုက်ခိုက်ဖျက်ဆီးသဖြင့် ၈၃၂-အေဒီတွင် ပျူနိုင်ငံပျက်စီး၍ ပျူခေတ်မြန်မာနိုင်ငံ လူ့အဖွဲ့အစည်း ဖရိုဖရဲဖြစ်ခဲ့ရပုံကို ဆိုခဲ့ပြီးဖြစ်ပါသည်။

ဧရာဝတီမြစ်ဝကျွန်းပေါ်အရှေ့စွန် စစ်တောင်းမြစ်ဝပတ်ဝန်းကျင် ဂျိုင်းနှင့်သံလွင်မြစ်ဝကျွန်းပေါ်ဒေသတွင် ရှိခဲ့သော ရှေးရာမညဒေသ(သုဝဏ္ဏဘူမိ)ကိုလည်း ၈၃၅-အေဒီတွင် နန်စောတို့ တိုက်ဖျက်၍ လူ ၂၀၀၀-ကျော်ကို သုံ့ပန်းအဖြစ် ဖမ်းဆီးခေါ်ဆောင်သွားခဲ့သည်။

ဤသို့ဖြင့် ထိုခေတ် မြန်မာနိုင်ငံသားတို့မှာ စုစည်းမှုမရှိ၊ အအုပ်အချုပ်မရှိဘဲ အခါပျက်ရသည့်ကာလနှင့်ကြုံကြိုက်ခဲ့ရသည်။ ဤကာလလောက်တွင် မြန်မာနိုင်ငံမြောက်ပိုင်း ဧရာဝတီနှင့်ချင်းတွင်းဆုံရာ ဒေသလောက်၌ အထက်ပိုင်းဖြစ်သော မြန်မာနိုင်ငံမြောက်ပိုင်းတွင် သက်များ၊ စစ်တောင်းမြစ်ဝှမ်းအလယ်ပိုင်းလောက်တွင် ကရင်များ၊ စစ်တောင်းမြစ်ဝှမ်းအောက်ပိုင်းတွင် ရှေးမွန်များ၊ ဧရာဝတီမြစ်ဝှမ်းအလယ်ပိုင်းနှင့်တောင်ဘက်ပိုင်းတွင် ပျူများ၊ ဇော်ဂျီနှင့်ပန်းလောင်မြစ်ဝှမ်းဒေသတွင်(ကရင်တို့ ဝင်ရောက်ခဲ့ပြီးဖြစ်၍ စစ်တောင်းမြစ်ဝှမ်းတောင်ပိုင်းရှိ ရှေးမွန်တို့နှင့်အဆက်ပြတ်ခဲ့ရသော)ရှေးမွန်များ အသီးသီး ရှိနေခဲ့ကြသည်ဟု ယူဆရ၏။

ယင်းတို့အပြင် ပလောင်၊ ဝ စသော မွန်ခမာ အနွယ်ခွဲဝင်များ၊ သက် အစုဝင် ဂဒူးများသည်လည်း ဧရာဝတီမြစ်ဝှမ်းအလယ်ပိုင်းနှင့်ဇော်ဂျီပန်းလောင် မြစ်ဝှမ်းတို့တွင် အခြားတိုင်းရင်းသားတို့နှင့်ရောနှောနေထိုင်လျက်ရှိသည်ဟု ဆိုနိုင်ပေသည်။

## ကုန်းမြင့်သားတို့ မြေပြန့်သို့ ရွှေ့ပြောင်းနိုင်သည့်အခွင့်အလမ်း

ပျူနိုင်ငံပျက်သည့်(၈၃၅-အေဒီ)မှ ပုဂံတွင် အနော်ရထာမင်းကြီးအုပ်စိုးလာသည့်ကာလ(၁၁-ရာစုအလယ်လောက်)အထိ ဤခေတ်ပျက်ကာလပျက်သမယအတွက် ပြည်တွင်းကျောက်စာစသည့် စာပေအထောက်အထားများကို မတွေ့ရသေးပေ။ ဤကာလတွင် ထူးခြားသော မည်သည့်သမိုင်းဖြစ်ရပ်များ ဖြစ်ပေါ်ခဲ့သနည်း။

လူ့အဖွဲ့အစည်းသည် ပျက်စီးလျက်ရှိ၏။ တိုင်းရင်းသားတို့သည် စည်းလုံးညီညွတ်မှုမရှိ။ ပြင်ပအင်အားကို တွန်းလှန်ကာကွယ်နိုင်သော အင်အားစုလည်း မရှိသော ကာလဖြစ်ရာ ဤကာလမှာ မြန်မာနိုင်ငံမြေပြန့်အတွင်းသို့ ကုန်းမြင့်ဒေသတို့မှ အင်အားကြီးသော အခြားတိုင်းရင်းသားတို့ အလုံးအရင်းနှင့်ဝင်ရောက်လာနိုင်သော၊ ရွှေ့ပြောင်းလာနိုင်သော အခွင့်ကောင်းနှင့်အခြေအနေကို ဖန်တီးပေးနေသော ကာလဖြစ်ပေသည်။

## မြန်မာအစုဝင် စကားများကို ပြောသူများ

မြန်မာနိုင်ငံတွင် တိုင်းရင်းသားတို့ ပြန့်နှံ့နေပုံ လက်ရှိအခြေအနေနှင့် ရှေးဟောင်းမြန်မာကျောက်စာတို့ကို အထောက်အထားပြု၍ ဤကာလအတွင်း ကုန်းမြင့်မှ မြေပြန့်သို့ ရွှေ့ပြောင်းဆင်းသက်လာကြသော တိုင်းရင်းသားတို့မှာ ရှေးဟောင်းမြန်မာများ၊ တနည်းဆိုရသော် တိဗက်မြန်မာအနွယ်ဝင်မြန်မာအစုဝင်ဘာသာစကားကို ပြောဆိုသော တိုင်းရင်းသားများဖြစ်သည်ဟု ခိုင်လုံစွာ ဆိုနိုင်ပေသည်။

မြန်မာအစုဝင် စကားပြောသော တိုင်းရင်းသားတို့၏ယနေ့ပြန့်နှံ့နေထိုင်ရာ ဒေသများကို လေ့လာလျှင် ယင်းအဆိုသည် ပိုမိုထင်ရှားစေနိုင်မည်ဖြစ်သည်။

## မြန်မာအစုဝင်စကားများ

ဘာသာဗေဒနည်းအရ လေ့လာလျှင် မြန်မာနိုင်ငံသား ၁၀-ဦးတွင် ၈-ဦးသည် မြန်မာအစုဝင် စကားများကို ပြောသူများဖြစ်ကြသည်။ မြန်မာအစုဝင်စကားတို့မှာ. . .
(က) အများစုပြောနေသော မြန်မာစကားများ။
(ခ) ယင်းမြန်မာစကားနှင့်အသံနှင့်လေယူလေသိမ်းတွင် အနည်းငယ်ကွဲပြားမှုရှိသော 'အသံကွဲ'မြန်မာစကားများ။
(ဂ) ယင်းစကားများအားလုံးတို့နှင့်အခြေခံတွင် တူညီသော 'ရှေးဦးမြန်မာစကား'များဖြစ်သည်။

## မြန်မာစကားပြောသူတို့၏အချက်အခြာဒေသများ

အများစုပြောနေသော မြန်မာစကားကို တနိုင်ငံလုံးတွင် အနှံ့အပြားပြောဆိုကြသည်။ သို့သော် မြန်မာစကားကိုသာ အများဆုံးပြောသောနေရာမှာ ချင်းတွင်းမြစ်နှင့်ဧရာဝတီမြစ်ဆုံရာ တဝိုက်ဖြစ်သော မန္တလေး၊ ရွှေဘို၊ စစ်ကိုင်း၊ ပခုက္ကူ၊ မြင်းခြံ၊ ကျောက်ဆည်နှင့်မိတ္ထီလာခရိုင်များဖြစ်သည်။ ယင်းဒေသမှာ မြန်မာစကားပြောသူတို့၏အချက်အခြာဒေသဖြစ်သည်။ ယင်းဒေသမှ အပြင်သို့ဝေးဝေးသွားလေလေ မြန်မာစကားပြောသူတို့ တဖြည်းဖြည်းလျော့နည်းလာလေလေ ဖြစ်သည်။

သို့သော် ရှေးကတည်းက မြန်မာစကားပြောသူတို့ ရောက်၍ အခြေစိုက်နေထိုင်ခဲ့ကြသည့် ဝေးလံသောဒေသအချို့တို့တွင် အသံကွဲမြန်မာစကားပြောသူတို့က လူများစုများ ဖြစ်သည်ကို တွေ့နိုင်ပေသည်။

## အသံကွဲ မြန်မာစကားပြောသူများ

ယင်းကဲ့သို့ မြန်မာနိုင်ငံအလယ်ပိုင်းမှ ပြန့်နှံ့ရောက်ရှိသွား၍ အသံကွဲမြန်မာစကားကို ပြောဆိုနေသူတို့ကို အနောက်ဖက်တွင် ရမ်းဗြဲခရိုင်နှင့် စစ်တွေခရိုင်(ရခိုင်စကား)၊ ပခုက္ကူခရိုင် ထီးလင်းနှင့်ဆောဒေသများ(ယော

စကား)၊ ချင်းဝိသေသတိုင်း တောင်ပိုင်း ကုလားတန်မြစ်ရိုးတလျှောက်(ချောင်း သားစကား)၊ အရှေ့ပါကစ္စတန်(အနောက်ဖက်သားတို့ပြောကြသော ရခိုင် စကား၊ မြောက်ဖက်သားများ ပြောကြသော ချောင်းသားစကား)တို့တွင် တွေ့ နိုင်၏။ တောင်ဘက်တွင် ထားဝယ်ခရိုင်(ထားဝယ်စကား)နှင့်မြိတ်ခရိုင်(မြိတ် စကား)တို့တွင် တွေ့နိုင်၏။ ဤအသံကွဲ မြန်မာစကားပြောသူတို့မှာ မြန်မာ နိုင်ငံအလယ်ပိုင်းရှိ လူတို့နှင့်ယဉ်ကျေးမှု၊ ဝတ်စားဆင်ယင်မှုတို့တွင် များစွာ ကွဲပြားခြင်း မရှိကြပေ။

## ချန်နေရစ်ခဲ့သူများ

မြန်မာနိုင်ငံအလယ်ပိုင်း၏အရှေ့ဘက် ရှမ်းကုန်းပြင်မြင့်၏အနောက် စွန်တွင်လည်း အသံကွဲမြန်မာစကားကို ပြောသူများ ရှိကြသည်။ ထိုတိုင်းရင်း သားတို့မှာ မြေလတ်၏အနောက်စွန်တလျှောက်နေသူ ဓနုများ၊ သူတို့၏အရှေ့ ဘက်တွင် တောင်ရိုးများ၊ အင်းလေးကန်တဝိုက်တွင် အင်းသားများ ဖြစ်ကြ သည်။

ဤတိုင်းရင်းသားတို့နေရာမှာ မြေပြန့်နေလူတို့နှင့်များစွာ မကွာဝေး လှသော်လည်း အသံတွင်သာမက ယဉ်ကျေးမှု၊ ဓလေ့ထုံး၊ ဝတ်စားဆင်ယင် မှုတို့၌ပါ မြေပြန့်သားတို့နှင့်ကွဲပြားမှု ရှိနေသည်ကို ထောက်ထားခြင်းအားဖြင့် ဤတိုင်းရင်းသားတို့မှာ အထက်တွင် ဆိုခဲ့သော ရခိုင်တိုင်း၊ တနင်္သာရီတိုင်း နေ အသံကွဲမြန်မာစကား ပြောသူများကဲ့သို့ မြန်မာနိုင်ငံအလယ်ပိုင်းမှ ရွှေ့ ပြောင်းသွားခဲ့သူများ မဖြစ်နိုင်ကြောင်း၊ မြန်မာနိုင်ငံအလယ်ပိုင်း မြေပြန့်သို့ ရွှေ့ပြောင်းလာခဲ့စဉ်က လိုက်ပါမလာဘဲ ချန်နေရစ်ခဲ့သူများသာ ဖြစ်ကြောင်း သိသာနိုင်ပေသည်။

## မည်သည့်ဘက်မှ လာသနည်း

တောင်ရိုးနှင့်ဓနုတို့သည် ချန်နေရစ်သူများ ဖြစ်လျှင် ထိုရှေးမြန်မာ တို့သည် မည်သည့်ဒေသမှ လာသည်ဟု ဆိုနိုင်မည်နည်း။ ရှမ်းပြည်ဘက်မှဟု သာ ဖြေရန်ရှိသည်။

## ရှေးဦးမြန်မာစကားပြောသူများ

ဤအဆိုအကြောင်းကို မစဉ်စားမီ အထက်တွင်ဆိုခဲ့သော ရှေးဦးမြန်မာစကားပြောသူ တိုင်းရင်းသားတို့နေထိုင်ရာဒေသများကို ဖေါ်ပြလျှင်သင့်မည်ထင်သည်။ ရှမ်းပြည်မြောက်ပိုင်း နမ္မတူတဝိုက်တွင် နေထိုင်ကြသော မရူတိုင်းရင်းသားများ၊ ရှမ်းပြည်မြောက်ပိုင်း ကွတ်ခိုင်နယ် မြောက်ဖက် တရုတ်မြန်မာနယ်စပ်တလျှောက်တွင်တွေ့ရသော အဇီးခေါ် ဇီးတိုင်းရင်းသားများ၊ ဗန်းမော်နယ်တွင် အနည်းငယ်တွေ့ရ၍ ယူနန်နယ် ဟိုသာနှင့်လသာနယ်တွင် နေကြသော မိုင်းသာခေါ်အချန်းများ၊ ကချင်ပြည်နယ် ဧရာဝတီမြစ်အရှေ့ဘက် ဆမားနယ်တဝိုက်ရှိ အဇီးခေါ် ဇီးများ၊ သူတို့၏မြောက်ဖက် ဆဒုံနယ်နှင့်လောခေါင်နယ် တောင်ပိုင်းတွင်ရှိကြသော လရှီတိုင်းရင်းသားများ၊ သူတို့၏မြောက်ဖက် လောခေါင်နယ်နှင့်ထောဂေါ်တဝိုက် မေခမြစ်ဝှမ်းနေ မရူတိုင်းရင်းသားများ၊ ဗန်းမော်ခရိုင်နှင့်မြစ်ကြီးနားခရိုင်ဆုံရာ ဧရာဝတီပထမမြစ်ကျဉ်းတွင်နေကြသူများ ဖြစ်သည်။ မရူနှင့်လရှီတို့ကို မြစ်ကြီးနားတဝိုက်တွင်လည်း တွေ့ရသည်။

## ရှေးဦးမြန်မာတို့ ပြန့်နှံ့နေပုံကို ဆက်စပ်လေ့လာခြင်း

ဤတိုင်းရင်းသားတို့ ပြန့်နှံ့နေပုံကို ရှမ်းပြည်တောင်ပိုင်း မြေလတ်ဒေသ၌ ဓနုနှင့်တောင်ရိုးတိုင်းရင်းသားတို့နှင့်ဆက်စပ်ကြည့်ပါက ရှေးဟောင်းမြန်မာတို့သည် မြောက်ဖက်ကချင်ပြည်နယ်အရှေ့ပိုင်းနှင့်ယူနန်နယ်အနောက်ပိုင်းမှ တောင်ဘက်ရှမ်းပြည်မြောက်ပိုင်း၊ ယင်းမှတဆင့် ရှမ်းပြည်တောင်ပိုင်းမြေလတ်ဒေသသို့ တဆင့်ပြီးတဆင့် ရွှေ့ပြောင်းခဲ့ကြောင်း ခန့်မှန်းသိရှိနိုင်ပေသည်။

ဤမြေလတ်ဒေသမှတဆင့် မြန်မာနိုင်ငံအလယ်ပိုင်း မြေပြန့်သို့ပြောင်းရွှေ့လာခဲ့ခြင်း ဖြစ်သည်ဟု နားလည်နိုင်ပေသည်။

## အဘယ့်ကြောင့် ချင်းတွင်းနှင့်ဧရာဝတီမြစ်နှစ်သွယ်ကြားသို့ မဆင်းခဲ့သနည်း

ယခု ကချင်ပြည်နယ်တွင်းရောက်နေခဲ့သော ရှေးဦးမြန်မာတို့သည် ထိုပြည်နယ်အတွင်း အဘယ့်ကြောင့် ဧရာဝတီမြစ်ကိုဖြတ်ကူး၍ မြေပြန့်သို့ မဆင်းခဲ့သနည်းဟု မေးရန်ရှိပါသည်။

အမှန်စင်စစ် သူတို့သည် ဧရာဝတီမြစ်ကို ဖြတ်ကူးကာ တောင်ဘက်သို့ ရွှေ့ပြောင်းရန် ကြိုးစားခဲ့ကြဟန် တူ၏။ သို့သော် ထိုစဉ်က ဧရာဝတီမြစ်နှင့်ချင်းတွင်းမြစ် စပ်ကြားဒေသတွင် သက်တို့ကြီးစိုးသော တကောင်းနိုင်ငံရှိနေခဲ့၍ ရှေးဦးမြန်မာများ ဤဘက်မှ မြေပြန့်ဆီသို့ မထိုးဖောက်နိုင်ဘဲ ရှေးဦးဆုံးရွှေ့လာခဲ့သူတို့သည် ဧရာဝတီမြစ်ကျဉ်းတွင် ဖွန်းများအဖြစ်ဖြင့် ရပ်တန့်ခဲ့ကြရခြင်း ဖြစ်သည်။

တောတောင်ရေမြေ အခြေအနေကလည်း ခက်ခဲလှသည်။ သို့ဖြစ်၍ တပိန်၊ ရွှေလီမြစ်ကြောင်းများ၊ ယင်းတို့မှတဆင့် ဧရာဝတီမြစ်ကြောင်းလမ်းကို မလိုက်ခဲ့ကြခြင်းဖြစ်သည်ဟု ဆိုရပါမည်။

## ရှမ်းပြည်သို့

သက်တို့ ကြီးစိုးသော တကောင်းနိုင်ငံကို အရှေ့ဘက်မှ ပန်း၍ မြစ်ငယ်မြစ်ကြောင်းကိုလိုက်ကာ ရှမ်းပြည်မြောက်ပိုင်းတွင် စတည်းချခဲ့ကြ၏။ ယင်းမှတဆင့် ရှမ်းပြည်တောင်ပိုင်း ရပ်စောက်နှင့်မြေလတ်ဒေသသို့တဆင့် ပြောင်းရွှေ့ခဲ့ကြခြင်း ဖြစ်ပေသည်။

## အဘယ့်ကြောင့် စစ်တောင်းမြစ်ဝှမ်းသို့ အဆင်းခဲ့သနည်း

အဘယ့်ကြောင့် တောင်ဘက်သို့ဆက်ဆင်းကာ စစ်တောင်းမြစ်ဝှမ်းအတွင်းသို့ မဆင်းကြသနည်းဟု တနည်းတွေးရန် ရှိသေး၏။ ယင်းသို့တောင်ဘက်သို့ မဆက်နိုင်ခြင်းမှာ ထိုစဉ်က မြေလတ်ဒေသတောင်ဘက်တွင် ကရင်တိုင်းရင်းသားတို့ အင်နှင့်အားနှင့် ရောက်ရှိနေပြီဖြစ်သောကြောင့် ဖြစ်သည်။

ဤခရီးလမ်းတွင် ပထဝီမျက်နှာပြင် အခြေအနေမှာလည်း ခက်ခဲလှ၏။ ကရင်တိုင်းရင်းသားတို့သည် ယခု မိုးဖြိုနယ်၊ ကယားပြည်နယ်နှင့်ကရင်ပြည်နယ်မြောက်ပိုင်းတို့တွင် ခြေကုပ်ယူမိကြပြီး ဖြစ်ရုံသာမက အနောက်ဖက်စစ်တောင်းမြစ်ဝှမ်းအတွင်းသို့ အခွင့်သာလျှင် သာသလို သက်ဆင်းရောက်ရှိနေခဲ့ပြီးဖြစ်သည်ကို အထက်တွင် ဆိုခဲ့ပြီး ဖြစ်ပါသည်။

## အလွယ်ဆုံးနှင့်အဟန့်အတား အနည်းဆုံးလမ်း

ဤကဲ့သို့သော အခြေအနေတွင် ရှေးဟောင်းမြန်မာတို့အတွက် ခရီးလမ်းလည်း လွယ်ကူ၊ အဟန့်အတားလည်း နည်းပါးသော မြေလတ်ဒေသမြောက်ပိုင်းနှင့်မြေပြန့်ဆက်ရာ ကျောက်ဆည်ခရိုင်လောက်ဆီမှ မြေပြန့်သို့ ဝင်ရန်သာ ရှိတော့သည်။

## ရပ်စောက်နှင့်ပင်းတယဆီမှ မြေပြန့်ဆီသို့

ဘာသာဗေဒအရ အသံကွဲ မြန်မာစကားပြောသူတောင်ပေါ်သားဓနုနှင့်တောင်ရိုးတို့နေထိုင်ရာဒေသနှင့်ပါ ဆက်စပ်၍ စဉ်းစားလျှင် အထက်တွင်ဆိုခဲ့သော မြေလတ်ဒေသမြောက်ပိုင်း ရပ်စောက်နှင့်ပင်းတယဆီမှ မြေပြန့်သို့ဆင်းခဲ့ကြသည်ဟူသောအဆိုကို ပိုမိုလွယ်ကူစွာ ထင်မြင်နိုင်ကြမည် ဖြစ်ပေသည်။

## စိတ်ကူးနှင့်အတွေးမျှသာလော

အထက်တွင် ဆိုခဲ့သည်တို့မှာ မြန်မာအစုဝင် စကားပြောသူတို့ ယနေ့ပြန့်နှံ့နေပုံကို ဘာသာဗေဒနှိုင်းယှဉ်ချက်ပေါ်တွင် အခြေတည်၍ ကောက်နုတ်ချက်ချထားခြင်းဖြစ်ပါသည်။ အခြားသမိုင်း အထောက်အထားများ မရှိပါသလော။

ရှေးဟောင်းမြန်မာတို့သည် ယူနန်နယ်အနောက်ပိုင်းနှင့်ရှမ်းပြည်မြောက်ပိုင်းတို့တွင် အခြေစိုက်နေခဲ့ကြသည်ဟုဆိုသော အဆိုကို ထောက်ခံ

နိုင်မည့် ခိုင်လုံသော အကိုးအကားများ ရှိပါသလော။ ရှိလျှင် ထိုစဉ်ကဟုဆိုခဲ့သော ၈-ရာစု ၉-ရာစုနှစ်များအတွင်းက ဤဒေသများတွင် နေခဲ့ကြသော ရှေးဟောင်းမြန်မာတို့အကြောင်းကို သိနိုင်ပါမည်လော စသည့် အမေးတို့ကို စဉ်းစားမိကြပေမည်။

ဤအမေးတို့ကို မဖြေနိုင်ပါက အထက်တွင်ဆိုခဲ့သော ရှေးဟောင်းမြန်မာတို့ မြန်မာနိုင်ငံအလယ်ပိုင်းသို့ ဆင်းသက်ရွှေ့ပြောင်းလာပုံအစဉ်မှာ စိတ်ကူးမျှသာ အတွေးမျှသာ ဖြစ်ချိမ့်မည်။ အထောက်အထားမရှိလျှင် နိုင်ငံသမိုင်းမရှိနိုင်ဟု ဆိုထားသည့်အတိုင်း ဤတွေးတောယူဆချက်တို့ကို နိုင်ငံသမိုင်းဖြစ်ရပ်များဟု ဆိုရန် လွယ်ကူမည် မဟုတ်ပေ။

## ခေတ်ပြိုင်တရုတ်စာပေ အထောက်အထားများ

၈-ရာစု နှင့် ၉-ရာစုအေဒီနှစ်များအတွင်းက ယူနန်နယ်အနောက်ပိုင်းနှင့်ရှမ်းပြည်မြောက်ပိုင်းတွင် အခြေစိုက်နေထိုင်ခဲ့ကြသော ရှေးဟောင်းမြန်မာများအကြောင်းကို ခေတ်ပြိုင်ရေးသားခဲ့သော တရုတ်ရာဇဝင်ကျမ်းများနှင့်ဒေသဆိုင်ရာ မှတ်တမ်းတို့မှ အခိုင်အလုံ သိရသည်။ နေထိုင်ရာဒေသ၊ လုပ်ကိုင်စားသောက်မှု၊ ဝတ်စားဆင်ယင်ပုံ၊ အရည်အချင်းမှစ၍ အုပ်စုလိုက်ခွဲခြားဖော်ပြထားသည်ကိုပင် သိရသည်။

## ရှေးဟောင်းမြန်မာသမိုင်းသည် နန်စောသမိုင်း၏တစိတ်တဒေသ

ထိုရှေးမြန်မာအုပ်စုတို့သည် နန်စောစစ်များတွင် အရေးပါသောရာမှ ပါဝင်ထမ်းရွက်ခဲ့ကြရ၍ နန်စောနိုင်ငံတန်ခိုးအင်အားကြီးမားရေးအတွက် ပါဝင်ဆောင်ရွက်ခဲ့သူများ၊ နန်စောသမိုင်းတည်ဆောက်ရာတွင် ပါဝင်ခဲ့သူများဖြစ်ကြောင်း သိရ၏။

နန်စောတို့ ပျူမြို့တော်ကို တိုက်ကြရာတွင် သုဝဏ္ဏဘူမိဒေသကို တိုက်ကြရာတွင် ဟန္တိုင်ကို တိုက်ကြရာတွင် တိဗက်များ တရုတ်တပ်များကို တိုက်ကြရာတွင် သူတို့ပါဝင်ခဲ့ကြသည်။ တနည်းဆိုသော် နန်စောသမိုင်း၏တစိတ်တဒေသသည် ထိုရှေးဟောင်းမြန်မာတို့၏သမိုင်းပင် ဖြစ်သည်ဟု ဆိုရချိမ့်မည်။

ထိုရှေးဟောင်းတရုတ်ရာဇဝင်ကျမ်းများ၊ ဒေသဆိုင်ရာမှတ်တမ်းများနှင့်တကွ ယင်းတို့မှ သိရသော နန်စောနိုင်ငံတွင်း ယူနန်အနောက်ပိုင်းနှင့်ရှမ်းမြောက်ပိုင်းတို့တွင် ၈-ရာစုနှင့်၉-ရာစုအေဒီနှစ်များအတွင်းက နေထိုင်ခဲ့ကြသော ရှေးဟောင်းမြန်မာလူ့အဖွဲ့အစည်းတို့၏လူမှုရေး၊ စီးပွားရေးနှင့်စစ်ရေးသမိုင်းကို အောက်တွင် ဆက်လက်ဖတ်ရှုနိုင်ကြပါသည်။

ယင်းသို့ဖော်ပြရာ၌ ပိုမိုလွယ်ကူစွာ နားလည်သဘောပေါက်နိုင်ရန် နန်စောနိုင်ငံအကြောင်းနှင့်သမိုင်းစဉ်အကျဉ်းကို ဖော်ပြရန် လိုမည်ထင်ပါသည်။

## ထန်[၁]တရုတ် မလွှမ်းမိုးနိုင်သောဒေသ

တရုတ်ပြည်ကို အေဒီ ၆၁၈ မှ ၉၀၇-ထိ အုပ်စိုးခဲ့သော ထန်မင်းဆက်သည် တရုတ်တို့၏သမိုင်းတွင် ခေတ်ကောင်းကြီးတခုဖြစ်၏။ နိုင်ငံတွင် စီးပွားရေး၊ ယဉ်ကျေးမှု၊ စာပေ၊ အနုပညာ တိုးတက်သည်။ အာရှအနောက်နိုင်ငံများနှင့်ကူးသန်းရောင်းဝယ်မှု တိုးတက်တည်တန့်စေရန် အာရှအလယ်ပိုင်းသို့ နယ်ချဲ့၍ ကုန်သွယ်လမ်းများကို ထိန်းသိမ်းခဲ့သည်။

ဤသို့ဖြင့် ထန်အင်ပါယာသည် အနောက်ဖက် အာရှအလယ်ပိုင်းတွင် များစွာကျယ်ပြန့်ခဲ့သည်။ သို့ပင်ဖြစ်လင့်ကစား ယန်စီမြစ်၏တောင်ဘက်ယခုခေတ် ယူနန်၊ လွေချို၊ လွမ်စီ၊ ကွမ်တုန်စသည့်ဒေသများကို လက်အောက်ခံနိုင်ငံများဟု သဘောထားရုံသာ ထားနိုင်သည်။ စစ်ရေး နိုင်ငံရေးတို့ဖြင့် တိုက်ရိုက်လွှမ်းမိုးနိုင်ခြင်း မရှိခဲ့ပေ။

## တိဗက်မြန်မာ အနွယ်များ၏ဒေသ

ထိုစဉ်က တရုတ်ပြည် ယန်စီမြစ်တောင်ပိုင်းနေ လူများစုမှာ တရုတ်များ မဟုတ်ကြချေ။ တိဗက်မြန်မာ အနွယ်ဝင်ဘာသာစကား ပြောသူများနှင့် ရှမ်းအစုဝင် ဘာသာစကားပြောသူများမှာ ထိုဒေသတို့၏လူများစု တိုင်းရင်းသားများဖြစ်ကြ၏။

---

1. T'ang

ထိုဒေသတို့တွင် ထန်တရုတ်တို့၏လက်အောက်ခံ မဟုတ်သောတိုင်းရင်းသားတို့၏နိုင်ငံများ ပေါ်ပေါက်ခဲ့သည်။ ယင်းနိုင်ငံတို့အနက် အားဟိုင် (အားပင်လယ်)[၁] ပတ်ဝန်းကျင်တွင် ပေါ်ပေါက်ခဲ့သော နိုင်ငံငယ် ၆-နိုင်ငံတို့သည် ထင်ရှား၏။ ယင်းနိုင်ငံငယ်တို့၌ နေထိုင်သူတို့တွင် မောစောများ[၂]၊ ရှေးဟောင်းမြန်မာများ၊ လောလောများ[၃] စသော တိဗက်မြန်မာအနွယ်ဝင်များနှင့်ရှမ်းအစုဝင်များ ပါဝင်ကြသည်။

## နန်စောနိုင်ငံ

ယင်း ၆-နိုင်ငံအနက် တောင်ဘက်စွန်ကျသော မုင်ရှေစော[၄]သည် အင်အားအကောင်းဆုံးဖြစ်သည်။ အေဒီ ၇၃၉တွင် မုင်ရှေစောနိုင်ငံသည် ကျန်နိုင်ငံငယ် ၅-ခုကို သိမ်းသွင်း၍ အင်အားတောင့်တင်းသော ပြည်ထောင်စုကို တည်ထောင်သည်။ မြို့တော်ကို အားဟိုင်အနောက်ကမ်း ယခု တာလီဖူမြို့တောင်ဘက်အနီးတွင် တည်ဆောက်ခဲ့သည်။ တောင်ဘက် အကျဆုံးစော (မင်း)က ဦးစီးတည်ထောင်၍ တရုတ်တို့က နန်စောနိုင်ငံ* ဟု ခေါ်ဝေါ်ရေးသားခဲ့ခြင်းဖြစ်သည်။

နန်စောပြည်ထောင်စုကို တည်ထောင်သော နန်စောဧကရာဇ် ရှဲင့်လော်ဖီ[၅]၏နောက် ဆက်စံသော မင်းတပါးဖြစ်သည့်ကော်လော်ဖွဲင့်[၆]လက်ထက်တွင် နန်စော၏အင်အား လွန်စွာတိုးတက်ခဲ့သည်။ ထန်တရုတ်နိုင်ငံ၏လေးစားခြင်းကိုပင် ခံရသည် ထိုစဉ်က တရုတ်ပြည်အနောက်ဖက်ရှိ တိဗက်နိုင်ငံမှာလည်း အင်အားကြီးနိုင်ငံတခု ဖြစ်ခဲ့သည်။ အာရှအလယ်ပိုင်းကို ကြီး

1. Erh Hai
2. Mo-so(မိုးဆိုးဟု သိကြသည်။)
3. Lo-lo(လိုလိုဟု သိကြသည်။)
4. Meng-she Chao

* ရှေးက နန်စောကို ရှမ်းနိုင်ငံဟု သတ်မှတ်ခဲ့ကြ၏။ နောက်ထပ် သုတေသန ပြုခဲ့သော ပညာရှင်တို့က ရှမ်းများပင် ရှိခဲ့သည်မှန်သော်လည်း ရှမ်းနိုင်ငံဟု ခေါ်ရလောက်အောင် မများခဲ့ဟု ယူဆကြသည်။

5. Sheng-lo-pi 6. Ko-lo-feng

စိုးနိုင်ရေးအတွက် တိဗက်နှင့်ထန်တရုတ်တို့သည် အပြန်အလှန် စစ်ဆင်နွှဲနေကြဆဲဖြစ်သည်။

ယခု အင်အားကြီးနိုင်ငံတခု ပေါ်လာသဖြင့် တိဗက်နှင့်တရုတ်တို့သည် နန်စောနိုင်ငံဖြစ်သော ထိုအင်အားကြီးနိုင်ငံနှင့်ပူးပေါင်း၍ အချင်းချင်းတိုက်ခိုက်ရန် အခြေအနေများဖြစ်ပေါ်ခဲ့သည်။ နန်စောကလည်း မိမိ၏အကျိုးကို ကြည့်၍ တခါတရံ တိဗက်နှင့်ပေါင်းပြီး ထန်တရုတ်ကို တိုက်သည်။ တခါတရံ ထန်တရုတ်နှင့်ပေါင်း၍ တိဗက်ကို ဝင်တိုက်သည်။

ဤသို့ဖြင့် ဤပဒေသရာဇ် ၃-နိုင်ငံ၏ ၃-ပွင့်ဆိုင်စစ်သည် ဖြစ်ပေါ်ခဲ့သည်။ ဤစစ်များကို အကြောင်းပြု၍ နန်စောသည် စွဲကျိုနှင့်ဌေ့ထုင်မြို့ကို သိမ်းပိုက်ခဲ့သည်။ အနောက်ဖက်တွင် ယခုပေါင်ရှန်မှ မေခမြစ်အထိ ယင်းမှတဆင့် မြန်မာနိုင်ငံမြောက်စွန် ရေခဲတောင်ကြီးများအထိ ခံမြို့ကို ဆောက်နိုင်ခဲ့၏။ ပျူနိုင်ငံနှင့်လည်း အဆက်အသွယ်ရခဲ့၏။

## ရှေးဟောင်း မြန်မာစစ်သည်များ

ဤစစ်တို့တွင် ရှေးဟောင်းမြန်မာတပ်များ ပါဝင်ဆင်နွှဲခဲ့၏။ အထက်တွင် ဆိုခဲ့သော ရှင့်လော်ဖီမင်းလက်ထက်မှစ၍ ရှေးဟောင်းမြန်မာတို့သည် နန်စောပြည်ထောင်စု၏မုင်ရှေစောနိုင်ငံငယ်တွင် ပါဝင်ခဲ့ကြသည်။

ထိုရှေးဟောင်းမြန်မာတို့မှာ မည်သူတို့နည်း။ သူတို့၏အကြောင်းကို ခေတ်ပြိုင်ရေးခဲ့သော မန်ရှုကျမ်း၊ ထန်ရာဇဝင်ကျမ်းဟောင်း၂နှင့်ထန်ရာဇဝင်ကျမ်းသစ်၃တို့တွင် တွေ့ရှိနိုင်ပေသည်။ (အသေးစိတ်အညွှန်းများကိုကား မဆိုတော့ပြီ။)

ထိုရှေးဟောင်း မြန်မာလူမျိုးစုတို့ကို ထန်ခေတ်ရာဇဝင်ဆရာများနှင့် အခြားသူတို့သည် ထိုလူမျိုးစုတို့က မိမိတို့၏အကြီးအကဲများကို ခေါ်သောဘွဲ့အမည်ဖြင့် သိခဲ့ကြသည်။ ရေးမှတ်ခေါ်ဝေါ်ကြသည်။ အကြီးအကဲကိုခေါ်သည့် အခေါ်အဝေါ်ဖြင့် လူမျိုးစု၏ အမည်ကို မှတ်သားတတ်သည့် အလေ့

1. Man Shu 'Book of the Southern Barbarians' translated by Gordon 11, Luce 1961.

2. Chiu-t'ang-Shu 3.Hsin-t'ang-Shu

ကြောင့်ပင်ဖြစ်သည်။

မန်ရှူကျမ်းက ယခုသိန္နီနယ်တွင် မာင်းစော[၁]နှင့်စသော အမည်ရှိသည့် လူမျိုးစုများ၊ ယခုပေါင်ရှန်၏အနောက်မြောက်ဖက်တွင် ဝေါင်ဝိုက်ယူ[၂]လူမျိုးစု၊ ပေါင်ရှန်၏အနောက်ဖက်တွင် ဖူ[၃]များ၊ မဲပေါင်မြစ်အနောက်ဖက်တွင် ဝါင့်ကျူ[၄]များ အသီးသီးရှိသည်ဟု ဖော်ပြထား၏။

ဤအမည်တို့တွင် 'စော'နှင့်'ကျူ'တို့သည်လည်းကောင်း၊ 'မာင်း''ဝေါင်' 'ဝါင့်'တို့သည်လည်းကောင်း အခြေခံအသံတူသော စကားလုံးများ ဖြစ်ကြသည်။ ဤ မာင်း၊ ဝေါင်၊ ဝါင့်တို့မှာ ယခုခေတ်သုံး မြန်မာဝေါဟာရ မင်း(အုပ်စိုးသူ၊ ကြီးသူ)၏ရှေးဦး ဝေါဟာရများ ဖြစ်နိုင်ပေသည်။

အလားတူပင် 'စော'နှင့်'ကျူ'တို့မှာလည်း ခေတ်သုံးမြန်မာဝေါဟာရ 'စော'သို့မဟုတ်'စိုး'နှင့်ထပ်တူ ဖြစ်နိုင်သည်။ သို့ဖြစ်၍ ဤလူမျိုးစုတို့သည် မိမိတို့၏အကြီးအကဲများကို မင်းစော၊ မင်းစိုးဟူသော အမိပ္ပါယ်နှင့်ခေါ်ဝေါ်ခဲ့ကြသည်ဟု နားလည်နိုင်ပေသည်။ ဤသည်ကို ထောက်၍ ယင်းလူမျိုးစုတို့ကို ရှေးဟောင်းမြန်မာများဟု ဆိုခြင်းဖြစ်သည်။*

## အရည်အသွေးနှင့်ဓလေ့ထုံးစံများ

လူမျိုးစုတို့၏ဓလေ့ထုံးစံ၊ ဝတ်စားဆင်ယင်ပုံ၊ အရည်အသွေးတို့နှင့် စပ်လျဉ်း၍ အဆိုပါ မန်ရှူကျမ်း၌ ဖော်ပြထားချက်တို့မှာ စိတ်ဝင်စားဘွယ်ကောင်းလှပေသည်။

## မင်းစော အစုများ

ရှေးဟောင်းမြန်မာများဟု ဖော်ပြခဲ့သော မာင်း သို့မဟုတ် မာင်းစော လူမျိုးစုတို့၏အကြောင်းကို ဆိုရာ၌ ဤအမည်နှင့်ဆင်တူယိုးမှားအမည်များရှိ

1. Mang-Chao 2. Wang-wai-yu 3. P'u 4. Wang-Chu

* သို့သော် 'ဖူ'နှင့်'ဝေါင်ဝိုက်ယူ'တို့၏အမည်ကိုမူ အလားတူ ဆက်စပ်ယူရန် မလွယ်ကူပေ။ သို့သော် သူတို့က သူတို့၏အကြီးအကဲနှင့်ဆက်သွယ် ပြောဆိုသောအခါတွင် 'စိုး'အသံထွက်နှင့်တူသော စကားကို သုံးကြောင်း ထိုကျမ်းမှပင် သိရ၏။

သော အခြားလူမျိုးစုအများရှိကြောင်း၊ သူတို့သည် ခြေတံရှည်အိမ်များနှင့်နေကြောင်း၊ အနီရောင်ပိုးစဖြင့် ဦးခေါင်းကို ရစ်ပတ်တန်ဆာဆင်ကာ ခေါင်းပေါင်းစကို နောက်တွင်ချကြောင်း၊ အမျိုးသမီးတို့သည် အရောင် ၅-မျိုးပါသော လဲပိုးထည်ကို ဝတ်ကြောင်း၊ ယင်းအဝတ်ကို ခေါင်းပေါ်ထိ ခြုံနိုင်ကြောင်း၊ သူတို့သည် အိမ်အနီးသစ်ပင်များပေါ်တွင် ဒေါင်းများကို မွေးမြူထားကြောင်း စသည်ဖြင့် ဖေါ်ပြထား၏။

ပိုးခေါင်းပေါင်းနီကို အစနောက်ချ၍ပေါင်းခြင်း၊ ခြေတံရှည်အိမ်များပေါ်တွင် နေခြင်း၊ မြန်မာတို့အလေးအမြတ်ထားသောအလံတွင် ဒေါင်းရုပ်ပါခြင်းတို့မှာ ဤရှေးပျောင်းလူတို့၏အစဉ်အလာ အဆက်ပင်လောဟု တွေးထင်ဘွယ်ရာရှိ၏။ မာင်းလူမျိုးစုအားလုံးပင် ဘောင်းဘီပြာဝတ်၍ ကြိမ်ခွေ၊ ဝါးနှီးများဖြင့် ခါးကို ပတ်ထားကြသည်ဟုလည်းဆို၏။ ကုန်းမြင့်သားများဖြစ်ကြောင်း ထင်ရှားပေသည်။

## နန်စောတပ် တပ်ဦးမှ ပါရသူများ

ဝါင့်ကျူတို့သည် တိုက်ခိုက်ရေးတွင် ဝါသနာထုံသူများဖြစ်သည်။ ပေါ့ပါးလျင်မြန် ဖျတ်လတ်သည်။ မြင်းစီးစဉ် လှံကို ကျင်လည်စွာ သုံးတတ်သည်။ စီးရာတွင် ကုန်းနှီးမပါ။ အပြင်းတိုက်ရန် ဒုံးစီးသောအခါများတွင် ပျံနေသည်ဟုထင်ရသည်။ သူတို့၏အမျိုးသမီးပျိုတို့သည်လည်း မြင်းရေးတွင် အလားတူစွမ်းရည်ရှိသူများဖြစ်၏။ နန်စောမင်းမြို့နှင့်တပ်မြို့အသီးသီးမှ စစ်သူကြီးများ တပ်ထွက်ကြသောအခါ ဝါင့်ကျူတို့သည် တပ်ဦးမှ ပါရသည်။*

ဤတွင်လည်း မြင်းစိုင်း၊ မြင်းခုံတိုင်၊ မြင်းခင်းသဘင်၊ မြင်းကြန်ကျမ်းမှ စ၍ မြို့မည်များ၊ ရှေးမြန်မာတို့၏မြင်းရေးကျွမ်းကျင်မှု စသည်တို့နှင့်ဆက်စပ်သတိရမိကြပေလိမ့်မည်။

## သူမခံနိုင်သော စစ်သည်များ

တဖန် ဝေါင်ဝိုက်ယူတို့အကြောင်းကို ကြည့်ကြပါဦးစို့။ သူတို့သည် လှံရှည်၊ ကာရှည်ကြီးများကို ကိုင်ဆောင်သည်။ သူတို့ ချီတက်လာပြီဆိုလျှင်

* Man Shu မျက်နှာ ၄၁

မည်သူမှ မခုခံနိုင်။ မြားတို့နှင့်သစ်သားလေး(ဒူးလေးလော)ကိုလည်း သုံးသည်။ မြားသွားကို အဆိပ်လူးထားသဖြင့် မြားချက်ထိသူ ရုတ်ချင်းသေသည်။

အမျိုးသမီးတို့၏အဝတ်အထည်မှာ အပြာရောင်ဖြစ်သည်။ စပါးကြီး မြွေသွားများ၊ ခရုခွံများ၊ ပုလဲစစ်များနှင့်ကုံးထားသော ပုတီးများကို ကိုယ်တွင် နည်းအမျိုးမျိုး ပုံစံအမျိုးမျိုးဖြင့် သိုင်းကြသည်။ ဆွဲထားကြသည်။ အိမ်ထောင် မရှိသေးသူသည် ထိပ်တွင် ဆံထုံးတထုံးသာ ထုံး၍ အိမ်ထောင်ရှိသူသည် ချို စောင်းနေရာတွင် တထုံးစီခွဲ၍ နှစ်ထုံး ထုံးသည်။ *

ဗလကောင်းသူများ

ဖူတို့သည် အရပ်အမောင်း ကောင်းသည်။ ခွန်အားကြီးသည်။ ပြင်း ထန်၍ကြောက်မက်ဖွယ် ကောင်းသည်။ ရဲရင့်သည်။ ဝါးချွန်အပစ် အလွန် ကျင်လည်သည်။ တောနက်အတွင်း လင်းနို့ကိုပင် ထိအောင်ပစ်နိုင်သည်။ အ လွန်လက်ဖြောင့်၍ လွဲသည်မရှိ။ သူတို့သည် ငှက်ပျောရွက်တွင် အစာပုံ၍စား သည်။ ခွက်ယောက်မရှိ။ မြောက်ဖက်အကျဆုံး လူစုဖြစ်သည်။

အုံ့ဘွယ်ဇွဲနှင့်သတ္တိရှိပုံ

ဇွဲ၊ သတ္တိနှင့်သစ္စာရှိမှုတို့တွင် အံ့ဘွယ်သရဲရှိလှသည်။ တရုတ်တို့နှင့် ဖြစ်ရသော စစ်ပွဲတခုတွင် ဖူစစ်သည်အချို့ကို တရုတ်တို့က မိသွားရာ အမျိုး မျိုးနှိပ်စက်ညှဉ်းပန်း၍ စစ်ဆေးသည်။ စကားတခွန်းမျှ မဟချေ။ လက်ကောက် ဝတ်မှ လက်ကိုဖြတ်ပစ်၍ စစ်မေးပြန်သည်။ မပြော။ အော်ဟစ်ခြင်းပင် မပြု ကြ။**

မြန်မာနိုင်ငံမြေပြန့်သို့ မရောက်မီက ရှေးဟောင်းမြန်မာများ

မာင်းစောနှင့်မင်းစောအမည် ဆင်တူယိုးမှားရှိသော ရှေးဟောင်းမြန် မာတို့သည် အေဒီ ၇-ရာစုနှစ်များလောက်တွင် ယူနန်အနောက်ပိုင်းနှင့်သိန္နီ မြောက်ပိုင်းဒေသသို့ ရောက်ရှိနေထိုင်ခဲ့ပြီးဖြစ်သည်။ အဦး ရွှေ့ပြောင်းသူတို့

*ယင်း - မျက်နှာ ၄၂

** Man Shu မျက်နှာ ၃၉

မြန်မာနိုင်ငံမြေပြန့် ပျူနိုင်ငံတွင်းသို့ပင် ရောက်နှင့်ပြီးဟု ယူဆနိုင်၏။

နန်စောပြည်ထောင်စုနိုင်ငံ တည်ထောင်လာသောအခါ ထိုရှေးဟောင်းမြန်မာလူမျိုးစုတို့သည် အခြားတိဗက်မြန်မာစကားပြောသူတို့နှင့်တကွ ပူးပေါင်းပါဝင်ခဲ့ကြသည်။ တိဗက်၊ တရုတ်၊ နန်စော(၃)ပွင့်ဆိုင် ပဒေသရာဇ်စစ်တို့တွင် မြင်းသည်ကျော်၊ စစ်သည်ကျော်အဖြစ် ပါဝင်ဆင်နွှဲခဲ့ကြသည်။ အောင်ပွဲများကိုလည်း ရခဲ့ကြသည်။ ပဒေသရာဇ်နန်စောနိုင်ငံသမိုင်းကို ဖန်တီးခဲ့ရာတွင် သူတို့ပါဝင်ခဲ့ကြသည်။

## ပဒေသရာဇ် လူမှုစီးပွားရေး

စစ်သည်များအပြင် တောင်ယာ လယ်ယာ စိုက်ပျိုးလုပ်ကိုင်သူများလည်း ရှိခဲ့သည်။ တူးမြောင်းများ ဖောက်၍ လယ်ယာစိုက်ပျိုးသည့်အတတ်ကိုလည်း တတ်သိကြသူများဖြစ်၏။ လူမျိုးစုံ အဖွဲ့အစည်းများကို အကြီးအကဲ(မင်း)တို့က အုပ်ချုပ်သည်။

အခြေခံ ပဒေသရာဇ်အုပ်ချုပ်ရေးကိုလည်း တတ်ကြသူများ ဖြစ်ကြ၏။ သူတို့၏ထူးခြားသော စွမ်းရည်မှာ မြင်းစီးကျင်လည်၍ လျင်မြန်စွာ ရွှေ့ပြောင်းလှုပ်ရှားကာ စစ်တိုက်နိုင်သည့် အရည်အချင်းပင် ဖြစ်သည်။

## ကုန်ထုတ်လုပ်ငန်းများ

နန်စောပြည်ထောင်စုတွင် ပါဝင်လင့်ကစား မိမိတို့လူမျိုးစုအလိုက် ကိုယ့်မင်းနှင့်ကိုယ် သီးခြားဖွဲ့စည်းနေခဲ့သည့် ပဒေသရာဇ်စနစ်တွင် နေခဲ့ကြသူများ ဖြစ်၏။ သို့သော် နန်စော၏သြဇာခံ လူ့အဖွဲ့အစည်းဖြစ်သည်။

နန်စောတပ်တွင် စစ်မှုမထမ်းလိုသူတို့သည် နန်စောနိုင်ငံ၏ကုန်ထုတ်လုပ်ငန်းတို့ကို ဆောင်ရွက်ပေးကြရ၏။ မိမိတို့ဝမ်းစာအပြင် မင်းတိုင်းကြေးပေးရန် စိုက်ပျိုးလုပ်ကိုင်ကြသည့် သီးနှံစိုက်ပျိုးရေးလုပ်ငန်းအပြင် ဧရာဝတီအထက်ပိုင်းတွင် ရွှေကျင်ခြင်း၊ မလိခမြစ်အနောက်ဖက် တောင်များပေါ်တွင် ရွှေတွင်းတူးခြင်း၊ ပေါင်ရှန်အနောက်ဖက် (၁၀)စခန်းအကွာ ယခု မြန်မာနိုင်ငံမြောက်ပိုင်းတွင် နယ်စပ်ကြားတွင် ဆားချက်ခြင်းစသည့် ကုန်ထုတ်လုပ်ငန်း

တို့ကို ဆောင်ရွက်ကြ၏။

## တိရစ္ဆာန်မွေးမြူမှု

ရှေးမြန်မာတို့၏ထူးခြားသော အသက်မွေးမှုလုပ်ငန်းတရပ်မှာ မြင်းများကို မွေးမြူလေ့ကျင့်ခြင်းပင် ဖြစ်၏။ ဦးချိုရှည်နွားတမျိုး၊ ထွန်ယက်ရန်ဆင်ပုများ၊ အမွေးရှည်'ယက်'ခေါ် နွားတမျိုးနှင့်ဒေါင်းတို့ကို မွေးကြ၏။

## ကုန်သွယ်မှု

အနောက်ဖက်သို့ နန်စောတို့ နယ်ချဲ့ခဲ့သဖြင့် အနောက်နှင့်ကုန်သွယ်လမ်းလည်း ပွင့်ခဲ့သည်။ တိုင်းရင်းသားတို့သည် အချင်းချင်း လူသုံးကုန်ပစ္စည်းများကို ရောင်းဝယ်ကြသောအခါ အလေးချိန်သတ်မှတ်ထားသော ဆားခဲများကို အသပြာအဖြစ် သုံးကြသည်။

## ကျွန်များနှင့်ပဒေသရာဇ်စီးပွားရေး

သူတို့၏လူနေမှုစနစ်မှာ ပဒေသရာဇ်စီးပွားရေးစနစ်ပေါ်တွင် တည်နေရကား သူတို့၏ကုန်ထုတ်စွမ်းအား အများစုကို ပဒေသရာဇ်တို့အဖို့ အသုံးပြုခဲ့ရသည်။ စစ်နိုင်၍ ဖမ်းဆီးရမိခဲ့သော သုံ့ပန်းတို့ကို 'ကျွန်'အဖြစ်ထား၍ ဧရာဝတီမြစ်ဖျား ခွေးတော ငှက်တောသို့ပို့ကာ ရွှေကျင်စေသည်။ အလုပ်ကြမ်းလုပ်စေသည်။

သူတို့ ထုတ်လုပ်သော ပစ္စည်းတို့၏ ၇၀ သို့မဟုတ် ၈၀ ရာနှုန်းကို ပဒေသရာဇ်တို့က ယူသည်။ သီးနှံစိုက်ပျိုးသူတို့အဖို့မှာလည်း ဝမ်းစာလောက်ကိုသာချန်၍ အားလုံးကို ပဒေသရာဇ်တို့အား အခွန်အဖြစ် ဆက်သရသည်။ စစ်မှုထမ်းသူတို့သာ ဤမင်းတိုင်းကြေးမှ လွတ်ကြသည်။

## သီးနှံစိုက်ပျိုးရေး

စိုက်ပျိုးသောသီးနှံတို့တွင် စပါး၊ နှံစပါးပြောင်း၊ ပြောင်းငချိတ်၊ ပဲအမျိုးမျိုး၊ မုယော၊ ဂျုံတို့ဖြစ်သည်။ ယင်းတို့ကို နန်စောနိုင်ငံမြေပြန့်ဒေသ၌ စိုက်သည်။ ရှေးဟောင်းမြန်မာအများစုမှာ ကုန်းမြင့်သားများဖြစ်၍ မိမိတို့ဒေသနှင့်ကိုက်ညီမည့်သီးနှံပင်တို့ကိုသာ စိုက်ခဲ့ကြပေမည်။

သူတို့သည် နန်စောအရှေ့ပိုင်းလူများ၊ မြို့တော်နေလူများလောက် တိုးတက်ခဲ့ခြင်း မရှိသေးပေ။ မြေပြန့်ရှိ သူတို့လောက်သာ ရေသွင်း၍ စပါးစိုက်ပျိုးခြင်းကိုပြုကြပြီး ကုန်းမြင့်တောင်ပေါ်နေသူတို့မှာမူ တောင်ယာစိုက်ပျိုးနည်းကိုသာ အားကိုးခဲ့ကြသည်။

သီးနှံပင်များအပြင် တရုတ်ဆီးသီး၊ ကွမ်းသီး၊ အုန်း၊ သာကူပင်၊ တောင်ပိန်းနဲ၊ ပဲလင်းမြွေ၊ ကျောက်ဖရုံ၊ ကျိတ်၊ ဖန်ခါး၊ လက်ပံ၊ လေးကိုင်းလုပ်ရသည့်ပိုးစာပင်တမျိုး(ပိုးမွေးသည့်အပင်မျိုး မဟုတ်)တို့ကိုလည်း စိုက်ကြသည်။ သုံးကြသည်။ ကြံ့ရေ၊ ကြွေ၊ ဖယောင်း၊ ဘယဆေးနှင့်အဝတ်အထည်များကိုလည်း ထုတ်လုပ်ကြသည်။

## မြန်မာနိုင်ငံတွင်းသို့ ရွှေပြောင်းကြခြင်း

သူတို့၏ရှေ့ပြေးလူတို့သည် မြန်မာနိုင်ငံမြေပြန့်သို့ ရောက်နှင့်ပြီးဖြစ်နိုင်ကြောင်း ဆိုခဲ့ပါပြီ။ ထိုနောက်သော် မိမိတို့ကဲ့သို့ပင် တရုတ်ပြည်အနောက်မြောက်စွန်မှ အရှေ့ဘက်ကြောင်း ရွှေ့ပြောင်းဆင်းလာခဲ့သည်။

မိမိတို့နှင့်အနွယ်တူ အခြားတိဗက်မြန်မာအနွယ်ဝင် တိုင်းရင်းသားတို့နှင့်ရှေးဟောင်းမြန်မာတို့သည် နန်စောပြည်ထောင်စုတွင် တပူးတပေါင်းတည်း နေခဲ့ကြ၏။

နန်စောမင်းတို့သည် တခါတရံ ရှေးဟောင်းမြန်မာလူစုကို ဖိနှိပ်တိုက်ခိုက်ခဲ့ခြင်းရှိ၏။ စစ်ရေးကို အခြေခံသည့် ပဒေသရာဇ်စနစ်အောက်တွင် နေရသည်မှာ ပျော်မွေ့ဘွယ် မဟုတ်။ ထိုမှတပါး မြန်မာနိုင်ငံတွင်းသို့ နန်စောတို့နှင့်အတူ ဝင်ရောက်တိုက်ခိုက်ခဲ့ခြင်း(ပျူနိုင်ငံမြို့တော် ၈၃၂နှင့်သုဝဏ္ဏဘူမိမြို့တော်၈၃၅)၌ ပါဝင်ခဲ့ရ၍ ရှေးဟောင်းမြန်မာနိုင်ငံ၏အခြေအနေကို သိခဲ့ရ

သောအခါ တရွာပြောင်းမှ သူကောင်းဖြစ်မည်ဆိုသည့်သဘောလည်း ပေါက်လာခဲ့ကြပေမည်။

သို့ဖြစ်၍လည်း ယခင်က ဆိုခဲ့သည့်အတိုင်း တရွေ့ရွေ့နှင့်ရွှေ့ပြောင်းရောက်ရှိပြီး သူ့ရှေးမြန်မာများရှိရာ မြန်မာနိုင်ငံအလယ်ပိုင်းသို့ ပျူနိုင်ငံအပျက်တွင် အမြောက်အများ အလုံးအရင်းနှင့် ရွှေ့ပြောင်းဝင်ရောက်ခဲ့ကြခြင်း ဖြစ်သည်။

ဤသို့ ဝင်ရောက်လာသောအခါ မွန်၊ ကရင်၊ ပျူတို့အပြင် တရုတ်ပြည်အနောက်မြောက်ဖက်မှ အနောက်ဖက်ပြောင်းဝင်လာခဲ့ကြသော သက်၊ ချင်း စသည်တို့နှင့်တွေ့ဆုံပူးပေါင်းခွင့်ရခဲ့ကြသည်။

ရောက်ရှိပြီးဖြစ်သော မွန်ခမာအနွယ်ဝင် မွန်၊ ပလောင်၊ ဝများ၊ ပျူများ၊ ကရင်များ၊ အနောက်ကြောင်း တိဗက်၊ မြန်မာများဖြစ်သော သက်၊ ချင်းများနှင့်ယခုအရှေ့ကြောင်းမှ ဝင်လာသော ရှေးဟောင်းမြန်မာတို့ ပူးပေါင်းမိကြသောအခါ ပုဂံနိုင်ငံသစ်ကို တည်ထောင်နိုင်ခဲ့ကြခြင်း ဖြစ်သည်။

ရှေးဟောင်းမြန်မာတို့ မူရင်းဒေသမှ နန်စောသို့ရွှေ့ပြောင်းလာခဲ့ပုံ

၈-ရာစုနှင့်၉-ရာစု အေဒီနှစ်များအတွင်း နန်စောဖက်မှ မြန်မာနိုင်ငံတွင်းသို့ ဝင်လာသူတို့မှာ ရှေးဟောင်းမြန်မာများဖြစ်ကြလေရာ သူတို့သည် နန်စောတို့နှင့်အမျိုးအနွယ် ယဉ်ကျေးမှုမှစ၍ ဆက်သွယ်နေသည်ကို ဖေါ်ထုတ်နိုင်သည့် အခြားအကြောင်းများ ရှိသေးသလော။

မြန်မာနိုင်ငံတွင်းသို့ အနောက်ဖက်ကြောင်းမှ ဝင်လာသော တိဗက်မြန်မာဘာသာစကား အနွယ်ဝင်များ၊ အရှေ့ဘက်ကြောင်းမှ ဝင်လာသော ရှေးဟောင်းမြန်မာတို့အပါအဝင်ဖြစ်သည့် တိဗက်မြန်မာဘာသာစကားအနွယ်ဝင်များ၏မူရင်းဒေသနှင့်ထိုစဉ်ကရှိခဲ့သော ယဉ်ကျေးမှု၊ နန်စောသို့ ရောက်လာပုံတို့အတွက် အထောက်အထားများ ရှိပါသလောဟူသော မေးခွန်းနှစ်ရပ်ကို ဤတွင် မေးဘို့လိုလာပါသည်။ ထိုအခါ ဤမေးခွန်းနှစ်ရပ်တွင် သမိုင်းစဉ်မှန်စေရန် ဒုတိယမေးခွန်းကို ပထမ ရှင်းလင်းဖေါ်ပြလိုပါသည်။

## မူရင်းဒေသ

တရုတ်ပြည် အနောက်မြောက်ပိုင်း ယခုကန်စုနယ်ကို ဖြတ်သန်း၍ အနောက်ဆီမှ စီးဆင်းသော မြစ်ဝါခေါ် ဝှာင်ဟိုမြစ်ဖျားပိုင်းတွင် တောင်ဘက်မှ စီးဆင်းလာသော 'ထောင်'ခေါ် မြစ်လက်တက်တခုရှိ၏။

ဤထောင်မြစ်ဝှမ်းတွင် တူးဖော်သုတေသနပြုခဲ့သော သမိုင်းမတင်မီခေတ် ရှေးဟောင်းသုတေသန ပညာရှင်တို့သည် ထိုမြစ်ဝှမ်းအတွင်း လွန်ခဲ့သော နှစ်ပေါင်းလေးထောင်ခန့်(ဘီစီ ၂၀၀၀)က ကျောက်ခေတ်သစ်အဆင့်သို့ ရောက်နေပြီဖြစ်သော ရှေးလူဟောင်းတို့၏ရုပ်ကြွင်းများနှင့်ယဉ်ကျေးမှုဆိုင်ရာ ပစ္စည်းအများအပြားကို တွေ့ခဲ့ကြ၏။

ဤမြစ်ဝါမြစ်ဝှမ်း၏အလယ်ပိုင်းနှင့်အောက်ပိုင်းတို့တွင် ဘီစီ ၃၀၀၀ ခန့်က လူဟောင်းတို့၏ရုပ်ကြွင်းများနှင့်ယဉ်ကျေးမှုဆိုင်ရာပစ္စည်းများကို တွေ့ခဲ့ကြ၏။ ထိုပညာရှင်တို့၏ကောက်ချက်ချမှုများကို ထောက်ထား၍ ထောင်မြစ်ဝှမ်းသားတို့မှာ သူတို့အရှေ့ဘက် မြစ်ဝါမြစ်ဝှမ်းသားတို့နှင့်မတူ။ သီးခြားယဉ်ကျေးမှုနှင့်အစဉ်အလာရှိခဲ့သူများ ဖြစ်သည်။ မြစ်ဝါမြစ်ဝှမ်းအလယ်ပိုင်းနှင့်အောက်ပိုင်းနေ ရှေးဟောင်းလူတို့မှာ တရုတ်တို့၏ရှေးဘိုးဘေးကြီးများ ဖြစ်သည်။ ထောင်မြစ်ဝှမ်းနေ လူတို့မှာ ယခု တိဗက်မြန်မာဘာသာစကား အနွယ်ဝင်တို့၏ရှေးဘိုးဘေးကြီးများ ဖြစ်ခဲ့သည်ဟု သိရသည်။

## ချိယန်များ

ထောင်မြစ်ဝှမ်း ရှေးဟောင်းတိဗက်မြန်မာ ကျောက်ခေတ်သစ်ယဉ်ကျေးမှုသည် မြစ်ဝါမြစ်ဝှမ်းအလယ်နှင့်အောက်ပိုင်းရှိ ရှေးဟောင်းတရုတ်ကျောက်ခေတ်သစ် ယဉ်ကျေးမှုနှင့်အပြိုင်ဖြစ်သည်။ အဆင့်အတန်းလည်း မနိမ့်ကျ။ အထက်တန်းကျလှသော ကျောက်ခေတ်သစ်ယဉ်ကျေးမှုဖြစ်သည်။ ဤတိဗက်မြန်မာ ဘာသာစကား ရှေးအနွယ်ဝင်တို့သည် ငြိမ်းချမ်းအေးဆေးစွာ လုပ်ကိုင်စားသောက် နေထိုင်ကြသူများ ဖြစ်သည်။ ရှေးဟောင်းတရုတ်တို့မှာမူ အင်အားကြီးလျှင် ကြီးသလို တခြားလူမျိုးများကို တိုက်ခိုက်လိုသူများ၊ ရန်လိုသူများ ဖြစ်ကြသည်။

သူတို့သည် မြစ်ဝါမြစ်ကွေ့ကြီး၏အရှေ့ဘက်အောက်ထောင့်ချိုးတွင် စီးဝင်သော ဝေမြစ်ဝှမ်းမှသည် အနောက်ဖက်သို့ တဖြည်းဖြည်း တိုက်ခိုက်၍ သူတို့ပိုင်နက်ကို ချဲ့ထွင်ခဲ့ကြသည်။ ဤနည်းဖြင့် သူတို့သည် ထောင်မြစ်ဝှမ်း သားတို့ကို တိုက်ခိုက်လာကြသည်။ သုံ့အများကိုလည်း ကျွန်ပြုရန် ဖမ်းဆီး သွားကြသည်။ သုံ့အချို့ကို ဦးခေါင်းဖြတ်၍ ယဇ်နတ် ပူဇော်ကြသည်။

တရုတ်တို့က ထောင်မြစ်ဝှမ်းသားတို့ကို ချီယန်ဟု ခေါ်ကြသည်။ သိုး မွေးသူ၊ ဆိတ်မွေးသူဟု အဓိပ္ပာယ်ရသည်။ ဘီစီ ၂၀၀၀ခန့်တွင် တိရစ္ဆာန်မွေး မြူခြင်းဖြင့် အစားအစာကို ထုတ်လုပ်ခဲ့ကြသူများ၊ တရုတ်ယဉ်ကျေးမှုနှင့်အ ပြိုင် အထက်တန်းကျသော ယဉ်ကျေးမှုအဆင့်သို့ ရောက်ခဲ့သူများ ဖြစ်သည်။

## ချီယန်များ ရွှေ့ပြောင်းရခြင်း

တရုတ်တို့က အနောက်ဖက်သို့ ချီတက်တိုက်ခိုက်လာကြသောကြောင့် သူတို့သည် အနောက်ဖက်သို့ ရွှေ့ပြောင်းခဲ့ကြရသည်။ ဘီစီ ၁၅၀၀ခန့်နှင့် ၁၀၀၀ခန့်စပ်ကြား တရုတ်ပြည်မြောက်ပိုင်းတွင် တန်ခိုးကြီးလာသော ရှန် သို့ မဟုတ် ယင်မင်းဆက်လက်တွင် တရုတ်တို့သည် ချီယန်တို့ကို ပိုမိုတိုက်ခိုက် ကြသည်။ သူတို့၏ပိုင်နက်ကို အနောက်ဖက်သို့ တိုး၍ချဲ့ထွင်လာကြသည်။

## ဘဝသာယာရေးထက် လွတ်လပ်ရေးကို မြတ်နိုးသူများ

ကျောက်ခေတ်သစ်ချီယန်တို့၏ဘဝမှာ ငြိမ်းချမ်းသာယာ၍ ခေတ် အလိုက် တိုးတက်သော ယဉ်ကျေးမှုရှိနေသူများ ဖြစ်ကြသည်။ သို့သော် သူ တို့ကို တရုတ်တို့က တိုက်ခိုက်နှိပ်စက်၍ ကျွန်ပြုလုပ်လာသောအခါ သူတို့သည် ဘဝသာယာအေးချမ်းမှုနှင့်တိုးတက်နေသော ယဉ်ကျေးမှုတို့ကို ထောက်ထား မက်မောခြင်းမရှိဘဲ သူတို့၏လွတ်လပ်ရေးအတွက် မူရင်းဒေသကို စွန့်လွှတ် ထွက်ခွာခဲ့ကြ၏။

ဤသည်ကို ထောက်၍ ရှေးဟောင်းမြန်မာတို့ အပါအဝင် ဖြစ်သော တိဗက်မြန်မာဘာသာစကား ရှေးအနွယ်ဝင်တို့သည် ဘဝသာယာရေးနှင့်ယဉ် ကျေးမှုတို့ထက် လွတ်လပ်ရေးကို ပိုမိုခုံမင်မက်မောသူများ ဖြစ်ကြသည်ဟု

ပါမောက္ခလုစ်က ကောက်ချက်ချခဲ့သည်။

'ဖြစ်လိုရာ ဖြစ်ပါစေ၊ လွတ်လပ်ရေးကိုဖြင့် အထိမခံ'ဟူသော ယနေ့ ပြည်ထောင်စုသားတို့၏စိတ်ဓာတ်သည် ဤသမိုင်းဖြစ်ရပ်နှင့်ဤကောက်ချက်ချမှုကို ထောက်ခံနေသည်။ ရှိရှိသမျှတို့ထက် လွတ်လပ်ရေးကို ပိုမိုမြတ်နိုးသော ဤစိတ်ဓာတ်သည် နယ်ချဲ့ကို တော်လှန်သောအခါမှ ပြည်ထောင်စုသားတို့တွင် ရှိလာသောစိတ်ဓာတ် မဟုတ်၊ ရှေးပဝေဏီကတည်းက ကိန်းအောင်းလာခဲ့သော ဗီဇစိတ်ဓာတ် ဖြစ်သည်ကို ကောင်းစွာသိသာနိုင်၏။

## တိဗက်နိုင်ငံ ပေါ်ပေါက်တန်ခိုးကြီးလာခြင်း

မူရင်းဒေသမှ တရုတ်တို့၏ရန်ကြောင့် ထွက်ခွာလာခဲ့ရပြီးနောက် ဘီစီ ၅၀၀ခန့်တွင် ချီယန်တို့သည် တရုတ်ပြည်အနောက်ပိုင်းတွင် စည်းလုံးမိပြန်၍ အင်အားကြီးမားလာခဲ့ပြန်သည်။ တရုတ်ပြည်ကို ဘီစီ ၁၀၀၀ခန့်မှ ၃၀၀ခန့်ထိ အုပ်စိုးသော ကျိုမင်းဆက်လက်ထက်တွင် သူတို့၏ဒေသသည် တရုတ်တို့၏ တိုက်ခိုက်ခြင်းကို ခံရပြန်သည်။

အထူးသဖြင့် ချင်မြို့စားကြီး၏တပ်တို့သည် ဘီစီ ၃၅၀ခန့်တွင် ချီယန်တို့ကို အလုံးအရင်းနှင့်တိုက်ခိုက်သဖြင့် ချီယန်တို့ ထပ်မံရွှေ့ပြောင်းခဲ့ရသည်။

ချင်မြို့စားကြီး၏အနွယ်ဝင် မင်းတပါးမှာ နောင်အခါတွင် တရုတ်ပြည်၏ပထမအင်ပါယာဟု ထင်ရှားသော ချင်အင်ပါယာနှင့်ချင်မင်းဆက်ကို တည်ထောင်သည့်ချင်ရှီဟွောင်တိဧကရာဇ် ဖြစ်၏။

နောက်ထပ်ပေါ်ပေါက်ခဲ့သော ဆင်၊ဟန်၊စွီ တရုတ်မင်းဆက်များလက်ထက်တို့တွင်လည်း ချီယန်တို့သည် ဆက်လက်ဖိနှိပ်ခြင်းကို ခံခဲ့ရ၏။

ချီယန်တို့ တောင်ဘက်သို့ ရွှေ့ပြောင်းရာ ခရီး၏အနောက်ဖက်တွင် တိဗက်ကုန်းမြင့်ရှိ၏။ ချီယန်တချို့သည် တိဗက်ကုန်းမြင့်သို့တက်ကာ လူ့ဘောင်ဘဝသစ်ကို တည်ထောင်ခဲ့ကြသည်။

ဤလူ့အဖွဲ့အစည်းသစ်သည် အေဒီ ခုနစ်ရာစုနှစ်များအတွင်း အင်အားကြီးလှသော တိဗက်နိုင်ငံကို တည်ထောင်နိုင်ခဲ့၏။ ထိုအချိန်တွင် တရုတ်ပြည်၌လည်း အင်အားကြီးမားသော ထန်အင်ပါယာကြီးစိုးလျက်ရှိသည်။ ထန်

အင်ပါယာ၏စီးပွားရေးသွေးကြောမှာ အာရှတိုက်အနောက်ပိုင်းနိုင်ငံများနှင့် ဆက်သွယ်ထားသော အာရှအလယ်ပိုင်းကုန်သွယ်လမ်းမကြီး ဖြစ်သည်။

သို့ဖြစ်၍ ထန်၏နိုင်ငံခြားရေးဝါဒမှာ ထိုလမ်းမကြီးကို ပိုင်ဆိုင်ကြီးစိုးမှုတွင် အခြေတည်ခဲ့သည်။ တရုတ်ကို အံတုလာနိုင်သော တိဗက်သည် ထိုလမ်းကြီးကို နှောင့်ယှက်ထိပါးနိုင်ခဲ့၏။

တရုတ်ထန်ဧကရာဇ်၏သမီးတပါးကို မိဖုရားမြှောက်ရန် တောင်းဆိုခဲ့သည်။ နိုင်ငံခြားဆက်သွယ်ရေးတွင် ပရိယာယ်ကြွယ်လှသော ထန်ဧကရာဇ်သည် တရုတ်မင်းသမီးတပါးကို ပို့စေ၍ တိဗက်၏ရန်ကို ငြိမ်းစေခဲ့ရသည်။

ဤကာလလောက်မှာပင် ရှေ့ပိုင်းတွင် ဖော်ပြခဲ့သော နန်စောနိုင်ငံ တန်ခိုးအင်အားကြီးလာခဲ့သည်။ ကျန်နေရာတွင် တိဗက်နှင့်နန်စောအခန်းကို ခေတ္တရပ်ထားကာ ကျန် ချိယန်(တိဗက်မြန်မာဘာသာစကားအနွယ်ဝင်)တို့၏ ဆက်လက်ရွှေ့ပြောင်းမှုကို ဖော်ပြလိုပါသည်။

## တောင်ဘက်သို့ ဆက်လက်ရွှေ့ပြောင်းသူများ

တိဗက်ကုန်းမြင့်သို့ မတက်ခဲ့သော ကျန် ချိယန်တို့သည် သံလွင်၊ မဲခေါင်နှင့်ယန်စီမြစ်ကြောင်းများအတိုင်း တောကြီးမြက်မည်း ချောက်ကမ်းပါးဒေသများကို ဖြတ်၍ တောင်ဘက်သို့ ဆက်လက်ရွှေ့ပြောင်းကြ၏။

ယင်းသို့ ပြောင်းရွှေ့ကြရာတွင် အချို့သည် တိဗက်ကုန်းမြင့်နှင့်နီးကပ်၍ ကြမ်းတမ်းလှသည့် အနောက်ဖက်ကြောင်းကို လိုက်၏။ အချို့သည် ယဉ်ကျေးမှုတိုးတက်နေသော တရုတ်ပြည်နှင့်နီးကပ်၍ အနောက်ဖက်ကြောင်းလောက် မကြမ်းတမ်းလှသည့် အရှေ့ဘက်ကြောင်းကို လိုက်၍ ရွှေ့ပြောင်းခဲ့ကြသည်။

အနောက်ဖက်ကြောင်းလိုက်သူတို့သည် ခက်ခဲကြမ်းတမ်းသောခရီးလမ်းကို လိုက်ကြရသည်။ ယဉ်ကျေးမှု ထွန်းကားရာဒေသနှင့်အလှမ်းဝေးသည်။ သို့ဖြစ်၍ သူတို့သည် ရွှေ့ပြောင်းရာလမ်းတွင် ယဉ်ကျေးမှုအချက်အလက်အသစ်အဆန်းများကို ရသင့်သလောက် မရခဲ့ကြချေ။

သို့သော် ပင်ပန်းဆင်းရဲခံနိုင်မှု၊ စွန့်စားမှု၊ ရဲစွမ်းသတ္တိရှိမှု၊ အခက်အခဲကို ကြံ့ကြံ့ခံ ရင်ဆိုင်မှု၊ ကျန်းမာတောင့်တင်းသန်စွမ်းမှုစသော အရည်အ

ခြင်းကောင်းများကို ရရှိခဲ့ကြသည်။

အရှေ့ဘက်ကြောင်းလိုက်သူတို့မှာ အနောက်ဘက်ကြောင်းလိုက်သူတို့လောက် အကြမ်းပတမ်းခံနိုင်မှု၊ ကျန်းမာတောင့်တင်း သန်စွမ်းမှု စသည်တို့မရှိကြချေ။

သို့သော် ယဉ်ကျေးသော တရုတ်နိုင်ငံနှင့်နီးကပ်စွာ ရွှေ့ပြောင်းကြသဖြင့် လူမှုရေး၊ စီးပွားရေးနှင့်ယဉ်ကျေးမှုအတွက် အချက်အလက်များကို ရွှေ့ပြောင်းရာလမ်းခရီးတလျှောက်တွင် ရရှိခဲ့ကြသည်။

## သက်၊ နာဂ၊ ချင်းတို့ ရွှေ့ပြောင်းရာလမ်း

အနောက်ဖက်ကြောင်းလိုက်သူတို့သည် မြန်မာနိုင်ငံ၏မြောက်ဖက်အစွန်လောက်သို့ ရောက်သောအခါ ယခုမြန်မာနိုင်ငံနှင့်တိဗက်ပြည်တို့စပ်ကြားလောက်မှ အနောက်ဖက်သို့လမ်းခွဲကာ ဗြဟ္မပုတ္တရမြစ်၏လက်တက်တခုဖြစ်သော လူဟာစ်မြစ်ကြောင်းကို လိုက်ခဲ့ကြ၏။

မြန်မာနိုင်ငံ၏အနောက်မြောက်ဖက်သို့ ရောက်သောအခါ ထိုဒေသရှိ တောင်ကြားလမ်းများကိုလိုက်၍ ယခုမြန်မာနိုင်ငံတွင်းသို့ အနောက်မြောက်ဖက်မှ ဝင်လာခဲ့ကြသည်။ ယင်းတိုင်းရင်းသားတို့တွင် ယခင်က ဆိုခဲ့သည့်အတိုင်း သက်အစု၊ နာဂအစုနှင့်ချင်းအစုများ ပါဝင်ခဲ့ကြ၏။

မူလက သက်တို့သည် ယခု မဏိပူရပြည်မှ အရှေ့ဘက် ဧရာဝတီမြစ်အထိ ပြန့်နှံ့နေခဲ့ကြဟန်တူ၏။ နာဂတို့ရောက်လာသောအခါ မဏိပူရရှိသက်တို့သည် အရှေ့ဘက်ရှိ သက်တို့နှင့်အဆက်ပြတ်ခဲ့ကြဟန်တူ၏။ နာဂအများစုသည် အနောက်ဖက် အာသံပြည်တွင်းသို့ ဝင်ရောက်ခဲ့ကြသည်ဟုဆိုနိုင်သည်။

ချင်းအစုဝင်များ ဝင်လာသောအခါ သူတို့သည် ချင်းတွင်းမြစ်ကြောင်းကို လိုက်ခဲ့ကြ၏။ ချင်းအစုဝင်များ ဝင်ရောက်လာ၍ ချင်းတွင်းမြစ်ကြောင်းတလျှောက်နှင့်အနောက်ရိုးမကို စိုးမိုးလာသဖြင့် နာဂတို့သည် အနောက်ဖက်သို့ တိုး၍ ရွှေ့ပြောင်းခဲ့ကြသည်။ အနောက်နှင့်အရှေ့တွင် ရှိနေသော သက်အစုဝင်တို့မှာလည်း ပို၍ ဝေးကွာသွားခဲ့ကြရ၏။

## လောကလော၊ ကရင်

အရှေ့ဘက်ကြောင်းလိုက်သူတို့အနက် အရှေ့ဘက်အစွန်ကျသော သူတို့သည် ယန်စီမြစ်အတိုင်းလိုက်၍ တဖြည်းဖြည်း ယူနန်နယ်အရှေ့မြောက်ပိုင်းသို့ ရောက်သွားကြ၏။ ဤသူတို့မှာ လောလောအစုဝင်များဖြစ်ကြသည်။ အလယ်ကျသော မဲခေါင်မြစ်နှင့်သံလွင်မြစ်တို့ကို လိုက်သူတို့တွင် ကရင်အုပ်စုဝင်များပါကြ၏။

သူတို့သည် သံလွင်မြစ်အတိုင်းလိုက်၍ ရှမ်းပြည်တောင်ပိုင်းတွင် အနောက်သို့ချိုးကာ ယခု မိုးဗြဲနယ်၊ ကယားပြည်နယ်နှင့်ယခု ကရင်ပြည်နယ်မြောက်ပိုင်းအထိရောက်ခဲ့ကြ၏။ သူတို့သည် အခွင့်သာလျှင် သာသလို စစ်တောင်းမြစ်ဝှမ်းမြေပြန့်သို့ ဆင်းသက်ရွှေ့ပြောင်းနေထိုင်ခဲ့ကြ၏။

## ပျူ

သံလွင်မြစ်ကြောင်းကို လိုက်သူတို့အနက် အချို့သည် ယူနန်နယ်အနောက်ပိုင်းသို့ရောက်လာသောအခါ တပိန်ရွှေလီမြစ်ကြောင်းတို့ကို လိုက်၍ ဧရာဝတီမြစ်ကြောင်းသို့ ဆင်းခဲ့ကြသည်။ ယင်းတို့အနက် ရှေးအကျဆုံးဟုယူဆရသူတို့မှာ ဗိဿနိုးမြို့ကို တည်ထောင်ခဲ့သော ပထမပျူနိုင်ငံသား ပျူများဖြစ်ခဲ့သည်ဟု ဆိုနိုင်၏။

သရေခေတ္တရာကို တည်ထောင်သော ပျူ ဒုတိယအသုတ်သည်လည်း ဤလမ်းများကိုပင် လိုက်ခဲ့ကြသည်ဟု ယူဆဘွယ်ရာရှိပေသည်။ ရောက်နှင့်ပြီးသော သက်တို့နှင့်တွေ့ထိကြဟန် တူ၏။ သို့သော် ထိုစဉ်က မြောက်ဖက်ပိုင်းသို့ ရောက်နေသော သက်တို့ကို ရှောင်ကွင်းကာ တောင်ဘက်သို့ ရွှေ့ပြောင်းခဲ့ကြသည်ဟု ဆိုရပါမည်။

## မောစော(နာခီ)များ

အလယ်ကြောင်း သံလွင်မြစ်ကို လိုက်သူတို့တွင် ရှေးဟောင်းမြန်မာများလည်း ပါကြ၏။ မောစောများလည်း ပါကြ၏။ မောစောတို့သည် မိမိတို့ကိုယ်ကို နာခီဟု ခေါ်ကြ၏။

ရှေးဟောင်းမြန်မာတို့အကြောင်းကိုကား ဖော်ပြခဲ့ပြီးဖြစ်သည်။ မောစော(နာခီ)နှင့်အရှေ့ဘက် လောလောတို့သည် နန်စောပြည်ထောင်စုတွင် ပါဝင်သူများဖြစ်ကြ၏။ ရှေးဟောင်းမြန်မာတို့ နန်စောမှ ထွက်ခွာရွှေ့ပြောင်းသောအခါတွင် ထိုအနွယ်တူလူမျိုးတို့သည် နန်စော၌ပင် ကျန်ရစ်ခဲ့ကြသည်။

## ရှေးဦးမြန်မာများ

ရှေးဟောင်းမြန်မာတို့အနက် သံလွင်မြစ်အနောက်ဖက် ဧရာဝတီမြစ်များတစု၊ တမိုင်မြစ်များ၊ ထိုနောက် မေခမြစ်နှင့်လက်တက်များကိုလိုက်၍ ရွှေ့ပြောင်းခဲ့သူ များခဲ့သည်။ ဤအကြောင်းကိုလည်း ပြီးခဲ့သည့်အခန်းတွင် ဆိုခဲ့ပြီး ဖြစ်သည်။

ဤလူစုများကို ရှေးဦးမြန်မာများဟုခေါ်သည်။ သူတို့သည် သက်နိုင်ငံကို ဖောက်ထွင်းရှောင်ကွင်းခြင်း မပြုနိုင်၍ ဧရာဝတီမြစ်ကြောင်းတွင် ဗန်းမော်ခရိုင်လောက်အထိသာ ရောက်ခဲ့ကြ၏။ ယင်းတို့တွင် မရူ၊ လရှီ၊ အဇီ၊ မိုင်းသာနှင့်ဖွန်းခေါ် တိုင်းရင်းသားများပါကြသည်။

အထက်ဖော်ပြချက်တို့မှာ အေဒီ ၇-ရာစုနှစ်များအထိ မြန်မာနိုင်ငံနှင့်မြောက်ဖက်ပတ်ဝန်းကျင်တွင် ရှေးဟောင်းလူတို့ရွှေ့ပြောင်းရောက်ရှိခဲ့ပုံကို သမိုင်းဖြစ်စဉ်နှင့်သူတို့လက်ရှိ ပြန့်နှံ့နေထိုင်ပုံတို့အရ ဖော်ပြခြင်းဖြစ်ပေသည်။

## နန်စောသို့ ရှေးဟောင်းမြန်မာများ ရောက်လာပုံ

ရှေးဟောင်းမြန်မာတို့သည် အေဒီ ၇-ရာစုနောက်ပိုင်းတွင် နန်စောဒေသသို့ ရောက်ရှိလာပုံကို အကျဉ်းအားဖြင့် ဆက်လက်ဖော်ပြလိုပေသည်။ အထက်တွင် ဆိုခဲ့သည့်အတိုင်း တိဗက်နိုင်ငံနှင့်ထန်တရုတ်တို့သည် ၇-ရာစုနှစ်များအလယ်လောက်တွင် အပြိုင်အဆိုင် တန်ခိုးကြီးလာခဲ့ကြ၍ အာရှအလယ်ပိုင်းကို ကြီးစိုးနိုင်ရေးအတွက် အပြန်အလှန် စစ်ဆင်နွှဲခဲ့ကြ၏။

ဤအချိန်လောက်မှာပင် ယူနန်နယ်အနောက်ပိုင်း၌ နန်စောနိုင်ငံတန်ခိုးကြီးလာခဲ့၏။ ကော်လော်ဖဲင့်မင်းလက်ထက်တွင် အင်အားအကြီးဆုံးဖြစ်သည်။ တိဗက်သည်လည်းကောင်း၊ ထန်တရုတ်တို့သည်လည်းကောင်း စစ်

အင်အားတခု ဖြစ်သော နန်စောကို မိမိတို့ဘက်သို့ပါအောင် အပြန်အလှန် သိမ်းသွင်းခဲ့ကြ၏။

ဤသို့ဖြင့် နန်စောသည် ပထမတရုတ်ဘက်က ပါခဲ့သည်။ ကော်လော်ဖဲင့်လက်ထက်တွင် တိဗက်နှင့်ပေါင်း၍ တရုတ်ကို တိုက်သည်။ ယီမိုယွန်လက်ထက်နောက်ပိုင်းတွင် တရုတ်ဘက်သို့ပါသွား၍ တိဗက်ကို တိုက်ပြန်သည်။ ယီမိုယွန်ကို ဆက်ခဲ့သော မင်းတို့လက်ထက်များတွင် တိဗက်ဘက်သို့ ပြန်ရောက်ခဲ့ပြန်သည်။

အေဒီ ၈၂၂-တွင် တိဗက်နှင့်တရုတ်တို့ စစ်ပြေငြိမ်းလိုက်သောအခါ နန်စောတနိုင်ငံတည်း တရုတ်ကို ဆက်၍တိုက်သည်။ အရှေ့တောင်အာရှပိုင်းရှိ နိုင်ငံများကိုလည်း တိုက်ခဲ့သည်။

## သုံးပွင့်ဆိုင် ပဒေသရာဇ်စစ်

ဤကဲ့သို့သော ပထမတိဗက်နှင့်တရုတ်နှစ်ပွင့်ဆိုင် ပဒေသရာဇ်စစ်များ ဖြစ်ကြသောအခါ ရှေးဟောင်းမြန်မာနှင့်အနွယ်တူ တိဗက်မြန်မာစကားပြောသူတို့ ရွှေ့ပြောင်းရာ သံလွင်၊ မဲခေါင်နှင့်ယန်စီမြစ်ကြောင်းတို့ ယှဉ်မိရာဒေသတွင်လည်းကောင်း၊ ယင်းတောင်ဘက်ဒေသများတွင်လည်းကောင်း တိုက်ပွဲများကို ဆင်နွှဲခဲ့သဖြင့် ရှေးဟောင်းမြန်မာနှင့်အနွယ်တူတို့၏ရွှေ့ပြောင်းမှုကို လျှင်မြန်စေခဲ့သည်။ တဖန် နန်စောပါ ပါလာ၍ သုံးပွင့်ဆိုင်ပဒေသရာဇ်စစ်များဖြစ်လာသောအခါ သူတို့၏ရွှေ့ပြောင်းမှုသည် ပို၍ပင် လျှင်မြန်လာခဲ့သည်။

ရှေးဟောင်းမြန်မာတို့၏ရွှေ့ပြောင်းမှုခရီးအစဉ်မှာ တန်ခိုးကြီးလာသော နန်စောကို ရှောင်ကွင်းနိုင်ရန် အနောက်ဖက်မှ ပန်း၍ ရွှေ့ပြောင်းသောခရီးစဉ်ဖြစ်သည်။ နန်စောတို့ တန်ခိုးမကြီးမီကသော် လွတ်လပ်စွာ ရွှေ့ပြောင်းနိုင်သဖြင့် ရွှေ့ပြောင်းမှု၏ရှေ့ပိုင်းသည် ရှမ်းပြည်တောင်ပိုင်း၊ ယင်းမှတဆင့် မြန်မာနိုင်ငံမြေပြန့်သို့ အေဒီ ၈-ရာစုနှစ်များလောက်ကတည်းက ရောက်ခဲ့ဟန်တူ၏။

နန်စောမင်းရှဲန်လော်ဖီလက်ထက်(အေဒီ ၇၁၃)တွင် မုင်ရှေစောအင်အားကြီးလာ၍ အနောက်ဖက်သို့ ပိုင်နက်ချဲ့ရန် တိုက်ခိုက်လာသောအခါ ရှေးဟောင်းမြန်မာမင်းစောတစုတို့သည် ရှေ့သို့ဆက်လက် မရွှေ့ပြောင်းနိုင်တော့

ချေ။ နန်စောလက်အောက်သို့ရောက်၍ နန်စောပဒေသရာဇ်တို့အတွက် အမှုထမ်းကြရတော့သည်။

ဤသို့ဖြင့် ရှေးဟောင်းမြန်မာရွှေ့ပြောင်းမှုအစဉ်တွင် နောက်ပိုင်းလူများနှင့်အလယ်ပိုင်းရှိလူများသည် ယူနန်နယ်အနောက်ပိုင်းနှင့်ရှမ်းပြည်မြောက်ပိုင်းတို့တွင် ရပ်တန့်ခဲ့ကြရခြင်းဖြစ်သည်။ နန်စောနိုင်ငံတွင် ရှေးဟောင်းမြန်မာတို့အရေးပါခဲ့ပုံ၊ သူတို့၏လူမှုရေး၊ စီးပွါးရေးဘဝနှင့်အဆင့်အတန်းတို့ကို ဆိုခဲ့ပြီးဖြစ်၍ ထပ်မံဖော်ပြရန် မလိုတော့ပါ။ သူတို့သည် နန်စော၏အရေးပါသော အင်အားစု ဖြစ်သည်။ နန်စောစစ်များတွင် ပါဝင်ဆင်နွှဲခဲ့ကြသည်။ နန်စောနိုင်ငံသမိုင်းကို ဖန်တီးရာတွင် ပါဝင်ခဲ့ကြသူများ ဖြစ်သည်။

## တိုးတက်ရရှိခဲ့သော လူနေမှုအဆင့်

နန်စောတွင် နေစဉ်အတွင်း သူတို့သည် စစ်ရေး၊ အုပ်ချုပ်ရေး၊ စိုက်ပျိုးရေး၊ စည်းကမ်းစသည်တို့ဘက်၌ အတွေ့အကြုံအလေ့အထနှင့်နည်းလမ်းသစ်များကို ရခဲ့ကြသည်။ တိုးတက်မှုလည်း များစွာရှိခဲ့သည်။ အထူးသဖြင့် မြင်းကိုမွေး၍ ကောင်းစွာအသုံးချတတ်သူများဖြစ်၍ စစ်ရေးတွင် အခြားလူမျိုးစုထက် များစွာသာကြသူများ၊ စစ်ဆင်နည်းသစ်ကို ထွင်ခဲ့ကြသူများဖြစ်သည်။

## လွတ်လပ်ရေးကို အထိမခံ

ယီမိုယွန်လက်ထက် တိဗက်နှင့်အဆက်ဖြတ်၍ တရုတ်နှင့်ပေါင်းသည့် နိုင်ငံခြားဆက်သွယ်ရေး ပြောင်းလဲခဲ့သည်။ ပြည်တွင်းဆက်ဆံရေးလည်း ပြောင်းလဲမှုရှိခဲ့သည်။ ယခင်က မဟာမိတ်ပြုခဲ့၍ တရုတ်တို့ကို တပူးတပေါင်းတည်း ခုခံတိုက်ခိုက်ပေးခဲ့သော ရှေးဟောင်းမြန်မာအုပ်စုများကို မိတ်ဆွေအဖြစ်မှ ရန်သူအဖြစ်သို့ ပြောင်းလဲသဘောထားကာ စတင်ဖိနှိပ်တိုက်ခိုက်ခဲ့သည်(အေဒီ ၇၉၄)။

ဗိဇကတည်းက လွတ်လပ်ရေးကို အထိမခံနိုင်သော ရှေးဟောင်းမြန်မာတို့သည် ပဒေသရာဇ်စနစ် ပြင်းထန်စွာ ကြီးစိုးနေသော မိမိတို့ဒေသများ

ကို စွန့်လွှတ်ကာ အခွင့်သာသည်နှင့် တပြိုင်နက် မြန်မာနိုင်ငံမြေပြန့်အတွင်းသို့ ဆင်းသက်ရွှေ့ပြောင်းခဲ့ကြသည်။

မြေပြန့်၏ပူပြင်းသော ရာသီဥတုဒဏ်နှင့်နယ်သစ်တွင် ဘဝသစ်ထူထောင်ရေးအခက်အခဲများကို ရင်မဆိုင်ဝံ့သောကြောင့်လည်းကောင်း၊ နန်စောလက်မှ လွယ်ကူစွာ ရုန်းကန်ထွက်မြောက်ရန် မဖြစ်နိုင်သောကြောင့်လည်းကောင်း၊ ရှေးဟောင်းမြန်မာအုပ်စုအချို့သည် ကုန်းမြင့်ဒေသ၌ပင် ချန်နေရစ်ကြသည်။

ဤမျှဖြင့် ရှေးဟောင်းမြန်မာတို့၏မူရင်းဒေသရှိခဲ့သော ယဉ်ကျေးမှုအဆင့်အတန်းနှင့်နန်စောဒေသသို့ရောက်ခဲ့ပုံ အကြောင်းကို နိဂုံးချုပ်လိုပါသည်။ ပထမမေးခွန်းဖြစ်သော နန်စောနှင့်ရှေးဟောင်းမြန်မာတို့ ယဉ်ကျေးမှုအမျိုးအနွယ်ဆက်သွယ်နေပုံကို ဖော်ပြသော အထောက်အထားများနှင့်မြန်မာနိုင်ငံမြေပြန့်သို့ ဆင်းသက်လာပုံတို့ကို ဖော်ပြရန်လိုပါမည်။

## ရှေးမြန်မာတို့ မြန်မာနိုင်ငံအလယ်ပိုင်းမြေပြန့်သို့ ရွှေ့ပြောင်းနေထိုင်လာခြင်း

ရှေးမြန်မာတို့ မြန်မာနိုင်ငံအလယ်ပိုင်း မြေပြန့်သို့ဆင်းလာပုံ အကြောင်းကို မဆိုမီ နန်စောနှင့်ရှေးမြန်မာတို့ ယဉ်ကျေးမှုတမျိုးတနွယ် ဆက်စပ်နေပုံကို ထောက်ခံဖော်ပြသော အထောက်အထားများကို အနည်းငယ်ဖော်ပြလိုသည်။

## နန်စောသည် တိဗက်မြန်မာ

သမိုင်းပညာရှင်တို့သည် ရှေးအခါက နန်စောနိုင်ငံနေလူတို့မှာ ရှမ်းအမျိုးသားများ ဖြစ်ကြသည်။ တနည်းဆိုသော် ထိုင်တရုတ်ဘာသာစကားအနွယ်ဝင်များဖြစ်ကြသည်ဟု ယူဆခဲ့ကြသည်။ နန်စောနိုင်ငံ၏အချက်အခြာဖြစ်သော တာလီအိုင်ကြီးတဝိုက်သို့ ကွင်းဆင်းသုတေသနပြုခဲ့ကြသော သမိုင်းပညာရှင်တို့က ဤဒေသတွင် ထိုင်တရုတ်ယဉ်ကျေးမှု အထောက်အထားများ၊ ထိုင်ရှမ်းတို့၏ရှေးဟောင်းပစ္စည်း အထောက်အထားများ မတွေ့ခဲ့ကြသဖြင့်

နန်စောတို့မှာ ထိုင်တရုတ်ဖြစ်နိုင်သည်ထက် တိဗက်မြန်မာဖြစ်နိုင်သည်ဟု ဆိုခဲ့ကြသည်။

ခေတ်ပြိုင်တရုတ်အထောက်အထားများကို အသေးစိတ်သုတေသနပြုသူတို့ကလည်း ယင်းအဆိုအမိန့်ကို ထောက်ခံကြသည်။ ယခုအခါတွင် အရှေ့ပိုင်းအာရှသမိုင်းပညာရှင်အများစုက နန်စောနိုင်ငံ၏လူများစုမှာ လောလောအစုဝင် ရှေးမြန်မာစသည့်တိဗက်မြန်မာများဖြစ်ကြ၍ အနည်းစုမှာ ထိုင်တရုတ်အနွယ်ဝင်များဖြစ်သည်ဟု လက်ခံထားကြပြီဖြစ်သည်။ ဤအချက်က အေဒီ ၈-ရာစုတွင် မြန်မာနိုင်ငံတွင်းသို့ ရွှေ့ပြောင်းလာသူတို့မှာ နန်စောနိုင်ငံသားတို့နှင့်တမျိုးတနွယ်တည်း ဖြစ်ကြောင်းကို ထောက်ခံနေပေသည်။

## ယဉ်ကျေးမှုအစဉ်အလာ တူညီချက်များ

အမျိုးအနွယ်တူရုံမျှဖြင့် ရှေးမြန်မာတို့သည် နန်စောနိုင်ငံဘက်မှလာသည်ဟု တထစ်ချမဆိုသာသေးပါ။ နန်စောနိုင်ငံသားတို့၏ယဉ်ကျေးမှုနှင့် ရှေးအစဉ်အလာတို့မှာ မြန်မာနိုင်ငံအလယ်ပိုင်းရောက် ရှေးမြန်မာတို့၏ယဉ်ကျေးမှုအစဉ်အလာတို့နှင့်တူညီသောအချက်များ ရှိနေသည်ကို တွေ့ရ၍သာ နန်စောဘက်တွင်နေခဲ့သူများ၊ ယင်းဒေသကလာခဲ့သူများဖြစ်သည်ဟု အထောက်အထားချင်း၊ ကောက်ချက်ချင်း ဆက်စပ်၍ ယူနိုင်ပါသည်။

## အမည်မှည့်ပုံတူခြင်း

နန်စောတို့သည် အမျိုးသားတို့၏အမည်ကို မှည့်ရာတွင် ဖခင်အမည်၏နောက်ဆုံးစလုံးကို သား၏အမည်တွင် ရှေ့ဆုံးစာလုံးအဖြစ်သုံးခဲ့သူများ ဖြစ်သည်။ နန်စောသမိုင်းလာ နန်စောမင်းတို့၏အမည်များကို လေ့လာလျှင် ဤအချက်ထင်ရှားသည်ကို တွေ့နိုင်သည်။ ဥပမာ -

လော်ရှန့်
ရှန့်လော်ဖီ
ဖီလော်ကော
ကောလော်ဖွဲင့်

ဖွဲ့ငှ်ကျာယီ

ယီမိုယွန်

စသည်ဖြင့် ဖခင်အမည်နောက်ဆုံးစာလုံးကို သားအမည်ရှေ့ဆုံးစာလုံးအဖြစ် သုံးနှုန်းမှည့်ခေါ်ထားကြ၏။

မြန်မာရာဇဝင်ကျမ်းတို့တွင် လာရှိသော ပျူစောထီးမင်း၏အနွယ်ဝင် တို့တွင်လည်း ဤနည်းအတိုင်းပင် အမည်ပေးထားသည်ကို စိတ်ဝင်စားစွာ တွေ့ရ၏။ ယင်းအမည်တို့မှာ. . .

ပျူစောထီး

ထီးမင်းယာဉ်

ယာဉ်မင်းပိုက်

ပိုက်သေည်လည်

သေည်လည်ကြောင်

ကြောင်တူရစ်တို့ ဖြစ်ကြသည်။

ရှေးက အမည်မှည့်ခေါ်နည်း တူခဲ့သည်ကို ပိုမိုခိုင်လုံစေသောအချက် ရှိသေးသည်။ မြန်မာတို့သည် ယင်းအမည် မှည့်သည့်စနစ်ကို ယခုအခါတွင် မလိုက်နာကြတော့ပါ။ သို့သော် မြန်မာအစုဝင်များဖြစ်၍ ရှေးဦးမြန်မာများ ဖြစ်ကြသော ကချင်ပြည်နယ်အရှေ့ပိုင်းနေ မရူနှင့်လရှီတိုင်းရင်းသားတို့သည် ယနေ့တိုင် ယင်းအမည်မှည့်သည့်စနစ်ကို လိုက်နာဆဲရှိကြသေးသည်။

မရူနှင့်လရှီတို့ ယနေ့တိုင်လိုက်နာသည့် ဤအစဉ်အလာက ရှေးမြန် မာများ နန်စောတွင် နေခဲ့ကြောင်းကို ထောက်ခံနေသည်။ နန်စောနှင့်မြန်မာ တို့ကို ဆက်စပ်ပေးထားသည့်ပေါင်းကူးတန်တားသဖွယ် တည်နေသောအစဉ် အလာ သမိုင်းအထောက်အထား ဖြစ်ပေသည်။

မရူတိုင်းရင်းသား၏အမျိုးဆက်တခုတွင် ဖအေနှင့်သားတို့ အမည် ပေးပုံကို. . .

တောင်ခွန်

ခွန်ကျှင်း

ကျှင်းလုမ်း

စသည်ဖြင့် အစဉ်အဆက်တွေ့ရ၏။ အလားတူပင် လရှီအမျိုးသားတို့ကလည်း-

လုံချန်

ချန်လန်း
လန်းတင့်
စသည်ဖြင့် ဂေါ်လန်ဒေသဘက် မျိုးဆက်တခုတွင် အမည်ပေးထား၏။ ထော ဂေါဘက်တွင် တွေ့ရသော မျိုးဆက်တခု၏အမည်မှာ. . .
ခန်းဗုမ်
ဗုမ်ယင်း
ယင်းတင့်
စသည်တို့ဖြစ်သည်။

## သမိုင်းဦးဒန္တာရီ တူခြင်း

သမိုင်းဦးဒန္တာရီတွင်လည်း နန်စောနှင့်ရှေးမြန်မာတို့မှာ ထပ်တူထပ်မျှ ဖြစ်နေသည်။ ပျူစောထီးမင်း၏ဒန္တာရီကို အသိများကြပါသည်။ နန်စောတို့၏သမိုင်းဦးဒန္တာရီမှာလည်း ပျူစောထီးမင်း၏ဒန္တာရီကဲ့သို့ပင် ဖြစ်၏။ အမည်တို့၏အသံထွက်များပင်လျှင် နီးစပ်စွာ တူညီနေသည်။

ဤတွင်လည်း မရှုတို့၏သမိုင်းဦး ဒန္တာရီသည် ပေါင်းကူးသဖွယ် နန်စောနှင့်ရှေးမြန်မာကို ဆက်စပ်ပေးထားပြန်သည်။ မရှုတို့၌လည်း ပျူစောထီးမင်း၏စွန့်စားခန်း ဒန္တာရီရှိပေသည်။ ပျူစောထီးမှာ မရှုတို့၏ရှေးဦးမင်းဖြစ်သည်ဟု ယုံကြည်ကြ၏။

## ဒုတိယဂန္ဓာလရာဇ်

အိန္ဒိယယဉ်ကျေးမှုသည် ပျူနိုင်ငံမှတဆင့် နန်စောဒေသသို့ရောက်ခဲ့၏။ ဗုဒ္ဓဝါဒလည်း ထွန်းကားခဲ့သည်။ ဤသို့ဖြင့် မိမိတို့သိခဲ့သော နန်စောနိုင်ငံ၏အချက်အချာဒေသ တာလီအိုင်ကြီးတဝိုက်ကို ရှေးမြန်မာတို့သည် ဒုတိယဂန္ဓာလရာဇ်ဟု မှတ်သားလာခဲ့ခြင်းဖြစ်ပေသည်။

## ဥတည်ဖွား

နန်စောမင်း ကောလော်ဖွဲ့င်ကို တိဗက်တို့က အရှေ့ဘက်ဧကရာဇ် (တုင်တိ)ဟုလည်းကောင်း၊ ကောလော်ဖွဲ့င်၏မြေးယီမိုယွန်ကို နေထွက်ဘုရင် (ဂျိတုင်ဝါင်)ဟုလည်းကောင်း ဘွဲ့မည်ပေးခဲ့၏။

မြန်မာတို့ကလည်း ဂန္ဓာလရာဇ်မင်းကို နေထွက်ဘုရင်အဓိပ္ပာယ်ရသော ဥတည်ဖွားဟု သိမှတ်ခဲ့ကြ၏။ နောက်ပိုင်းတွင် တရုတ်ဘုရင်ကို ဤအမည်ဖြင့် ခေါ်ဝေါ်လာခဲ့ပေသည်။

## မြင်းနှင့်ရှေးမြန်မာ

ထိုမှတပါး မြန်မာနိုင်ငံတွင်းသို့ရောက်ရှိ၍ ကာလကြာမြင့်စွာ နေထိုင်လာပြီးသည့်တိုင်အောင် မြန်မာတို့သည် နန်စောတွင်နေကြသော မိမိတို့၏ရှေးဘေးကြီး ဘိုးကြီးတို့၏ဓလေ့ထုံးစံနှင့်အစဉ်အလာတို့ကို ဆက်လက်ထိန်းသိမ်းလိုက်နာခဲ့ကြသည့် အချက်ကလည်း ရှေးမြန်မာတို့ နန်စော၌ ရှိနေခဲ့ကြောင်းကို ထင်ရှားစေပေသည်။

## မြင်းဝေါဟာရ၏ရင်းမြစ်

နန်စောတွင် ရှေးမြန်မာဝါင့်ကျူတို့သည် မြင်းစီးသူရဲများဖြစ်၏။ မြင်းကိုမွေးမြူသည်။ မြတ်နိုးသည်။ နိုင်နင်းစွာ စီးနိုင်သည်။ စစ်ဆင်မှုတွင် နည်းဗျူဟာကို ပြောင်းစေခဲ့သည်။ မြန်မာနိုင်ငံမြောက်ပိုင်းရှိ ယနေ့တိုင်းရင်းသားအများစုတို့ အသုံးပြုနေသော မြင်းအတွက် ဝေါဟာရမှာ မရန်း(မြင်း=မ+ရင်း။ ရင်းတွင်း 'င်း'သည် ရှေးက အင်းသံမထွက်ပဲ အန်းသံထွက်ခဲ့သည်။)ဟူသော ရှေးမြန်မာဝေါဟာရနှင့်လွန်စွာ အသံနီးစပ်သည်။

ချင်းအမျိုးသားအချို့က ရန်းဟုခေါ်၏။ ကချင်က ဂုမ်ရမ်းဟုခေါ်၏။ ရှေးကျသော မွန်ခမာအနွယ်ဝင် ပလောင်၊ ဝ၊ ယင်းစသောတိုင်းရင်းသားတို့၏မြင်းအတွက် ဝေါဟာရတို့မှာလည်း မရန်းမှသက်သော ဝေါဟာရများဖြစ်ကြသည်။ ဤသည်တို့က မြန်မာနှင့်မြင်း ဆက်စပ်နေမှု ရှေးကျလှချက်ကို

ဖော်ပြနေပေသည်။

မြန်မာနိုင်ငံသမိုင်းတွင် သူရဲကောင်းဆိုလျှင် မြင်းနှင့်ခွဲမရ။ ကျန်စစ်သား၊ အလောင်းစည်သူ၊ တပင်ရွှေထီးစသည့်မင်းတို့၏မြင်းများ၏စွမ်းရည်ကို အသားပေးဖော်ကြ၏။ မြင်းကို အရေးပေး၍ အခမ်းအနားများပင် ဆင်ယင်ကျင်းပခဲ့ကြ၏။ မြင်းရေး ၃၇-ပါး၊ မြင်းခင်းသဘင်၊ ဂူလီပွဲစသည်တို့ကို ထောက်ထားနိုင်၏။ အထူးသဖြင့် မြို့မည်များကိုပင် မြင်းကို အကြောင်းပြု၍ မှည့်ခေါ်ခဲ့ကြ၏။ ဥပမာ မြင်းစိုင်း၊ မြင်းခုံတိုင်၊ မြင်းမူစသည်များကို သတိပြုမိကြပါမည်။

## စောနှင့်စိုး ဝေါဟာရ

နန်စောတွင် ရှိစဉ်က ရှေးမြန်မာမျိုးတူစုတို့သည် မိမိတို့၏အကြီးအကဲကို မင်း၊ မင်းစော၊ စိုး စသည်ဖြင့် ခေါ်ဝေါ်ခဲ့ကြ၏။ ယင်းအစဉ်အလာသည် ပုဂံခေတ်၊ အင်းဝခေတ်တိုင် ဆက်လက်၍ ရှိလာခဲ့ကြပေသည်။ အနော်ရထာမင်းစော၊ စောလူမင်း၊ မိဖုရားစော၊ စိုးမင်းကိုယ်တော်ကြီး၊ စိုးသားမင်းသား စသည်မှာ သာဓကအချို့မျှသာ ဖြစ်ပေသည်။

## ခြေတံရှည်အိမ်နှင့်ခေါင်းပေါင်းနီ

နန်စောတွင် ရှိခဲ့စဉ်က ခြေတံရှည်အိမ်များနှင့်နေသည့်ဓလေ့ကို မြေပြန့်သို့ရောက်သောအခါတွင်လည်း ဆက်လက်လိုက်နာခဲ့ကြသည်။ နန်စောတွင် ရှိခဲ့စဉ် မိမိတို့အိမ်၌ ဥဒေါင်းများကို အမြတ်တနိုး မွေးမြူခဲ့ကြ၏။ မြေပြန့်သို့ရောက်သောအခါ ဥဒေါင်းသည် မွန်မြတ်သောအထိမ်းအမှတ် လက္ခဏာတခုဖြစ်လာသည်။

နန်စောတွင်ရှိစဉ်က အမျိုးသားတို့သည် ဆံကို ထုံးကာ ပုဝါနီပေါင်း၍ ဆံမြိတ်စကို နောက်တွင် ဟန်ပေးကာချထားသည်။ ဤဆင်ယင်မှုမျိုးကို မြေပြန့်တွင် အချို့နေရာ၌ ယနေ့တိုင် လိုက်နာလျက်ရှိကြသေးသည်။ အထောက်အထားများ ပြနိုင်သော အခြားတူညီချက်အများပင် ရှိပေသေးသည်။

ဆိုခဲ့ပြီးသော အကြောင်းပြချက်တို့လောက်နှင့်ပင် ရှေးမြန်မာနှင့်နန်

စောတို့ဆက်စပ်ခဲ့ပုံသည် ကောင်းစွာ ထင်ရှားနေပြီဟု ထင်ပါသည်။

## မြန်မာနိုင်ငံအလယ်ပိုင်းသို့ ရွှေ့ပြောင်းနေထိုင်လာပုံ

နန်စောနိုင်ငံမှ မြန်မာနိုင်ငံဘက်သို့ မည်သည့်အကြောင်းများကြောင့် ရှေးမြန်မာတို့သည် ရွှေ့ပြောင်းလာခဲ့ရသည်ကို ဆိုခဲ့ပြီးဖြစ်ပါသည်။ ရွှေ့ပြောင်းကြရာတွင် လမ်းခရီး၌ ကျန်နေရစ်ခဲ့သော သို့မဟုတ် ချန်နေရစ်ခဲ့သော မြန်မာအစုဝင် မျိုးတူစုတို့ ယနေ့နေထိုင်ရာဒေသများနှင့်မြန်မာနိုင်ငံတွင် ပြန့်နှံ့နေပုံတို့ကို ထောက်၍ ရှေးမြန်မာတို့ ရွှေ့ပြောင်းလာသည့်လမ်းကို ခန့်မှန်းနိုင်ပါသည်။ ဤတွင် မြန်မာအစုဝင်တို့ ယနေ့ ပြန့်နှံ့နေထိုင်ပုံကို လေ့လာသိရှိထားရန် လိုပါမည်။

## မြန်မာအစုဝင်တို့ ပြန့်နှံ့နေပုံ

မြန်မာအစုဝင်စကားတို့ကို ရှေးဦးမြန်မာစကားများ(ဖြစ်သော မရူ၊ လရှီ၊ မိုင်းသာနှင့်ဖွန်းများ)၊ အသံကွဲမြန်မာစကားများ(ဖြစ်သော တောင်ရိုး၊ အင်းသား၊ ဓနု၊ ယော၊ ချောင်းသား၊ ရမ်းဗြဲ၊ ရခိုင်၊ အနောက်ဖက်သား၊ ထားဝယ်၊ မြိတ်စကားများ)နှင့်အများသုံးမြန်မာစကားဟူ၍ သုံးပိုင်းခွဲခြားလေ့လာနိုင်ပါသည်။

## ရှေးဦးမြန်မာစကားပြောသူများ

မရူစကားပြောသူတို့ကို ကချင်ပြည်နယ်အရှေ့ပိုင်း မေခမြစ်ဝှမ်းတွင်လည်းကောင်း၊ လရှီစကားပြောသူတို့ကို မရူတို့၏တောင်ဘက် ဆဒုံ၊ ဆမားဒေသများတွင်လည်းကောင်း၊ ဇီးစကားပြောသူတို့ကို လရှီတို့၏တောင်ဘက် ဗန်းမော်ခရိုင်မြောက်ပိုင်းတွင်လည်းကောင်း၊ မိုင်းသာစကားပြောသူတို့ကို ယူနန်အရှေ့ပိုင်း တပိန်မြစ်ဝှမ်းနှင့်ဗန်းမော်ခရိုင်တွင်လည်းကောင်း၊ ဖွန်းစကားပြောသူတို့ကို မြစ်ကြီးနားနှင့်ဗန်းမော်ခရိုင်တို့ဆုံရာ ကျောက်တွင်းခေါ် ဧရာဝတီပထမမြစ်ကျဉ်းတဝိုက်တွင်လည်းကောင်း အသီးသီးတွေ့ရပါသည်။

ဇီး၊ လရှို၊ မရူအချို့ကို မြန်မာနယ်စပ်တလျှောက် တရုတ်ပြည်ဘက်တွင်လည်း တွေ့နိုင်၏။ မရူအချို့မှာ မြစ်ငယ်မြစ်ဖျား ရှမ်းပြည်မြောက်ပိုင်း ဘော်တွင်းဒေသတဝိုက်သို့ ရောက်နေကြပေပြီ။

## အသံကွဲ မြန်မာစကားပြောသူများ

အသံကွဲမြန်မာစကားကို ပြောသော တောင်ရိုး၊ ဓနုနှင့်အင်းသားတို့ကို တောင်ကြီးခရိုင် မြေလတ်ဒေသတွင် တွေ့ရသည်။ ဓနုတို့မှာ ရှမ်းကုန်းပြင်မြင့်၏အနောက်စွန်တလျှောက် မြောက်ဖက် မေမြို့နယ်မှ တောင်ဘက်မြေလတ်ဒေသအထိ ပြန့်နှံ့နေကြ၏။

## ချန်နေရစ်ခဲ့သူများ

ဆိုခဲ့သော ရှေးဦးမြန်မာစကားပြောသူ မရူ၊ လရှို၊ ဇီး၊ မိုင်းသာနှင့် ဖွန်းတို့မှာ လမ်းခရီးတွင် ကျန်နေခဲ့သူများ ဖြစ်ကြသည်။ တချိန်က သူတို့သည် ဧရာဝတီမြစ်ကြောင်းတလျှောက် ဆင်းလာရန် ကြိုးစားခဲ့ဟုန်တူ၏။

တကောင်းခေါ် သင်းတွဲကို ဗဟိုပြု၍ နေထိုင်ကြသောသက်တိုင်းရင်းသားတို့အင်အားနှင့်ထုထယ်ကို မထိုးဖောက်နိုင်သဖြင့် ဧရာဝတီမြစ်အထက်ပိုင်း(ဗန်းမော်အထက်)တွင် သောင်တင်နေခဲ့ဟန်တူ၏။

အသံကွဲမြန်မာစကားပြောသူ တောင်ရိုး၊ ဓနုနှင့်အင်းသားတို့မှာမူ ရှမ်းကုန်းမြင့်မှ မြေပြန့်သို့ဆင်းခါနီးမှ မလိုက်လိုပဲ နေရစ်သူများဖြစ်ကြသည်။ ကုန်းမြင့်တွင် အနေကြာသူတို့သည် အထူးသဖြင့် ပေသုံးထောင်အမြင့်တွင် ရှိသော နှင်းခဲကြောင်း၏အထက်တွင် နေသူတို့သည် ဖြစ်နိုင်ပါက မြေပြန့်သို့ မဆင်းလိုကြပေ။

## ရှေ့သို့ဆက်၍ ပြန့်ပွားသူများ

မြန်မာနိုင်ငံအနောက်စွန်နှင့်တောင်စွန်သို့ ရောက်နေကြသော အသံကွဲ မြန်မာစကားပြောသူတို့မှာ မြန်မာနိုင်ငံအလယ်ပိုင်းမြေပြန့်သို့ရောက်ပြီးမှ

အကြောင်းအမျိုးမျိုးကြောင့် ရှေးအခါကပင် ဆက်လက်ရွှေ့ပြောင်းခဲ့သူများ ဖြစ်ကြသည်။

## ဝင်လာရာ ခရီးစဉ်

မြန်မာအစုဝင်တို့ ပြန့်နှံ့ရောက်ရှိနေသည့် နေရာတို့ကို ထောက်၍ ရှေးမြန်မာများ ဝင်ရောက်လာရာ၊ ဆက်လက်ရွှေ့ပြောင်းရာလမ်းကို ခန့်မှန်းနိုင်သည်။ နန်စောနိုင်ငံတွင် ယူနန်အနောက်ပိုင်းမှ ရှမ်းပြည်မြောက်ပိုင်း၊ ယင်းမှတဆင့် မြစ်ငယ်မြစ်ကြောင်းကို လိုက်၍ တောင်ဘက် မြေလတ်ဒေသ၊ ယင်းမှတဆင့် အနောက်ဖက် ရှမ်းကုန်ပြင်မြင့်အခြေရှိ ကျောက်ဆည်ခရိုင်အတွင်းသို့ ဇော်ဂျီနှင့်ပန်းလောင်မြစ်ကြောင်းများကိုလိုက်၍ ဝင်ရောက်ခဲ့သည်ဟု ဆိုရပေမည်။

## အနောက်နှင့်တောင်ကို ရှောင်ခဲ့ရသည့်အကြောင်း

ရှမ်းပြည်မြောက်ပိုင်းမှ အနောက်ဖက် ဧရာဝတီမြစ်ဆီသို့ အဘယ့်ကြောင့် မရွှေ့ခဲ့သနည်းဟု စောဒကတက်ရန် ရှိ၏။ ဤခရီးကို မလိုက်နိုင်ခဲ့သည့်အကြောင်းနှစ်ရပ် ရှိသည်ဟု ယူဆသည်။

ပထမအကြောင်းမှာ ကုန်းမြင့်တောင်တန်းများ၍ လမ်းခရီးမသာသောကြောင့် ဖြစ်သည်။ ဒုတိယအကြောင်းမှာ သူတို့ဆင်း၍နေရာယူမည့် ဧရာဝတီနှင့်ချင်းတွင်းမြစ်နှစ်သွယ်စပ်ကြားတွင် သက်တို့ရောက်နှင့်နေပြီဖြစ်ရုံသာမက ထုနှင့်ထည်နှင့် ရှိနေသောကြောင့် ဖြစ်သည်။

မြေလတ်ဒေသသို့ ရောက်ပြီးနောက် အဘယ့်ကြောင့် တောင်ဘက်သို့ ဆက်လက်ရွှေ့ပြောင်းခြင်း မပြုသနည်းဟုလည်း စောဒကတက်လိုက တက်နိုင်ပါသေးသည်။ ဤတွင်လည်း အကြောင်းနှစ်ခုရှိသည်။

မြေလတ်ဒေသ၏တောင်ဘက်တွင် လူဦးရေများများကို ထောက်ပံ့ကျွေးမွေးထားနိုင်မည့်စိုက်ပျိုးနိုင်သော မြေပြန့်မရှိခြင်းနှင့်ထိုဒေသတွင် တောင်သူနှင့်အခြားကရင်အမျိုးသားများ ရောက်နှင့်ပြီး ဖြစ်သောကြောင့်ဟု ဆိုရမည်ဖြစ်သည်။

## ကျောက်ဆည်ဒေသ၏ထူးခြားချက်များ

မြေလတ်ဒေသ၏အနောက်ဖက် ကျောက်ဆည်မြေပြန့်ဒေသမှာ. . .

(၁) ပျူနိုင်ငံပျက်ပြီးစဖြစ်၍ အုပ်ချုပ်မှု၊ စည်းရုံးမှုအခိုင်အမာမရှိ။ ကာလပျက်သည့်အချိန်ဖြစ်၍ ဝင်ရောက်လာသူတို့ကို ထိထိ ရောက်ရောက် ခုခံနိုင်စွမ်းမရှိ။

(၂) ရှမ်းကုန်းမြင့်မှ ဤဒေသသို့ ဆင်းရန် လမ်းခရီးမှာ အခြားလမ်းများထက် ပို၍လွယ်ကူသည်။

(၃) ဤဒေသတွင် ရှိနှင့်ပြီးဖြစ်သော သူတို့သည် တူးမြောင်းများဖောက်ကာ ရေသွယ်၍ စပါးစိုက်ပျိုးလုပ်ကိုင်နေပြီးဖြစ်၍ စားရေရိက္ခာပေါမြားသည်။

(၄) ဤသို့တူးမြောင်းများဖြင့် ရေသွယ်စိုက်ပျိုးကြသဖြင့် စိမ်းလန်းစိုပြေကာ ပတ်ဝန်းကျင်ရှိ အခြားဒေသများလောက် ပူပြင်းခြင်းမရှိ။ သမသောရာသီဥတုရှိသည့်ကုန်းမြင့်မှ ဆင်းလာသူတို့အတွက် ပူပြင်းသောမြန်မာနိုင်ငံအလယ်ပိုင်းဒေသတွင် ဤဒေသသည် အခြားအခြားသောဒေသတို့နှင့်စာက အသင့်တော်ဆုံးနှင့်အသက်သာဆုံး ဒေသဖြစ်သည်။

## ရှေးမြန်မာတို့သိပြီးသောဒေသ

နန်စောတပ်တို့နှင့်အတူ အောက်မြန်မာနိုင်ငံထိ ချီတက်တိုက်ခိုက်ခဲ့ရသော ရှေးမြန်မာတို့သည် မြန်မာနိုင်ငံအလယ်ပိုင်းအခြေအနေကို သိထားပြီးဖြစ်၍ ဤကျောက်ဆည်ခရိုင်ကို မိမိတို့အတွက် ရွှေ့ပြောင်းနေထိုင်ရန် အသင့်တော်ဆုံးဒေသဖြစ်ကြောင်း သိရှိရွေးချယ်ခဲ့ပြီးဖြစ်ဟန် တူသည်။ အခြားသင့်တော်သော ဒေသတခုရှိသေး၏။

ယင်းဒေသမှာ ကျောက်ဆည်ခရိုင်မှာကဲ့သို့ပင် တူးမြောင်းများဖြင့် ရေသွယ်စိုက်ပျိုးလုပ်ကိုင်သော မင်းဘူးခရိုင်ဖြစ်သည်။ ကျောက်ဆည်ခရိုင်ကိုရ၍ ဧရာဝတီမြစ်ကို ဖြတ်ကျော်ပြီးမှ ပူပြင်းလှသော မိုးနည်းရေရှား မြန်မာနိုင်ငံအလယ်ပိုင်းတွင် ကျောက်ဆည်ကဲ့သို့ စိမ်းလန်းစိုပြေ၍ အပူဒဏ်နည်းသောမင်းဘူးခရိုင်သို့ ရောက်နိုင်ပေမည်။

မြန်မာနိုင်ငံအလယ်ပိုင်း ကျောက်ဆည်နှင့်မင်းဘူးဒေသများသို့ ရွှေ့

ပြောင်းနေထိုင်ပြီးနောက် ယင်းဒေသတို့မှတဆင့် ပြန့်နှံ့ခဲ့ကြပုံမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

## ပုဂံမတည်မီ မြန်မာနိုင်ငံအခြေအနေ

ရှေးမြန်မာတို့သည် နန်စောနိုင်ငံလက်အောက်ခံ ယူနန်နယ်အနောက်ပိုင်းနှင့်ရှမ်းပြည်မြောက်ပိုင်းတို့မှ မြန်မာနိုင်ငံအလယ်ပိုင်းသို့ ရွှေ့ပြောင်းဆင်းသက်လာခဲ့သည်ဟူသော အဆိုယုတ္တိ တန်မတန်ကို အကျိုးအကြောင်းနှင့်ရှင်းလင်းဖော်ပြခဲ့ပြီး ဖြစ်၏။

## တောင်ပေါ်ကုန်းမြင့်သားများ ဖြစ်ခဲ့ခြင်း

ရှေးမြန်မာတို့သည် မူလက တောင်ပေါ်သားများ၊ ကုန်းမြင့်သားများ ဖြစ်ခဲ့ကြ၏။ ယခုခေတ် ပြည်ထောင်စုတိုင်းရင်းသား ကုန်းမြင့်သားများဖြစ်ကြသော ရှမ်း၊ ပအို့၊ ပလောင်၊ ကချင်၊ ချင်းစသူတို့ကဲ့သို့ပင် ဖြစ်သည်။

ယနေ့ မြေပြန့်ရှိ စကောကရင်များနှင့်တောင်ပေါ်ရှိကရင်တိုင်းရင်းသားတို့ အသွင်အပြင်ကွဲပြားနေသည်ကဲ့သို့ပင် မြေပြန့်ရှိမြန်မာများနှင့်မြေလတ်ဒေသရှိ တောင်ရိုးတိုင်းရင်းသားတို့မှာ တောင်ပေါ်နှင့်မြေပြန့်ကွဲ နေရာဒေသရှိသဖြင့် အသွင်အပြင် ခြားနားနေကြခြင်းဖြစ်သည်။

မူလကသော် ကုန်းမြင့်သားများသာ ဖြစ်ခဲ့ကြ၏။ တမျိုးတနွယ်တည်းဖြစ်၏။ အတူနေခဲ့သူများ ဖြစ်၏။ ဗုဒ္ဓသာသနာထွန်းကားမှု၏အကျိုးသက်ရောက်မှုနှင့်ခေတ်ယဉ်ကျေးမှု၏အကျိုးသက်ရောက်မှုတို့ကို ခံစားကြရသဖြင့် မြေပြန့်သားတို့သည် အရင်းအချာဖြစ်သော တောင်ပေါ်သားတို့နှင့်အသွင်အပြင် ကွာခြားနေသည်မှာ မှန်၏။

သို့သော် ထိုမြေပြန့်သားတို့သည် တောင်ပေါ်တွင်နေခဲ့စဉ်က ယုံကြည်လိုက်နာကျင့်သုံးခဲ့သော အစဉ်အလာ ဓလေ့ထုံးစံများက အရေးတယူလိုက်နာ ကျင့်သုံးနေဆဲပင် ရှိသည်။ လွယ်လင့်တကူနှင့် စွန့်ပစ်ကြသည်မဟုတ်ချေ။

ယနေ့မြေပြန့်သားတို့လိုက်နာကျင့်သုံးနေသော ရှေးဟောင်းစဉ်လာဓလေ့ထုံးစံတို့က ထိုမြေပြန့်သားတို့၏ ရှေးဘိုးဘေးတို့သည် တောင်ပေါ်ကုန်း

မြင့်သားများ ဖြစ်ခဲ့ကြောင်းကို အထင်အရှား ထောက်ခံနေပေသည်။

## တိုင်းရင်းသားတို့ ရွှေ့ပြောင်းမှုမှာ
## သမိုင်း၏သဘာဝဖြစ်ရပ်

ကုန်းမြင့်တောင်ပေါ်သားများ မြေပြန့်သို့ရွှေ့ပြောင်းဆင်းသက်နေထိုင်လာသည့်သမိုင်းဖြစ်ရပ်ကို လူမျိုးရေးအမြင် နိုင်ငံရေးအမြင်တို့ဖြင့် သုံးသပ်ဖော်ပြတတ်သူများလည်း ရှိသည်ကို တွေ့ခဲ့ဘူးသည်။

တိုင်းရင်းသားတို့ကို သွေးခွဲလိုသောကြောင့် ယင်းသို့ဖော်ပြလေသလောဟု ထင်မှားဘွယ်ရာဖြစ်သည်။ အမှန်စင်စစ် မည်သည့်နိုင်ငံ၌မဆို ကုန်းမြင့်သားတို့ မြေပြန့်သို့ ဆင်းသက်သည့်ဖြစ်စဉ်ဖြစ်ရပ်မှာ နိုင်ငံသမိုင်း၏သဘာဝဖြစ်စဉ်ဖြစ်ရပ်၊ ဖြစ်ရိုးဖြစ်စဉ်တခုသာ ဖြစ်၏။

တောင်ပေါ်ကုန်းမြင့်တွင် တောင်ယာစိုက်ပျိုးရေးလုပ်ငန်းမှာ စားရေရိက္ခာထုတ်လုပ်မှုတွင် အဓိကလုပ်ငန်းဖြစ်သည်။ တောင်စွယ်တောင်စောင်းများတွင် သစ်တောများ ခုတ်ထွင်ရှင်းလင်းရသည်။ အခြောက်ခံပြီး မီးရှို့ရသည်။ ထိုနောက် စူးထိုးစိုက်ရသည်။ တောင်ယာတခုတွင် နှစ်နှစ် သုံးနှစ်မျှသာ စိုက်ပျိုးနိုင်သည်။ ထိုနောက် နေရာပြောင်းတောခုတ်ပြီး တောင်ယာသစ်တည်ရပြန်သည်။

ဤတောင်ယာစီးပွားရေးစနစ်သည် လူဦးရေများများကို ထောက်ပံ့ကျွေးမွေးထားနိုင်ခြင်း မရှိချေ။ လူဦးရေတိုးတက်များပြားလာလျှင် ထောက်ပံ့နိုင်သည်ထက် ပိုသောလူတို့သည် ရေကြည်ရာမြက်နုရာသို့ မလွဲမသွေရွှေ့ပြောင်းရသည်။ ကုန်းမြင့်ပေါ်ရှိ တောင်ပေါ်မှ တောင်ခြေသို့ ဆင်း၍ ယင်းတောင်ခြေရှိ မကျယ်လှသော တောင်ခြေမြေပြန့်များသို့ အလုအယက်ရွှေ့ပြောင်းခဲ့ကြသည်။

ထိုဒေသမျိုးမှာလည်း လူဦးရေအမြောက်အမြားကို ထောက်ပံကျွေးမွေးထားနိုင်သည် မဟုတ်ချေ။ လူဦးရေများလာလျှင် တဖန်ရွှေ့ရချိမ့်ဦးမည်။ ကုန်းမြင့်အခြေများစွာ ကျယ်ဝန်းသော မြစ်ဝှမ်းဒေသတို့တွင် လယ်ယာစိုက်ပျိုးမှုရှိသည်။ မိုးကောင်းရေနှင့်စိုက်သည်လည်း ရှိသည်။ မြောင်းသွယ်ရေသွင်း၍ စိုက်သည်လည်းရှိသည်။

ဤလယ်စပါးစိုက်ပျိုးမှုသည် လူဦးရေအမြောက်အမြားကို ထောက်ပံ့ ကျွေးမွေးထားနိုင်သည်။ လူဦးရေများသည်ထက် များလာလျှင် မြေပြန့်သို့ ဆင်းရတော့သည်။ ဤသို့ဖြင့် မြစ်ဝှမ်းမြေပြန့်သည် တောင်ခေါ်ကုန်းမြင့်သား တို့ကို သမိုင်းခေတ်တလျှောက် ဖိတ်ခေါ်လာခဲ့သည်မှာ ယနေ့တိုင်ဖြစ်သည်။

ရှေးပျူတို့သည် တောင်ပေါ်သားများ ဖြစ်ခဲ့သည်။ မြေပြန့်သို့ ဆင်း ပြီးနောက် တိုင်းပြည်နိုင်ငံ ထူထောင်နိုင်သည်အထိ တိုးတက်ခဲ့၏။ မြန်မာ နိုင်ငံသမိုင်းတွင် သူတို့သည် ထင်ရှားသော သမိုင်းကဏ္ဍတခုကို ဖွင့်ခဲ့ကြ၏။ ယခုရှေးမြန်မာတို့မြေပြန့်သို့ ရွှေ့ပြောင်းဆင်းသက်လာကြပြန်သည်။

ရှေးမြန်မာတို့ရောက်ပြီးနောက် ရှမ်း၊ ကချင်စသော တိုင်းရင်းသား များ မြေပြန့်သို့ ဆင်းသက်လာခဲ့ကြသည်။ ဤပျူ၊ မြန်မာ၊ ရှမ်း၊ ကချင်စသည့် တိုင်းရင်းသားတို့ မြေပြန့်သို့ ဆင်းသက်လာခြင်းတို့မှာ သမိုင်း၏သဘာဝဖြစ် စဉ်၊ သာမန်ဖြစ်စဉ်များသာ ဖြစ်သည်။ သို့ဖြစ်၍ တိုင်းရင်းသားတို့ မြေပြန့်သို့ ဆင်းသက်လာမှုကို လူမျိုးရေးအမြင် နိုင်ငံရေးအမြင်နှင့်မရှုမြင်သင့်ဟု ဆို ခြင်းဖြစ်သည်။

## ပထမဆင့် မြေလတ်ဒေသ

မြန်မာနိုင်ငံ မြစ်ဝှမ်းမြေပြန့်နှင့်အစပ်ဖြစ်သော အရှေ့နှင့်အရှေ့ဘက် မြောက်ကုန်းပြင်မြင့်တွင် နေခဲ့စဉ်က ရှေးမြန်မာတို့သည် လူဦးရေတိုးတက်ခဲ့ ခြင်းကြောင့်လည်းကောင်း၊ အေဒီ ရှစ်ရာစုနောက်ပိုင်းတွင် နန်စောမင်းယီမို ယွန်သည် ရှေးမြန်မာများကို နန်စောနိုင်ငံအရှေ့စွန်းသို့ အတင်းနယ်ပြောင်း ခဲ့ခြင်း။

ရှမ်းပြည်မြောက်ပိုင်းရှိ ရှေးမြန်မာတို့ကို တိုက်ခိုက်ဖိနှိပ်လာခြင်း ကြောင့်လည်းကောင်း၊ ရှေးမြန်မာအများစုသည် နန်စောနိုင်ငံ မိမိတို့နေထိုင် ရာ ဒေသတို့ကို စွန့်ခွာ၍ ရှမ်းပြည်တောင်ပိုင်း ယခုတောင်ကြီးခရိုင် မြေလတ် ဒေသသို့ ပထမတဆင့် ရွှေ့ပြောင်းနေထိုင်လာခဲ့သည်ဟု ဆိုနိုင်၏။

## မြေပြန့်မရောက်မီ ရှိခဲ့သော အရည်အသွေး

ကုန်းမြင့်၌ နေထိုင်ခဲ့စဉ်ကတည်းကပင် ရှေးမြန်မာတို့သည် လယ်ယာစိုက်ပျိုးမှုအတတ်၊ ရေသွင်းစိုက်ပျိုးမှုအတတ်တို့ကို တတ်သိကြပြီးဖြစ်သည်။ မျိုးတူစုအလိုက် နေထိုင်ခဲ့ကြသူများ ဖြစ်သည့်အားလျော်စွာ မျိုးတူစုအုပ်ချုပ်ရေး၊ စီမံခန့်ခွဲရေးတို့ကို ပြုလုပ်လာခဲ့သူများ ဖြစ်သည်။

တိုက်ခိုက်ရေးတွင် ရဲစွမ်းသတ္တိရှိသည်။ စွန့်စားသည်။ ကျွမ်းကျင်လိမ္မာသည်။ လေး၊ လှံ၊ ဒိုင်းတို့ကို ကျင်လည်ထိရောက်စွာ သုံးနိုင်သည်။ မြင်းကို မွေး၍ နိုင်နင်းစွာ အသုံးချတတ်သဖြင့် လျင်မြန်စွာ ပြောင်းရွှေ့စစ်ထိုးနိုင်သည်။

ဤအချက်တွင် အခြားလူမျိုးတူစုတို့ထက် သာသည်။ နန်စောတပ်မတော်ကပင် ရှေးမြန်မာမြင်းတပ်တို့ကို အထူးအားကိုးရကြောင်း စစ်ပွဲများတွင် တပ်ဦးမှ စစ်ထိုးခဲ့ စေခဲ့ကြောင်း၊ နန်စောတို့အတွက် အောင်ပွဲများကို ယူပေးခဲ့ကြောင်း ဆိုခဲ့ပြီးဖြစ်သည်။ ဤအရည်အသွေးများအပြင် ကြံ့ခိုင်သန်မာသော ကာယဗလနှင့်ပြည့်စုံသူများလည်း ဖြစ်သည်။

## ဒုတိယဆင့် ကျောက်ဆည်ဒေသ

ဤအရည်အသွေးများရှိသော ရှေးမြန်မာတို့သည် အခွင့်အရေးကောင်း အခြေအနေကောင်းများ ပေးလာသောအခါ ဒုတိယအဆင့် ရွှေ့ပြောင်းမှုအဖြစ် မြေလတ်ဒေသ၏အောက်ကုန်းမြင့်အခြေတွင်ရှိသော ယခုကျောက်ဆည်ခရိုင်ဒေသသို့ ရွှေ့ပြောင်းခဲ့ကြသည်ဟု ဆိုခဲ့ခြင်း ဖြစ်ပေသည်။

ဆင်းလာကြရာတွင် အလုံးအရင်းနှင့်၊ အင်နှင့်အားနှင့် တဟုန်တည်းဆင်းလာခြင်းဖြစ်ဟန်တူသည်။ စနစ်တကျ တင်ကြိုပြင်ဆင်၍ စစ်တခုကို ဆင်နွှဲသည့်နှယ် အစီအစဉ်နှင့်ရွှေ့ပြောင်းဝင်ရောက်သိမ်းပိုက် နေထိုင်လာခြင်းမျိုးဖြစ်ဟန်တူသည်ဟု ယူဆသည်။ ယင်းသို့ ဝင်ရောက်လာသည့်ကာလမှာ ပျူနိုင်ငံပျက်စီးစကာလ (အေဒီ ၈၃၂-ခန့်)ဖြစ်သည်ဟု ယူဆသည်။*

---

* ဤကာလအရင်က မြန်မာနိုင်ငံ မြေပြန့်တွင် ရှေးမြန်မာများ မရောက်သေးဟု မယူဆသင့်။ ၈ -ရာစုနှစ်များ နောက်ပိုင်းလောက်ကတည်းက တစိမ်စိမ့်

## ပုဂံတည်နှစ်နှင့်ဟပ်မိနေခြင်း

ဤကာလခန့်မှန်းမှုနှင့်စပ်လျဉ်း၍ မြန်မာရာဇဝင်ကျမ်းများတွင်လာရှိသော အချက်တချက်မှာ စိတ်ဝင်စားဘွယ်ကောင်းသည်။ ယင်းအချက်မှာ ပျူပြားမင်းသည် ပုဂံမြို့ကို ကောဇာသက္ကရာဇ် ၂၂၁-တွင် တည်သည်ဆိုသော အချက်ဖြစ်သည်။

ခရစ်နှစ်နှင့်သော် အေဒီ ၈၄၉-ဖြစ်သည်။ မြေလတ်ဒေသမှ ကျောက်ဆည်ဒေသသို့ စစ်ဆင်ကာ ရွှေ့ပြောင်းလာသောကာလကို အေဒီ ၈၃၀-ကျော်ဟု ခန့်မှန်းလျှင် ဤရာဇဝင်လာ ပုဂံတည်နှစ်ကို ယုတ္တိရှိ၏ဟုယူဆလျှင် ရှေးမြန်မာတို့သည် ဒုတိယအဆင့် ရွှေ့ပြောင်းပြီးနောက် ၁၅-နှစ်သော ကာလအတွင်း ရောက်နှင့်ပြီးဖြစ်သော ရှေးမြန်မာများ၊ အခြားတိုင်းရင်းသားများနှင့် ပူးပေါင်း၍ ပုဂံမြို့ကို အေဒီ ၈၄၉-တွင် ရှေးဦးလက်မွန် တည်ခဲ့သည်ဟုယူဆဘွယ်ရာ ဖြစ်ပေသည်။

## အေဒီ ၉-ရာစုအလယ်ခန့် မြန်မာနိုင်ငံအခြေအနေ

ရှေးမြန်မာတို့ မြေပြန့်သို့ ဒုတိယအဆင့် ရွှေ့ပြောင်းလာချိန်။ တနည်းဆိုသော် ပုဂံကို မတည်မီ ၂၅-နှစ် အနှစ်၂၀-မျှသောကာလတွင် မြန်မာနိုင်ငံအခြေအနေသည် မည်သို့ရှိလေသနည်း။

တိုက်ရိုက် အထောက်အထားအချို့နှင့်သွယ်ဝိုက်သော အထောက်အထားတို့ကို အခြေပြု၍ ယင်းကာလမြန်မာနိုင်ငံ၏အခြေအနေမှာ ဤသို့ရှိတန်ကောင်း၏ဟု ယူရပေသည်။

---

တဖြည်းဖြည်းနှင့်ရောက်ခဲ့ကြပြီဖြစ်သည်ဟု ဆိုနိုင်သည်။ နန်စော၏မြန်မာနိုင်ငံတွင်း စစ်ဆင်မှုတို့တွင်လည်း ရှေးမြန်မာစစ်သည်တို့ ပါဝင်ခဲ့ကြမည်သာဖြစ်သည်။ မြန်မာနိုင်ငံတွင်း အခြေအနေတို့ကိုလည်း ရှေးမြန်မာတို့ အထိုက်အလျောက် သိကြပြီးဟုလည်း ဆိုနိုင်၏။

## ရှိနှင့်ပြီး တိုင်းရင်းသားများ
## မွန်ခမာအနွယ်ဝင်များ

မြန်မာနိုင်ငံတွင် မူရင်းလူများရှိခဲ့သည်။ ထိုလူတို့နေထိုင်ရာသို့ မွန်ခမာအနွယ်ဝင်များ ရောက်ရှိလာခဲ့သည်။ ခရစ်နှစ်များ အစလောက်အထိ မြန်မာနိုင်ငံတွင် ကြီးစိုးနေကြသူတို့မှာ ယင်းမွန်းခမာအနွယ်ဝင်များဟု ယူဆရသည်။

တရုတ်စာပေအထောက်အထား၊ ရှေးမြန်မာကျောက်စာအထောက်အထား၊ ရှေးဟောင်းသုတေသနပစ္စည်းအထောက်အထား၊ ခေါမ၊ အိန္ဒိယရှေးဟောင်းစာပေ အထောက်အထားများနှင့်ဘာသာဗေဒအထောက်အထားတို့ကို အမှီပြု၍ ဤယူဆချက်ကို ပြုလုပ်ရခြင်းဖြစ်သည်။

ပုဂံကျောက်စာတို့တွင် ယခုချောင်းဦးဒေသ၌ လဝများ ရွာနှင့်နေထိုင်ခဲ့ကြောင်း၊ ပလောင်များလည်း မြေပြန့်တွင် ရှိခဲ့ကြောင်း တွေ့ရသည်။ ရှမ်းပြည်တောင်ပိုင်းနှင့်အရှေ့ပိုင်းတွင် ရွှေသွား၊ ငွေသွား၊ ယွန်းသွားစသည့် လူမျိုးများ ရှိခဲ့သည်ဟု တရုတ်မှတ်တမ်းတို့တွင် ဖော်ပြထားသည်။ ယင်းလူမျိုးတို့မှာ မွန်ခမာအနွယ်ဝင်များ ဖြစ်ဟန်တူသည်။

## တိဗက်မြန်မာ အနွယ်ဝင်များ

ဤမွန်ခမာထုထည်အတွင်းသို့ ခရစ်နှစ်များ အစလောက်မှ စ၍ တိဗက်မြန်မာအနွယ်ဝင်များသည် မြောက်ဖက်မှ ဖောက်ထွင်းဝင်ရောက်ခဲ့ရာ နာဂတို့မှာ မြန်မာနိုင်ငံအနောက်မြောက်စွန်သို့ ရောက်ခဲ့ကြ၏။ သက်တို့သည် အနောက်ဖက် မဏိပူရနယ်မှ အရှေ့ဘက်ဧရာဝတီမြစ်အထိ ပြန့်နှံ့နေခဲ့၏။ သူတို့မြို့တော်မှာ သင်းတွဲပြည်ဟုခေါ်သော တကောင်းဖြစ်ခဲ့ဟန်တူသည်။ သက်တို့၏ဒေသကို ချင်းတို့က ဖောက်ထွင်းဝင်လာ၍ ချင်းတွင်းမြစ်ကြောင်းတလျှောက် ထိုနောက် အနောက်ဖက်တောင်များပေါ်တွင် ပြန့်နှံ့နေထိုင်လာကြ၏။

ပျူတို့သည် အရှေ့မြောက်ဆီမှ ဝင်လာခဲ့ကြ၍ ဗိဿနိုးနှင့်သရေခေတ္တရာနိုင်ငံတို့သည် တည်ထောင်နေခဲ့ကြသည်။ ကရင်တို့သည် သံလွင်မြစ်ကြောင်း

အတိုင်း အေးဆေးစွာ ဝင်လာခဲ့ကြသည်။ မွန်ခမာအနွယ်ဝင်တို့၏ဒေသကို ဖောက်ထွင်းဝင်လာခဲ့ကြရသည်။ ရှမ်းပြည်တောင်ပိုင်းသို့ရောက်သော် အနောက်ဖက်သို့ ဆက်လက်ရွှေ့ပြောင်း၍ ထိုဒေသရှိ မွန်ခမာတို့ကိုလည်း ကွဲသွားစေခဲ့ဟန် တူ၏။

ရှမ်းပြည်အနောက်တောင်ပိုင်း ယခုကယားနှင့်သံလွင်ခရိုင်တို့တွင် ခြေကုပ်ယူကာ စတည်းချနေထိုင်ခဲ့ကြ၏။ အခွင့်သာလာသောအခါ အနောက်ဖက်ရှိ စစ်တောင်းမြစ်ဝှမ်းသို့ ဆင်းကြသည်။ ထိုနောက် အနောက်ဖက်ဧရာဝတီမြစ်ဝှမ်းထိ ပြန့်နှံ့ခဲ့ကြဟန် တူသည်။

ကရင်တို့၏ရွှေ့ပြောင်းမှုကြောင့် စစ်တောင်းမြစ်ဝှမ်းရှိ မွန်ခမာအနွယ်ဝင်တို့သည် တောင်နှင့်မြောက် နှစ်ပိုင်းကွဲသွားခဲ့၏။ မြောက်ဖက်ရှိ မွန်ခမာတို့သည် အနွယ်တူများရှိရာ ရှမ်းကုန်းမြင့်နှင့်နီးရာ ကျောက်ဆည်ခရိုင်ဘက်တွင် စုရုံးနေခဲ့ကြဟန်တူ၏။

ရှေးမွန်အထောက်အထားများကို ကျောက်ဆည်ခရိုင် သာစည်မြို့နယ်နှင့်ရမည်းသင်းခရိုင်တို့တွင် တွေ့ခဲ့ရပြီးဖြစ်သည်။ မြောက်ဖက်ကျောက်ဆည်ခရိုင်တွင် ဤကဲ့သို့ အဆက်ပြတ်၍ ကျန်နေခဲ့သော မွန်ခမာအများစုမှာ ရှေးမွန်များ ဖြစ်ကြသည်။ ကျောက်စာလာ ခမ်လှုခရိုန်(ယခု ခံလူးရွာ)သို့မဟုတ် မုန်(မွန်)ခရိုန်သည် ကျောက်ဆည်ခရိုင် အနောက်မြောက်စွန်တွင်ရှိခဲ့ပေသည်။

## နန်စောတပ်များ ဝင်ရောက်တိုက်ဖျက်ပြီးနောက် သုဝဏ္ဏဘူမိနိုင်ငံ

အေဒီ ၈၃၀-နောက်ပိုင်းတွင် မြန်မာနိုင်ငံတွင်းသို့ နန်စောတပ်များဝင်ရောက် တိုက်ခိုက်ခဲ့ကြောင်းကို ဆိုခဲ့ပြီးဖြစ်သည်။ ယင်းတိုက်ခိုက်မှုကြောင့် ပျူနိုင်ငံ ပျက်ခဲ့ရသည်။ သုဝဏ္ဏဘူမိနိုင်ငံ၏ဆိပ်ကမ်းမြို့ကြီးတမြို့ပျက်ခဲ့ရဟန်တူသည်။ သုဝဏ္ဏဘူမိနိုင်ငံသည် ရှေးမွန်တို့၏နိုင်ငံဖြစ်သည်။

မုတ္တမကွေ့တဝိုက် စစ်တောင်းမြစ်နှင့်သံလွင်မြစ်စပ်ကြားမှာ အချက်အခြာဒေသဖြစ်သည်။ ဤနိုင်ငံ၏ဩဇာသည် အနောက်ဖက်ဧရာဝတီအထိ ပြန့်ခဲ့၏။ သံလွင်မြစ်၏အရှေ့ဘက်၊ အရှေ့တောင်ဘက်နှင့် တောင်ဘက်တို့

တွင် ရှေးမွန်တို့နေထိုင်ရာဒေသများရှိ၏။ အရှေ့တောင်ဘက် ယိုးဒယားနိုင်ငံတောင်ပိုင်းတွင် ပထမဒ္ဝါရဝတီနိုင်ငံ၊ ထိုနောက် လော်ဗူရီနိုင်ငံတို့ ပေါ်ပေါက်ခဲ့၏။*

ယိုးဒယားနိုင်ငံမြောက်ပိုင်း ယခုဇင်းမယ်မြို့အနီးတွင် လဖုန်းဟုအသိများသော လမ်ဖုန်းခေါ် ဟရိပုဉ္စနိုင်ငံလည်း ပေါ်ပေါက်ထွန်းကားခဲ့၏။

ယင်းနိုင်ငံတို့မှာ ရှေးမွန်တို့၏နိုင်ငံများ ဖြစ်သည်။ ထိုင်ရှမ်းအနွယ်ဝင် ယနေ့ ယိုးဒယားအမျိုးသားများ နိုင်ငံမတည်ထောင်နိုင်မီက ပေါ်ပေါက်ခဲ့သော မွန်ပဒေသရာဇ်နိုင်ငံများဖြစ်သည်။ နန်စောသည် ဟရိပုဉ္စနိုင်ငံကိုလည်း တိုက်ခိုက်ခဲ့သေးသည်။

သို့သော် ရှုံးပြီးပြန်ခဲ့ရသည်။ သုဝဏ္ဏဘူမိ ဆိပ်ကမ်းမြို့တမြို့ပျက်ခဲ့ရသည်မှန်သော်လည်း တိုက်ခိုက်ပြီးနောက် နန်စောတပ်များ ပြန်လည်ဆုတ်ခွာခဲ့သဖြင့် သုဝဏ္ဏဘူမိနိုင်ငံသည် အနွယ်တူတို့၏နိုင်ငံဖြစ်သော ဟရိပုဉ္စနိုင်ငံ၏အကူအညီနှင့်ပြန်လည်ထူထောင်မှုကို ပြုစုနိုင်ခဲ့ဟန် တူ၏။ လူမျိုးသစ်များဝင်ရောက်မှုလည်း မရှိခဲ့ချေ။

ထိုမှတပါး အစဉ်အလာ ကူးသန်းရောင်းဝယ်ခဲ့သော အိန္ဒိယတောင်ပိုင်းနှင့်ကုန်သွယ်မှုကလည်း သုဝဏ္ဏဘူမိ ပြန်လည်ထူထောင်ရေးကို တနည်းတဖုံ ကူညီခဲ့သည်ဟု ယူဆရသည်။

ဤအချိန်လောက်မှစ၍ သထုံမြို့သည် သုဝဏ္ဏဘူမိနိုင်ငံ၏အချက်အချာနိုင်ငံဖြစ်လာခဲ့သည်ဟု ယူဆရပေသည်။ ရာဇဝင်ကျမ်းများတွင် ဖော်ပြပါရှိ၍ အစဉ်အလာ သိမှတ်လာသော မနူဟာမင်းခေါ် မကုတမင်းလက်ထက်တွင် များစွာ အင်အားတောင့်တင်းလာခဲ့ပေသည်။ (အေဒီ ၁၁-ရာစုနှစ်များအစပိုင်း)။

## ပျူနိုင်ငံ

ပျူပဒေသရာဇ်နိုင်ငံအဖို့မှာ နန်စောတပ်တို့၏တိုက်ခိုက်မှုဒဏ်မှ ပြန်လည်နာလန်ထူထောင်နိုင်ခဲ့ခြင်း မရှိခဲ့ချေ။ နန်စောတပ်တို့သည် ရေခဲကြောင်း

*ပဲခူးအရှေ့ဘက် ယနေ့သော် ဥယျာဉ်တည်ရာရှိ ရှေးပဲခူးမြို့ဟောင်း(ဟံသာဝတီ)သည် တချိန်က မြို့တော်ဖြစ်ခဲ့သည်။

အထက်တွင် နေသူများဖြစ်ဖြင့် ဖွဲ့စည်းထားသောတပ်များဖြစ်၍ ပူပြင်းလှသော မြန်မာနိုင်ငံအလယ်ပိုင်းတွင် မနေလိုကြချေ။ သူတို့သည် အနာစိမ်းနှင့်ငှက်ဖျားရောဂါတို့ကို လွန်စွာ ကြောက်ရွံ့ကြသည်။

သို့ဖြစ်၍ ထိုတပ်တို့သည် လိုအပ်သော သံ့နှင့်ပစ္စည်းများကို ယူပြီးနောက် ပျူနိုင်ငံမှ ပြန်လည်ထွက်ခွာခဲ့ကြသည်။ ပျူနိုင်ငံလူ့အဖွဲ့အစည်းမှာ ဖရိုဖရဲဖြစ်၍ ကျန်ခဲ့ရသည်။ အုပ်ချုပ်မှုယန္တရားလည်း ပျက်စီးခဲ့ရသည်။

ဤအတွင်း တိဗက်မြန်မာအနွယ်ဝင် မျိုးတူတစုဖြစ်သော သက်တို့သည် ချင်းတွင်း၊ ဧရာဝတီမြစ်နှစ်သွယ်စပ်ကြားဒေသမှ မြန်မာနိုင်ငံအလယ်ပိုင်းအထိ ဆင်းသက်စိုးမိုးလာခဲ့ဟန် တူ၏။

နိုင်ငံတွင်း၌ အခြေအနေမတည်ငြိမ်ပဲ သူတလူ ငါတမင်း ပြုနေကြသော မင်းမဲ့ကာလ၊ အခါပျက်သည့်ကာလသည် ဆိုက်ခဲ့ဟန်တူ၏။ ပဒေသရာဇ်လူ့အဖွဲ့အစည်း ပျက်ပြားရာတွင် ဖြစ်ပေါ်တတ်သော ဆိုးရွားလှသည့် အခြေအနေမျိုးဟု ဆိုဘွယ်ရာရှိပေသည်။

မြန်မာနိုင်ငံအလယ်ပိုင်းတွင် မင်းမဲ့ကာလ၊ ကာလပျက်နှင့်ကြုံရ၍ အုပ်ချုပ်မှု၊ စုစည်းမှုကင်းနေသော သမိုင်းဟာကွက် ပေါ်ပေါက်နေချိန်တွင် ရှေးမြန်မာတို့သည် မြေလတ်ဒေသမှ ရွှေ့ပြောင်းဆင်းသက်လာ၍ ဤသမိုင်းဟာကွက်ကို ဖြည့်လိုက်ခြင်းပင် ဖြစ်ပေသည်။

ပျူနိုင်ငံ ပျက်ရသည်ကို အခွင့်အရေးယူကာ သုဝဏ္ဏဘူမိနိုင်ငံသည် အနောက်ဖက်သို့ အင်အားတိုးချဲ့လာမည်သာ ဖြစ်သည်။ အလားတူပင် ကရင်တိုင်းရင်းသားတို့သည် ယခု ကယားပြည်နယ် ဒေသလောက်ဆီမှ အနောက် ဧရာဝတီမြစ် ယခုမင်းဘူးခရိုင်လောက်အထိ ရွှေ့ပြောင်းနေထိုင်လာခဲ့ကြဟန် တူ၏။

## ဝေသာလီနှင့်ပဋိက္ကရား

မြန်မာနိုင်ငံအနောက်ဆုံးဆီသို့ ကြည့်လိုက်ပြန်သော် ရခိုင်တိုင်းမြောက်ပိုင်း ကုလားတန်နှင့်လေးမြို့မြစ်ဝှမ်းတွင် အိန္ဒိယမြောက်ပိုင်းသား အဆက်အနွယ်တို့၏ဝေသာလီနိုင်ငံသည် ကြီးပွားလျက် ရှိသည်။ နောက်ပိုင်းတွင် ဗုဒ္ဓသာသနာထွန်းကားခဲ့သော နိုင်ငံငယ်ဖြစ်သည်။

ဝေသာလီနိုင်ငံ၏အနောက်ဖက် ယခု အရှေ့ပါကစ္စတန်၏အနောက်စွန်တွင် ပဍ္ဍြကရားခေါ် ပတ္တိကေရနိုင်ငံရှိခဲ့၏။ ထိုစဉ်က ဤနိုင်ငံတွင်လည်း ဗုဒ္ဓသာသနာထွန်းကားလျက်ရှိ၏။ ဝေသာလီနိုင်ငံကဲ့သို့ပင် ယဉ်ကျေးမှုအဆင့်အတန်းမြင့်သော အိန္ဒိယနိုင်ငံငယ်တခု ဖြစ်၏။

## တနိုင်ငံလုံးကို ခြုံကြည့်သော်

တောင်ဘက် ပင်လယ်ကမ်းတလျှောက် ဧရာဝတီနှင့်စစ်တောင်းမြစ်ဝကျွန်းပေါ်တွင် ယဉ်ကျေးမှုတိုးတက်လျက် ရှိသော ရှေးမွန်များနှင့်အိန္ဒိယနိုင်ငံသား(ကလိန်၊ တလိင်)တို့က အင်အားကောင်းလျက်ရှိ၏။

မြန်မာနိုင်ငံအနောက်ဖက်တွင် ဝေသာလီနိုင်ငံနှင့်ပဍ္ဍြကရားနိုင်ငံတို့က အင်အားကောင်းလျက် ရှိ၏။ ခေတ်အလိုက် ယဉ်ကျေးမှုထွန်းကားခဲ့ရာ ပဒေသရာဇ်နိုင်ငံငယ်များ ဖြစ်သည်။

မြောက်ဖက်တွင် သက်တိုင်းရင်းသားတို့သည် သင်းတွဲနိုင်ငံနှင့်အင်အားကောင်း၍ ထုထယ်နှင့်ရှိ၏။

အရှေ့မြောက်ဖက်တွင် စစ်အင်အားကောင်းသော နန်စောနိုင်ငံရှိ၏။ ထိုနိုင်ငံသည် ဧရာဝတီမြစ်ဝှမ်းမြောက်ပိုင်းကို လွှမ်းမိုးခြယ်လှယ်ရန် ဗန်းမော်အနီးရှိ တောင်များပေါ်တွင် ခံတပ်များကို ဆောက်လုပ်၍ စစ်တပ်များချထားခဲ့သည်။ နန်စောတပ်တို့သည် အေးသောရာသီအတွင်း မြန်မာနိုင်ငံတွင်းသို့ ဝင်ရောက်တိုက်ခိုက်လိုက် တိုက်ခိုင်ဝင်သောအခြေအနေရှိခဲ့သည်။

သို့သော် ဟန္ဒိုင်တိုက်ပွဲပြီးသည့်နောက် တရုတ်တို့နိုင်ငံ၏မြို့တမြို့ဖြစ်သော ချင်တူကို သွားရောက်တိုက်ခဲ့၏။ ဤတိုက်ပွဲတွင် နန်စောတပ်များ အရေးနိမ့်ခဲ့ရ၏။ ထိုနောက်သော် နန်စောသည် စစ်အင်အားနိုင်ငံတခုအဆင့်တွင် မရှိတော့ပေ။

ဤသို့ပဒေသရာဇ်နိုင်ငံများ ကြီးစိုးနေသည့်ကာလတွင် အင်အားသစ်တခုအဖြစ် ရှေးမြန်မာတို့သည် မြန်မာနိုင်ငံအလယ်ပိုင်းသို့ ဝင်ခဲ့ကြခြင်းဖြစ်သည်။

သရေခေတ္တရာ ပျူနိုင်ငံအပျက်၊ မြန်မာသမိုင်းစဉ်တွင် သမိုင်းဟာကွက်ပေါ်နေချိန်၊ အေဒီ ၉-ရာစုနှစ်များ အလယ်လောက်တွင် ရှေးမြန်မာတို့

သည် ရှမ်းကုန်းပြင်မြင့်၏အနောက်စွန် မြေလတ်ဒေသမှ မြန်မာနိုင်ငံအလယ်ပိုင်းသို့ဆင်းသက်ရွှေ့ပြောင်း နေထိုင်လာခဲ့ကြောင်း ဆိုခဲ့ပြီးဖြစ်၏။

ဆင်းသက်ရာလမ်းများ

ရှေးမြန်မာတို့သည် ယခုရှာင်(ရေင်)ဒေသလောက်မှ အနောက်ဖက်ရှိ ကုန်းမြင့်တောင်တန်းတို့ကိုဖြတ်၍ နတ်ထိပ်တောင်ကြားလမ်းအတိုင်း ကျောက်ဆည်ခရိုင်အတွင်းသို့ ဝင်လာခဲ့ကြဟန်တူ၏။ ဤလမ်းမှ ပန်းလောင်မြစ်သည် ကျောက်ဆည်ခရိုင်အတွင်းသို့ ခရိုင်၏အရှေ့တောင်ထောင့်မှ စီးဝင်ရာလမ်းကြောင်းကို လိုက်သည်။

ဤတောင်ကြားလမ်း၏မြေပြန့်ဘက်အဝတွင် ကင်းတားဆည်ရှိ၏။ တောင်ကြားလမ်း၏ခုလတ်တွင် ခင်လယ်ကုန်းမြင့်ငယ်ရှိသည်။

မကျယ်ဝန်းလှသော်လည်း မြေသြဇာကောင်း၍ သီးနှံပင်များဖြစ်ထွန်းသည်။ လမ်းခရီးတွင် တထောက်နားရန် ကောင်းသော စခန်းတခုဖြစ်၏။ ယင်းလမ်းအတိုင်း လားဝန်တင်များဖြင့် တိုင်းရင်းသားတို့ ယနေ့တိုင် ကူးသန်းရောင်းဝယ်လျက်ရှိသည်။

မြေပြန့်သို့ဆင်းရာတွင် ရှေးမြန်မာတို့ အသုံးပြုခဲ့သည်ဟု ယူဆရသော အခြားတလမ်းမှာ ယခု'မြို့ကြီး'မှ အနောက်ဖက်'သံရွာ'ဆီသို့သွားသော သဘာဝလမ်းဖြစ်သည်။

ယင်းလမ်းမှ ဇော်ဂျီမြစ်သည် ကျောက်ဆည်ခရိုင်အတွင်းသို့ အရှေ့ဘက်မှ စီးဝင်ရာလမ်းကြောင်းကို လိုက်သည်။ ယခုအခါတွင် လူတို့ပြုပြင်၍ ဤလမ်းအတိုင်း မြေပြန့်နှင့်ဆက်ကာ မော်တော်ကားလမ်း ဖောက်ထားပြီးဖြစ်၏။

ခင်လယ်ကုန်းမြင့်နှင့်သံရွာတို့၏ရာသီဥတုမှာ ရှမ်းကုန်းပြင်မြင့်၏ရာသီဥတုနှင့်ကွာခြားခြင်း မရှိလှချေ။ သမမျှတသော ရာသီဥတုတွင်နေခဲ့ကြသော ရှေးမြန်မာတို့ ကွန်းခိုရန် စခန်းကောင်းများဖြစ်ကြသည်။

## ဆင်းသက်ရွှေ့ပြောင်းပုံ

ရှေးမြန်မာတို့ ဆင်းသက်ရွှေပြောင်းလာပုံမှာ သာမန်ရွှေ့ပြောင်းနည်း မျိုးမဟုတ်ဟု ထင်သည်။ မြင်းတပ်တို့ကို အသုံးပြုကာ အင်နှင့်အားနှင့်အဟုန် နှင့်စစ်ဆင်မှုတရပ်ကို ဆောင်ရွက်သည့်နှယ် စီးပွားရေးနှင့်စစ်ရေးတို့တွင် အ ချက်အချာကျသော ဒေသများကို လျင်မြန်စွာ သိမ်းပိုက်ယူသည့် ရွှေ့ပြောင်း ပုံမျိုးဖြစ်သည်ဟု ထင်သည်။

## မြေပြန့်ပထမခြေကုပ်စခန်း

ကျောက်ဆည်ခရိုင် အရှေ့ပိုင်းသည် ရှမ်းကုန်းပြင်၏အခြေတွင် တောင်ရိပ်ကို ခိုနေသည်။ တောင်ပေါ်မှ လတ်တလော ဆင်းလာသူတို့အဖို့ မြေအနေအထား ရာသီဥတုပါ အခြားဒေသများထက် ပိုမိုသင့်လျော်သော ဒေသဖြစ်၏။

ထို့ပြင် ဤဒေသသို့ ရောက်နှင့်ပြီးဖြစ်သော ပလောင်၊ ဝအစု၊ မွန် အစု၊ သက်အစုဝင် တိုင်းရင်းသားတို့သည် ဇော်ဂျီ ပန်းလောင်စသည့်မြစ်တို့ ကို ဆည်၍ တူးမြောင်းတို့ဖြင့် ရေသွယ်စိုက်ပျိုးနေပြီဖြစ်သဖြင့် စားရေရိက္ခာ ပေါသည်။

လူအမြောက်အမြားကို ထောက်ပံ့ကျွေးမွေးထားနိုင်သော ဒေသဖြစ် သည်။ အခြားဒေသများထက် မျှတသော ရာသီဥတုလည်း ရှိသည်။ ပုဂံ ကျောက်စာတို့တွင် ဤဒေသကို မလစ်သာ ၁၁-ခရိုင်ဟုခေါ်သည်။

သို့ဖြစ်၍ တောင်ပေါ်မှ ဆင်းလာလျှင် ဆင်းလာချင်း ခြေကုပ်ယူ ရန် အကောင်းဆုံးသော စခန်းအဖြစ် ရှေးမြန်မာတို့ ဤကျောက်ဆည်ဒေသ ကို ရှေးဦးလက်မွန် သိမ်းပိုက်နေထိုင်ခဲ့သည်ဟု ယူဆရခြင်းဖြစ်သည်။

ဤခရိုင်တွင် ရှေးမြန်မာတို့ ထားရစ်ခဲ့သော ရှေးဟောင်းအထောက် အထားများနှင့်ပုဂံခေတ်ကျောက်စာများတွင် တွေ့ရသော ဤခရိုင်အတွင်းရှိ ရှေးဟောင်းနေရာဒေသအမည်များက ဤယူဆချက်ကို ထောက်ခံနေပေသည်။

## စစ်ရေးအတွက် နေရာကောင်း

ဤဒေသသည် အဓိကလမ်းမကြီးဖြစ်သော ဧရာဝတီမြစ်နှင့်လည်း အလှမ်းကွာ၏။ ချောင်လည်းကျသည်။ သို့ဖြစ်၍ ရှေးမြန်မာတို့ ဝင်ရောက်လာမှုကို နှောင့်ရှက်ရန် ဟန့်တားရန် မလွယ်ကူချေ။

စစ်ရေးအမြင်အရ ထိုခေတ်က ဤဒေသည် လုံခြုံသည်။ အနှောင့်အရှက်မရှိပဲ ခြေကုပ်ယူမှုကို ပြုလုပ်နိုင်သည်။ အင်အားဖြည့်တင်းမှုကို စိတ်ချက်လက်ချ လုပ်နိုင်သည်။ လူအင်အား ရိက္ခာအင်အားဖြည့်တင်းရန်လည်း လွယ်ကူသောဒေသ ဖြစ်သည်။

## အဓိကလမ်းမကြီးနှင့် ၆ ခရိုန်

ကျောက်ဆည်ဒေသကို သိမ်းပိုက်မိရုံနှင့် ရှေးမြန်မာတို့၏စစ်ဆင်ရွှေ့ပြောင်းနေထိုင်မှုသည် ပြီးပြည့်စုံခဲ့သည်။ စခန်းသိမ်းခဲ့သည် မဟုတ်ချေ။ ခြေကုပ်ကောင်းနှင့်ကျောထောက်နောက်ခံကောင်းတို့ကို ရရှိ၍ စနစ်တကျအသုံးချပြီးနောက် ရှေးမြန်မာတို့သည် အနောက်ဆီသို့ အလုံးအရင်းနှင့်ဆက်လက်ရွှေ့ပြောင်းချီတက်ကာ အဓိကသဘာဝခရီးလမ်းကြီးဖြစ်သော ဧရာဝတီမြစ်ကြောင်းကို အုပ်စီးထိန်းကိုင်ခဲ့ဟန် တူ၏။

သူတို့သည် ပုပ္ပားတောင်၊ ငွေးချိုတောင်နှင့်တုရင်တောင်တို့သို့ တထောက်ပြီးတထောက် ကူးလာပြီးနောက် ဧရာဝတီသို့ရောက်ခဲ့ဟန်တူ၏။ တုရင်တောင်ဝန်းကျင် ပုဂံဒေသတွင် ရှိနှင့်ပြီးဖြစ်သူတို့၏အခုအခံ့ှင့်အဟန့်အတားကို ခံခဲ့ကြရဟန်လည်း တူသည်။

ထို့နောက်သော် အနောက်ရိုးမတောင်ခြေတွင် တောင်ရိပ်ခို၍ စလင်း၊ မုန်း၊ မန်းချောင်းတို့ဖြင့် စိမ်းလန်းစိုပြေနေသော ယခုမင်းဘူးခရိုင်ဒေသသို့ ဆက်လက်ရွှေ့ပြောင်းပိုက်ခဲ့ကြဟန်တူ၏။

ဤဒေသတွင်လည်း ရောက်နှင့်ပြီးဖြစ်သော တိုင်းရင်းသားတို့သည် အဆိုပါချောင်းများကို ဆည်ကာ တူးမြောင်းများဖြင့် ရေသွယ်စိုက်ပျိုးလျက် ရှိကြပြီးဖြစ်သည်။ ပုဂံခေတ်ကျောက်စာတို့တွင် ဤဒေသကို ခြောက်ခရိုန်ဟုခေါ်သည်။ ဤဒေသတွင်လည်း ပုဂံခေတ်ဦးပိုင်းမှ ပစ္စည်းအထောက်အထား

များကို တွေ့ရှိခဲ့ပြီးဖြစ်၏။

## ရှေ့တန်းဌာနချုပ် ပုဂံ

ရှေးမြန်မာတို့သည် ရှေးဦးလက်မွန် အခြေစိုက်နေထိုင်မိကြသော မင်းဘူးခြောက်ခရိုင်ဒေသနှင့်ကျောက်ဆည် ၁၁ ခရိုင်ဒေသတို့မှာ သွေ့ခြောက်လှသော မြန်မာနိုင်ငံအလယ်ပိုင်း မိုးနည်းရေရှားဒေသ၌ စိမ်းလန်းစိုပြေသော ဥယျာဉ်များသဖွယ် ရှိခဲ့သည်။ နိုင်ငံထူထောင်ရေးပျိုးခင်းများဟု ဆိုနိုင်သည်။

စားရေရိက္ခာအထွက်များ၍ လူနေများသော အချက်အချာဒေသများဖြစ်ခဲ့၏။ ဤအချက်အချာဒေသတို့ကို ချုပ်ကိုင်ကွပ်ကဲနိုင်ရန် ပုဂံကို တည်ခဲ့ခြင်းဖြစ်သည်။ ပုဂံတည်ရာဒေသသည် ပူပြင်းခြောက်သွေ့လှ၏။

သို့သော် ဤဒေသသည် မင်းဘူး၏မြောက်ဘက်ယွန်း မိုင် ၆၀-ခန့်အကွာ၊ ကျောက်ဆည်၏အနောက်တောင် မိုင် ၈၀-ခန့်အကွာတွင်ရှိ၍ ပျိုးခင်းဒေသနှစ်ခုလုံးကို လက်လှမ်းမီရာဒေသဖြစ်၏။ အဓိကလမ်းမကြီးဖြစ်သော ဧရာဝတီကမ်းပေါ်တွင် တည်နေသဖြင့် အကြေအညာသို့ လွယ်ကူစွာ သွားနိုင်သည်။

မြစ်ကမ်းဆိုရာတွင်လည်း မြစ်သည် အရှေ့မှ အနောက်သို့စီးလာပြီး တောင်ဘက်သို့ ချိုးဆင်းသွားသော မြစ်ကွေ့ပေါ် အရှေ့ဘက်ကမ်းတွင်ရှိသဖြင့် စစ်ရေးအတွက် အချက်ကျသောနေရာလည်း ဖြစ်သွားသည်။

ပုဂံသည် ဧရာဝတီနှင့်ချင်းတွင်းမြစ်တို့ဆုံရာ အောက်ဖက် မဝေးကွာလှသောနေရာတွင် ရှိ၏။ မြို့၏တောင်ဘက် မဝေးကွာလှသောနေရာတွင် ယောချောင်းသည် ဧရာဝတီမြစ်အတွင်းသို့ အနောက်မြောက်ဆီမှ စီးဝင်လာသည်။ တောင်ဘက်မြစ်တကွေ့တွင် စလေမြို့ရှိသည်။ စလေမြို့တည်နေပုံမှာလည်း ပုဂံနှင့်ခပ်ဆင်ဆင်ပင်ဖြစ်သည်။ ပုဂံ၏အရေးကြီးသော တောင်ဘက်စခန်းမြို့ဖြစ်သည်။ ဤမြို့သည် အနောက်ဘက်ကမ်း ၆ ခရိုင်ဒေသသို့သွားရာလမ်းကို ချုပ်ကိုင်ထားသကဲ့သို့ရှိ၏။

ဤသို့ဖြင့် ပုဂံမှသည် မြောက်ဖက်ဧရာဝတီနှင့်မူးမြစ်ကြောင်းများအလိုက်၊ အနောက်မြောက်ဘက် ချင်းတွင်းနှင့်ယောချောင်းတို့အလိုက်၊ တောင်

ဘက် ဧရာဝတီ၊ ယင်းမှတဆင့် အနောက်ဖက်စလင်း၊ မုန်း၊ မန်းချောင်းများ အလိုက် ရှေးမြန်မာတို့ ဆက်လက်ရွှေ့ပြောင်းရန် ရှေ့တန်းအခြေခံစခန်းကြီး ဖြစ်ခဲ့ပေသည်။

## ရှေ့သို့ဆက်လက်ရွှေ့ပြောင်းခြင်း

ရှေးမြန်မာတို့သည် ပုဂံကို အေဒီ ၈၅၀-ခန့်တွင် တည်ခဲ့သည်ဟုယူဆနိုင်ကြောင်း ဆိုခဲ့ပြီးဖြစ်သည်။ ထိုမြို့ကို အခြေစိုက်ဗဟိုပြုပြီးနောက် ဆိုခဲ့သည့်ဧရာဝတီ၊ မူး၊ ချင်းတွင်း၊ ယော၊ စလင်း၊ မုန်း၊ မန်းချောင်းများကိုလိုက်၍ ဆက်လက်ရွှေ့ပြောင်းနေထိုင်ခဲ့ကြသည်။ ဤသို့ဖြင့် ယနေ့ယောသားများ၊ ရခိုင်းတိုင်းရှိ ချောင်းသားနှင့်ရမ်းပြဲ၊ စစ်တွေ ရခိုင်အမျိုးသားတို့သည် အနောက်ဖက်သို့ မြန်မာအစုဝင်များ ရွှေ့ပြောင်းရာတွင် ရှေ့ဦးချို တပ်ဦးတပ်များအဖြစ် ယခုနေထိုင်ရာဒေသအသီးသီးသို့ ရောက်သွားခဲ့ကြခြင်း ဖြစ်ပေသည်။ မြောက်ဘက်သို့ ရွှေ့ပြောင်းသူတို့မှာ ထုထည်နှင့်ရှိခဲ့သော သက်အစုဝင်တို့ကို မထိုးဖောက်နိုင်၍ ခရီးများစွာ မပေါက်နိုင်ခဲ့ချေ။ တောင်ဘက်သို့ ရွှေ့ပြောင်းသူတို့လည်း သရေခေတ္တရာတဝိုက်ရှိ ပျူများနှင့်စစ်တောင်းမြစ်ဝှမ်းအောက်ပိုင်းရှိ ရှေးမွန်များကို ဤကာလတွင် မထိုးဖောက်နိုင်သေးချေ။

## လူနေမှုအဖွဲ့အစည်းများ

ရှေးမြန်မာတို့သည် နေရာသစ်များသို့ ပြောင်းရွှေ့နေထိုင်ကြရာတွင် အချို့နေရာသစ်များကို အလွယ်တကူ သိမ်းပိုက်ရယူခြင်း ရှိခဲ့သလို အချို့နေရာများတွင် ခုခံဟန့်တားမှု အင်အားကြီးသဖြင့် ခက်ခက်ခဲခဲ တိုက်ခိုက်သိမ်းပိုက်ရသည်လည်း ရှိခဲ့ပေမည်။ ပုဂံဒေသတဝိုက်တွင် သက်အစုဝင်တို့၏ခုခံမှုကို အောင်နိုင်ခဲ့ဟန်တူ၏။ ဆိုင်သော တုရင်တောင်၏တောင်ဘက်ရှိတောင်ရိုးမှာ သက်စိုးတောင်ဟု တွင်သည်။ မဟာသက်ထိတ်အမည်ရှိသော အမတ်ကြီးတဦး၏အမည်ကိုလည်း ပုဂံခေတ်ကျောက်စာတွင် တွေ့ရသည်။ ရာဇဝင်ကျမ်းများတွင် ကျန်စစ်သားမင်းနှင့်ဆုတောင်းဘက်အဖြစ် သက်မင်းကတုံအကြောင်းကို ဖော်ပြထားသည်။

နေရာသစ်များတွင် အခြေစိုက်နေထိုင်လာကြသောအခါတွင် ရှေး

မြန်မာတို့သည် နန်စောနိုင်ငံတွင် နေခဲ့ကြသကဲ့သို့ ကိုယ့်အုပ်စု ကိုယ့်အကြီးအကဲနှင့်လွတ်လပ်စွာ နေခဲ့ကြဟန်တူ၏။ အကြီးအကဲကိုလည်း နန်စောမှာ နေခဲ့စဉ်က အစဉ်အလာအတိုင်းပင် မင်းဟု ခေါ်သည်။

ကျောက်စာအထောက်အထားအရ အခိုင်အမာသိရသော အုပ်စု နှစ်စုရှိသည်။ ယင်းတို့မှာ တောင်တွင် မင်အုပ်စုနှင့်ထိလိုင်မင်အုပ်စုတို့ဖြစ်သည်။ တောင်တွင်မှာ ယခုတောင်တွင်းကြီးပင်ဖြစ်သည်။ ထိလိုင်မှာ ယခုထီးလှိုင်ဖြစ်သည်။ သို့သော် ထီးလှိုင်အများရှိနေသည်။ ကျောက်စာလာ ထိလိုင်မှာ ကျောက်ဆည်ခရိုင်နှင့်အစပ် မိတ္ထီလာခရိုင် ဝမ်းတွင်းမြို့နယ်အတွင်း ရှိ ထီးလှိုင်ဟု ယူဆရန်ရှိ၏။ *

မြန်မာအုပ်စုဝင် အများစုတို့ အခက်အခဲများနှင့်ရင်ဆိုင်လာရသော အခါ ဤလူ့အဖွဲ့အစည်းအုပ်စုတို့ စုပေါင်းကာ အခက်အခဲများကို ဖြေရှင်းခဲဟန်တူ၏။

အေးချမ်းသောအခါများတွင် မိမိတို့၏လူ့အဖွဲ့အစည်းဖြစ်သော အုပ်စုအလိုက် လွတ်လပ်စွာ နေထိုင်ခဲ့ကြသည်။ မိမိတို့၏လူနေမှုဘဝကို မိမိတို့ဘာသာ စီမံခန့်ခွဲဖန်တီးခဲ့ကြသည်။

သူတို့၏လူနေမှုစနစ်မှာ တသီးတခြားစီ အုပ်စုလိုက်နေသော မကျယ်ပြန့်လှသည့် ပဒေသရာဇ်စနစ်ဟု မှတ်ယူနိုင်၏။ သို့သော် ပျဉ်သုဉ်းခဲ့ပြီးဖြစ်သော ပျူပဒေသရာဇ်စနစ် လက်ငုပ်လက်ရင်း အကြွင်းအကျန်၏အရှိန်အဝါကို ရခဲ့သည်။

နန်စောတွင် နေစဉ်ကထက် ပိုမိုဖွံ့ဖြိုးခဲ့သည့် ပဒေသရာဇ်စနစ်ဖြစ်လာပြီဟုယူဆနိုင်၏။ ပထမမြန်မာနိုင်ငံကို မတည်ထောင်မီကာလအတွင်းက ဤရှေးမြန်မာတို့၏လူနေမှုစနစ်နှင့်လူမှုစီးပွားရေးစနစ်ကို ပျူပဒေသရာဇ်စနစ်ကဲ့သို့ပင် ပဒေသရာဇ်ခေတ်ဦး ကာလစနစ်မျိုးဟု သတ်မှတ်နိုင်ဘွယ်ရာ ရှိ၏။

ခရိုန်၊ တိုက်၊ နိုင်ငံ×

ဤလူ့အဖွဲ့အစည်းတို့ကို တည်ရာဒေသနှင့်သမိုင်းစဉ် တိုးတက်မှုကို

*ရာဇဝင်ကျမ်းတို့တွင် ကျန်စစ်သားမင်းသည် ထီးလှိုင်ရှင်ဟုလည်းတွင်သည်။ ဤထီးလှိုင်အုပ်စု၏ခေါင်းဆောင်ဖြစ်ခဲ့ဟန် တူ၏။ ကျန်စစ်သားမင်းကြီး၏ ကျောက်စာပါဘွဲ့တခုမှာ 'ထိလိုင်မင်'ဖြစ်သည်။

လိုက်၍ ကျောက်စာများတွင် သုံးမျိုးသုံးစား ခွဲခြားဖော်ပြထားသည်ကို တွေ့ရ၏။

ရှေးမြန်မာတို့ မြေပြန့်တွင် ရှေးဦးလက်မွန် အခြေစိုက်နေထိုင်၍ နေထိုင်သူတို့တွင် ရှေးမြန်မာတို့က လူများဖြစ်သော ဒေသများကို ခရိုင်ဒေသများဟု ခေါ်သည်။

ဆိုခဲ့ပြီးသည့်အတိုင်း မြစ်သာခရိုင်ဒေသ မင်းဘူး ၆ခရိုင်ဒေသတို့အပြင် ယခုမန္တလေး၏မြောက်ဖက် ဧရာဝတီမြစ်၏အရှေ့ဘက် တောင်ပလုန် (တောင်ပြုန်း)ခရိုင်ဒေသတို့ ရှိခဲ့သည်။

ယခုကျောက်ဆည်ခရိုင်အတွင်းရှိ ၁၁ခရိုင်ဒေသသည် နောင်ခေတ်များတွင် လယ်ကွင်း ၉ခရိုင်ဒေသဟု အခိုင်အမာတွင်လာသည်။

မူလက ၁၁ခရိုင်ရှိခဲ့၏။ အမည်နှင့်အတိအကျ ပေးထားသည်။ မင်းဘူး ၆ခရိုင်မှာ ကျောက်စာတို့တွင် 'မပင်စရလယ်ကိုင်'ဟုတွင်သည်။ ၆-ခရိုင်ပြည့်အောင် ရေတွက်၍ မရသေးချေ။ တောင်ပြုန်ခရိုင်သည် အခြားခရိုင်တို့ကဲ့သို့ပင် ဆန်ရေစပါး အထွက်ကောင်းသော ဒေသဖြစ်ခဲ့၏။

မြောက်ဖက်ဆီမှ ရွှေ့ပြောင်းလာမည့် သက်အစုဝင်တို့ကဲ့သို့သော မျိုးတူစုသစ်များကို ဟန့်တားခုခံနိုင်ရန် တောင်ပြုန်ခရိုင်ကို မြောက်ဖက်စွန်ကာကွယ်ရေးစခန်းအဖြစ် တည်ထောင်ခဲ့ဟန်တူသည်။

ခရိုင်ဒေသများကို လွန်၍ ပြန့်နှံ့နေထိုင်လာကြစဉ် နေရာသစ်တို့၌ရှိရင်းတိုင်းရင်းသားတို့နှင့်ပူးပေါင်းကာ နယ်သစ်ပယ်သစ်များကို တည်ထောင်ခဲ့ကြ၏။ ယင်းကဲ့သို့သော နယ်သစ်ပယ်သစ်တို့မှာ တိုက်များဖြစ်သည်။

တိုက်ဒေသများတွင် ရှေးမြန်မာတို့သည် လူများစု မဟုတ်ကြချေ။ တိုက်ဒေသတို့ကိုလွန်၍ ငြိမ်းချမ်းစွာ သိမ်းသွင်းအောင်နိုင်ခဲ့သော ဒေသမျိုးကို နိုင်ငံဟုခေါ်ကြောင်း သိရ၏။ နိုင်ငံဒေသတို့တွင် ရှေးမြန်မာတို့မှာ အုပ်ချုပ်သူလူနည်းစုသာ ဖြစ်ဟန်တူသည်။

---

×ယခုခေတ်သုံးဝေါဟာရတို့၏အဓိပ္ပါယ်သက်ရောက်မှု မရှိပါ။ ထိုစဉ်က ခရိုနသည် ယခုခရိုင်ဝေါဟာရ၏အဓိပ္ပါယ် မသက်ရောက်ချေ။ အလားတူပင် 'တိုက်' နှင့်'နိုင်ငံ'တို့၏ရှေးအဓိပ္ပာယ်သက်ရောက်မှုသည် ယခုနှင့်မတူ၊ ကွဲပြားသည်။ အဓိပ္ပါယ်များစွာ ရွေ့လာခဲ့ပြီဖြစ်၏။

အပိုင်း(၆)

# တမ္ဗဒီပနိုင်ငံ တည်ထောင်ခြင်း

## အခြေခံစတင်ခဲ့ရာကာလ

ခရိုန်ဒေသတို့မှာ ဤကာလသမိုင်းစဉ်အတွက် လွန်စွာအရေးပါလှသော ဒေသများဖြစ်ကြ၏။ ယခုလေ့လာနေသော သမိုင်းစဉ်၏ကာလကို ဆန်းစစ်သော် ဤကာလသည် မြန်မာနိုင်ငံအလယ်ပိုင်းတွင် ရှိရင်းတိုင်းရင်းသားဖြစ်သော မွန်အစု၊ ပလောင်နှင့်ဝအစု၊ သက်အစု ကရင်အစုဝင်တို့နှင့်အသစ်ဝင်ရောက်လာသော မြန်မာအစုဝင်တိုင်းရင်းသားတို့ စုပေါင်းရောနှောမိသော ကာလ၊ ဤတိုင်းရင်းသားတို့၏စည်းရုံးမှုပေါ်တွင် အခြေတည်ကာ အမျိုးသားအစုအစည်းသစ်ကြီးတခု တည်ဆောက်ရေးအတွက် အခွင့်အလမ်းများပေါ်ပေါက်ပေါက်လာသော ကာလဖြစ်၏။

## ပျိုးခင်းဒေသများ

ရှေးမြန်မာတို့သည် မြင်းကိုမွေးမြူသည်။ နိုင်နင်းစွာလည်း သုံးတတ်သည်။ စစ်ရေးတွင် မြင်းကို အသုံးပြု၍ လျင်မြန်သောစစ်ထိုးနည်းဗျူဟာသစ်ကို ထွင်ခဲ့သူများ ဖြစ်သည်။

တောင်ပေါ်မှ ဆင်းလာသူဖြစ်၍ နေရာသစ်တွင် စိတ်ဓာတ်တက်ကြွနေသူများဖြစ်သည်။ အားသစ်၊ သွေးသစ်၊ စိတ်ဓာတ်သစ်များနှင့်လန်းဆန်းထက်မြက် ကြံ့ခိုင်သူများလည်း ဖြစ်သည်။ စစ်မှုအတွေ့အကြုံရှိခဲ့သော ဤရှေးမြန်မာတို့သည် စီးပွားရေးအတွက်သာမက စစ်ရေးအတွက်ပါ အရေးကြီး၍ အချက်အချာကျသော ကျောက်ဆည် ၁၁ခရိုင်ဒေသနှင့်မင်းဘူး ၆ခရိုင်ဒေသတို့ကို ကြီးစိုးလာနိုင်သောအခါ သူတို့သည် အမျိုးသားအစုအစည်းသစ်ကြီးတရပ်ပေါ်ပေါက်ရေး တနည်းဆိုသော် နိုင်ငံသစ်တခု ပေါ်ပေါက်ရေးလုပ်ငန်းတွင် အရေးပါ၍ ထိရောက်သော ဦးစီးခေါင်းဆောင်မှုကို ပေးနိုင်သောအခြေအနေများကို ရရှိနေကြပြီးဖြစ်သည်။

ယင်းအခြေအနေများမှ အကောင်အထည်ဖော်ယူနိုင်ရေးသည် ထိုဒေသ ထိုခေတ်အတွက် စီးပွားရေးသော့ချက်ဖြစ်သည့် စိုက်ပျိုးရေးထွန်းကားရာ ကျောက်ဆည်နှင့်မင်းဘူးခရိုင်ဒေသတို့၏ကုန်ထုတ်စွမ်းအား တိုးတက်မှုပေါ်တွင် များစွာ တည်ခဲ့လေသည်။

ဤဒေသတို့မှာ တိုင်းရင်းသားစည်းရုံးမှု၊ စည်းရုံးမိသော တိုင်းရင်းသားတို့၏တိုးတက်ဖွံ့ဖြိုးမှုတို့အတွက် ကျောထောက်နောက်ခံဒေသများဖြစ်ခဲ့၏။ တနည်းဆိုသော် အမျိုးသားအစုအစည်းသစ်ကြီးတရပ်၊ သို့မဟုတ် နိုင်ငံသစ်တနိုင်ငံ ပေါ်ထွန်းလာရေးအတွက် ပြုစုပျိုးထောင်ပေးရာ ပျိုးခင်းဒေသများပင်ဖြစ်ပေသည်။

နိုင်ငံသစ်တခု ပေါ်ပေါက်ရေးတွင် စီးပွားရေး စစ်ရေး အောင်မြင်မှုအလားအလာတို့ ပြည့်စုံလုံလောက်ရုံနှင့်ဖြစ်နိုင်သည် မဟုတ်ချေ။ ယဉ်ကျေးမှု၊ လူမှုရေးနှင့်ကောင်းမွန်တည်တံ့သော အမျိုးသားစရိုက်၊ လျောက်ပတ်သောအမျိုးသားခံယူချက်နှင့်စိတ်ဓာတ်တို့ပါ တိုးတက်ဖွံ့ဖြိုးရန်လည်း လိုအပ်ပေသည်။

## တိုင်းရင်းသား ယဉ်ကျေးမှု ရောနှောမိခြင်းနှင့် ပျိုးထောင်မှုများ စာရေးသားမှုအတတ်နှင့်စာပေပျိုးထောင်မှု

ရှေးမြန်မာတို့ ဝင်ရောက်လာချိန်တွင် ကျောက်ဆည်ခရိုင်၌ ရှေးမွန်များရှိနေခဲ့ကြောင်းကို ဆိုခဲ့ပြီးဖြစ်သည်။ ရှေးမွန်တို့မှာ ထိုခေတ်က အထက်တန်းကျသော ယဉ်ကျေးမှုရှိနေသူများ ဖြစ်ကြသည်။

ရှေးမြန်မာတို့သည် ဤ ၁၁-ခရိုင်ဒေသတွင် ရှေးမွန်တို့နှင့်ဦးစွာတွေ့ဆုံဆက်ဆံခဲ့ကြ၏။ တိုင်းရင်းသားချင်း ဆက်ဆံမိတိုင်း ယဉ်ကျေးမှုဖလှယ်မိမြဲဖြစ်သည်။ ရှေးမြန်မာတို့သည် ဤကျောက်ဆည်ရှေးမွန်တို့ထံမှ အခြေခံကျ၍ အရေးကြီးသော ယဉ်ကျေးမှုအချက်အလက်တို့ကို ရခဲ့၏။ အထူးသဖြင့် မိမိတို့တွင် မရှိသေးသော စာရေးသားမှုအတတ်၊ အက္ခရာ(ဗျည်းနှင့်သရများ) ဝေါဟာရတို့ကို ရှေးမွန်တို့ထံမှ တတ်သိခဲ့ကြ၏။ ထိုစဉ်က သုံးစွဲနေသောရှေးမွန်စကားနှင့်စာပေတို့ကိုလည်း အသင့်ရရှိနိုင်သည်တိုင် လက်ခံသင်ယူခဲ့ဟန်တူ၏။

ပျူတို့သည် မြန်မာတို့နှင့်ဘာသာစကားအနွယ်တူကြသည်။ ဝေါဟာရမှစ၍ ပြောဆိုသော စကားတို့သည် များစွာလှမ်းကွာခဲ့ဟန် မတူချေ။ ပျူတို့၌လည်း အက္ခရာဘာသာစကား ရှိသည်သာ ဖြစ်သည်။၏

ဘာသာစကား အနွယ်တူပါလျက် ယင်းတို့ကို ရှေးမြန်မာတို့သည် ပျူတို့ထံမှ အဘယ်ကြောင့် မယူခဲ့ဟု ယူဆရသနည်း။ ရှေးမြန်မာတို့သည် ရှေးမွန်တို့နှင့်ဦးစွာ တွေ့ဆုံမိတ်ဆက်ကြသည်။ ပျူတို့နှင့်နောက်မှ တွေ့ရသည်။ ပျူတို့၏အချက်အချာဒေသမှာ ဧရာဝတီမြစ်ဝှမ်းဖြစ်ကြောင်း ဆိုခဲ့ပြီးဖြစ်သည်။

ထို့ပြင် ပျူအက္ခရာတို့မှာ ရေးကူးမှတ်သားရန် မလွယ်ကူလှ။ အကွေ့အကောက် အကော့အညွတ်များလှသည်။ အသံ(၈)သံအတွက် သင်္ကေတများလည်း ရှိနေသေးသည်။

ရှေးမွန်အက္ခရာတို့၏ပုံမှာ ရှင်းလင်း၍ မှတ်သားရန် လွယ်ကူသည်။ သို့ဖြစ်၍ စာရေးသားမှုအတတ်ကို ရှေးမွန်တို့ထံမှ ရယူခြင်းဖြစ်သည်ဟု ယူဆရခြင်းဖြစ်၏။

ရှေးမြန်မာအက္ခရာတို့ကလည်း ယင်းယူဆချက်ကို ထောက်ခံနေ

သည်။ ယူဆသည်ဆိုရာ၌လည်း အားလုံးကို ယူဆသည်မဟုတ်။ မိမိတို့ဘာသာစကား၏အသံများအတွက် လိုသောဗျည်းနှင့်သရတို့ကိုသာ ယူခြင်းဖြစ်သည်။

ရှေးမွန်စကားနှင့်စာပေတို့ကို လက်ခံယူခဲ့သဖြင့် ပုဂံခေတ်ရေးရှေးမြန်မာစာတွင် ရှေးမွန်ဝေါဟာရနှင့်အသုံးအနှုန်းများ ပါဝင်နေသည်ကို တွေ့ရသည်။

မိမိတို့ဘာသာစကားတွင် မရှိသေးသော ဘာသာရေးဆိုင်ရာ၊ အုပ်ချုပ်ရေးဆိုင်ရာ၊ စီးပွားရေးဆိုင်ရာ၊ ယဉ်ကျေးမှုဆိုင်ရာ လူမှုရေးဆိုင်ရာဝေါဟာရများဖြစ်သည်။

ရှေးမွန်တို့နှင့်ပူးပေါင်းမိသောအခါတွင် ရှေးမွန်စာကို သင်ကြားတတ်မြောက်ကြရုံသာမက ရှေးမွန်ဝေါဟာရအသစ်များကိုပင် တီထွင်ခဲ့ကြသည်ဟု ဆိုနိုင်ပါသည်။

ဤသို့ဖြင့် ရှေးမွန်ယဉ်ကျေးမှု အထွတ်အထိပ် ရောက်မှု၏အခြေခံပျိုးထောင်မှုကို မွန်တို့၏အဓိကဒေသဖြစ်သော သုဝဏ္ဏဘူမိနိုင်ငံတွင် မတွေ့ရဘဲ ကျောက်ဆည်နှင့်ပုဂံဒေသတွင် တွေ့ရခြင်းဖြစ်ပေသည်။ စိတ်ဝင်စားစွာ လေ့လာသင်ကြား ယူရုံသာမက ပိုမိုကြွယ်ဝ ထွန်းကားလာအောင် တီထွင်အားပေးချီးမြှောက်သုံးစွဲမှုကို ရှေးမြန်မာနှင့်ကျောက်ဆည်ရှေးမွန်တို့ ပူးပေါင်းဆောင်ရွက်ခဲ့သောကြောင့် ဖြစ်သည်။

ပုဂံခေတ်ဦးပိုင်းတွင် ထွန်းကားခဲ့သော အထက်တန်းကျလှသည့် ရှေးယဉ်ကျေးမှုတိုးတက်ရေး၏အစကို ဤသို့ဖြင့် ပျိုးထောင်ခဲ့ကြပေသည်။*

## ပိသုကာ၊ အနုပညာပျိုးထောင်မှု

ပုဂံသည် ကြီးကျယ်ခမ်းနားလှသည်။ အံ့ချီးဘွယ်တရပ်လည်းဖြစ်သည်။ အံ့ချီးဘွယ်ဖြစ်သော ပုဂံ၏ကြီးကျယ်ခမ်းနားမှုကို ယနေ့တိုင်တည်နေသော ပုဂံခေတ်အဆောက်အအုံ၊ စေတီပုထိုးစသည်တွင် တွေ့နိုင်သည်ဟု ဆို

*ရှေးမွန်ယဉ်ကျေးမှုသည် ကျန်စစ်သားမင်းကြီးလက်ထက်(အေဒီ ၁၀၈၄-၁၁၁၃)တွင် ပုဂံ၌ အထွတ်အထိပ် ရောက်ခဲ့သည်။

စမှတ်ပြုကြသည်။

ဤကြီးကျယ်ခမ်းနားလှသော အစဉ်အလာကြီးကို ပျိုးထောင်တည် ဆောက်ရာတွင် အလွန်အရေးပါစွာ ပါဝင်ကူညီခဲ့သူတို့မှာ ပျူများဖြစ်သည်။ ပျူတို့၏ပိသုကာပညာရပ်များကိုသာ မသုံးခဲ့လျှင် ပုဂံခေတ်အဆောက်အအုံ တို့သည် ယနေ့တိုင်တည်နေမည် မဟုတ်ချေ။

ပျူတို့တီထွင်ခဲ့သော သပ်စီခုံးနှင့်ပေါင်းခုံဖော်နည်း။ ပျူအဆောက် အအုံတို့၏ပန္နက်ပုံများ၊ အင်္ဂတေ၊ အင်္ဂတေပန်းဖော်ပုံတို့ကို အခြေပြုခဲ့သော ကြောင့် ပုဂံ၏ကြီးကျယ်ခမ်းနားသပ္ပါယ်လှသော အဆောက်အအုံကြီးငယ် များသည် ယနေ့တိုင် တည်နေခြင်းဖြစ်သည်။ ယဉ်ကျေးမှုပျိုးထောင်ရေးတွင် ပျူတို့ပါဝင်ကူညီခဲ့သော ဤအခန်းကဏ္ဍသည် သေးငယ်လှသည် မဟုတ်ချေ။

## ယုံကြည်မှု၊ အမြင်ဝါဒပျိုးထောင်မှု

အခြားအရေးကြီးသော ပျိုးထောင်မှုတရပ်မှာ တိုင်းရင်းသားတို့၏ ယုံကြည်ချက်၊ ခံယူချက်၊ အမြင်ဝါဒတို့၏အခြေခံကိုပေးသော ကိုးကွယ်ယုံ ကြည်မှုဆိုင်ရာ ပျိုးထောင်မှုဖြစ်သည်။

ရှေးမြန်မာတို့မှာကုန်းမြင့်တောင်ပေါ်သားများ ဖြစ်ခဲ့သည့်အလျောက် ကုန်းမြင့်တောင်ပေါ်ဘဝက ရှိခဲ့သော ရိုးရာအစဉ်အလာ ယုံကြည်ချက်တို့က သူတို့၏အမြင်ဝါဒကို အများဆုံး လွှမ်းမိုးခဲ့ပေသည်။ ကိုးကွယ်ယုံကြည်မှုနှင့် အမြင်ဝါဒတို့တွင် ပျူတို့သည် များစွာတိုးတက်ခဲ့သူများဖြစ်သည်။

ပြဟ္မဏအယူဝါဒ၊ ဗုဒ္ဓဝါဒတို့ကို အထက်တန်းကျစွာ လေ့လာတတ် သိခဲ့သူများဖြစ်၏။ အလားတူပင် ရှေးမွန်အများစုမှာ ဗုဒ္ဓဝါဒီများ ဖြစ်ကြသည်။

ယင်းကဲ့သို့သော ဝါဒများကို ရှေးမြန်မာတို့သည် တစတစနှင့်တတ် သိလာခဲ့ကြသည်။ ခံယူလာခဲ့ကြသည်။ မိမိတို့၏မူရင်းရိုးရာအစဉ်အလာဝါဒ ခံယူချက်တို့နှင့်အကျိုးရှိစွာ ပေါင်းစပ်ယူလာကြသည်။

ဤသို့ဖြင့် ယုံကြည်ချက်၊ ခံယူချက်နှင့်အမြင်ဝါဒတို့ ပေါင်းစပ်မိကြ ၍ ပျူ၊ ရှေးမွန်နှင့်ရှေးမြန်မာတို့သည် ယင်းယုံကြည်ခံယူချက်ကို ပျိုးထောင် ပေးနိုင်ခဲ့ကြပေသည်။

## အုပ်ချုပ်ရေး ပျိုးထောင်မှု

နိုင်ငံသစ်ပေါ်ထွန်းရေးတွင် စနစ်ကျ၍ တသမတ်တည်းရှိနိုင်သော လူနေမှုဖွဲ့စည်းပုံနှင့်ယင်းလူ့အဖွဲ့အစည်းအား စီမံခန့်အုပ်ချုပ်ပုံတို့ကိုလည်း ရှိရန်လိုအပ်သည်။ ပျူတို့သည် ပဒေသရာဇ်စနစ်အရဖြစ်သော လူ့အဖွဲ့အစည်းနှင့်ကာလကြာမြင့်စွာ နေလာခဲ့သူများဖြစ်၏။ ရှေးမွန်တို့တွင်လည်း အလားတူ အတွေ့အကြုံများ ရှိခဲ့သည်။

ယင်းစနစ်မှာ ဆိုခဲ့ပြီးသည့်အတိုင်း တိုင်းရင်းစနစ်ပေါ်တွင် အိန္ဒိယမှ ရောက်လာသော ပဒေသရာဇ်စနစ်လွှမ်းမိုးမှုဖြင့် ပေါ်ပေါက်လာခဲ့ရသော စနစ်ဖြစ်၏။ နန်စောတွင် နေခဲ့စဉ်ကတည်းက ရှေးမြန်မာတို့သည် စီမံအုပ်ချုပ်ရေးတွင် ကျွမ်းကျင်ခဲ့သူများဖြစ်၏။ သူတို့၏စနစ်မှာ ပဒေသရာဇ်စနစ်ပင်ဖြစ်သည်။ နန်စောတို့၏ပဒေသရာဇ်စနစ်သည် စစ်ဝါဒဆံပြီး ပိုမို၍ပြင်းထန်သည်။

သို့သော် ဒေသဆိုင်ရာ အုပ်စုအုပ်ချုပ်ရေးတွင်မူ ရှေးမြန်မာတို့သည် ပိုမိုရင်းနှီးမှုရှိသော လွတ်လပ်၍ ညှိနှိုင်းမှုရှိသော ပဒေသရာဇ်စနစ်မျိုးကို လက်တွေ့သုံးခဲ့ကြဟန် တူ၏။

ယခုမြေပြန့်သို့ ရောက်လာသောအခါ ဗုဒ္ဓဝါဒနှင့်ယဉ်ကျေးမှုအခြေခံရှိသော ရှေးဟောင်းမွန်၊ ပျူပဒေသရာဇ် အစဉ်အလာတို့နှင့်ပေါင်းစပ်မိ၍ ဒေသသစ်တိုင်းရင်းသားပေါင်းစုံနှင့်ကိုက်ညီ၍ ပိုမိုပြည့်စုံကြွယ်ဝသော ပဒေသရာဇ်စနစ်ပေါ်ပေါက်ရေးကို စတင်ပျိုးထောင်လာခဲ့ပေသည်။

## တိုင်းရင်းသားစည်းလုံးမှုနှင့်နိုင်ငံသစ် တည်ထောင်မှု

ရှေးမြန်မာတို့သည် ရှေးမွန်၊ ပျူတို့ထံမှ ယဉ်ကျေးမှုအချက်အလက်များကို ရယူခဲ့ခြင်း၊ နိုင်ငံသစ်တည်ထောင်မှု အခြေခံအတွက် လိုအပ်သော အရည်အသွေးများ ပျိုးထောင်ခဲ့ခြင်းကို ဖော်ပြခဲ့ပြီးဖြစ်ပါသည်။

နိုင်ငံသစ်တခု ပေါ်ပေါက်ရေးတွင် အခြေခံလိုအပ်သော စီးပွားရေး၊ လူမှုရေး၊ ယဉ်ကျေးမှု၊ ယုံကြည်မှုနှင့်အမြင်ဝါဒအုပ်ချုပ်ရေးစသည်တို့ကို ပျိုးခင်းများဖြစ်သော ခရိုင်ဒေသတို့အား အခြေပြု၍ စတင်ပျိုးထောင်လာခဲ့ခြင်း

ဖြစ်သည်။

တနည်းဆိုရသော် လူ့ဘောင်ဘဝသစ်တခု တည်ထောင်ပေါ်ပေါက်လာရေးတွင် အမှန်ရှိအပ်သည့်အခြေခံအရည်အသွေး လိုအပ်ချက်များကို ပျိုးထောင်လာခြင်းပင် ဖြစ်သည်။

## ကန်ကြီး ၃-ခုမှ ရေများ ပေါင်းစပ်မိခြင်း

ယင်းလိုအပ်ချက်များကို ရှိရင်း ပျူ ရှေးမွန်တို့နှင့်ကုန်းမြင့်မှဆင်းသက်ရွှေ့ပြောင်းလာသော ရှေးမြန်မာတို့က ပူးပေါင်းပါဝင် ထည့်သွင်းခဲ့ခြင်း ဖြစ်ပေသည်။

ရှေးမြန်မာတို့ ရောက်လာခဲ့၍ စီးပွားရေးကျောထောက်နောက်ခံနယ်များဖြစ်သော ကျောက်ဆည်နှင့်မင်းဘူးဒေသတို့ကို သိမ်းပိုက်ပြီးသည့်နောက် ပုဂံကို တည်ထောင်လိုက်ခြင်း ဖြစ်သည်။

ဤသည်မှာ ပုဂံ၌ တဖက်ဆည်ကန်ကြီးတခုကို တူးလိုက်သည်နှင့်တူ၏။ ယင်းတဖက်ဆည်ကန်ကြီးတွင် ရှေးမြန်မာတို့၏အစဉ်အလာယဉ်ကျေးမှုနှင့်အရည်အသွေးတည်းဟူသော ရေသည် ရှိနေပြီဖြစ်သည်။

ရှေးမြန်မာတို့နှင့်ရှေးမွန်တို့ တွေ့ဆုံရောနှောမိခြင်းသည် ထိုတဖက်ဆည်ကန်ကြီးအတွင်းသို့ ရှေးမွန်ယဉ်ကျေးမှု အရည်အသွေးတည်းဟူသော ရေတို့ စီးဝင်ခြင်းနှင့်တူသည်။

ထိုနည်းတူပင် ပျူတို့နှင့်ဆက်သွယ်ရောနှောမိခြင်းမှာလည်း အထက်တန်းကျလှသော ပျူတို့၏ယဉ်ကျေးမှုနှင့်အရည်သွေးတည်းဟူသော ရေတို့သည် ထိုတဖက်ဆည်ကန်ကြီးအတွင်းသို့ စီးဝင်ခြင်းနှင့်တူပေသည်။

ပျူယဉ်ကျေးမှုတည်းဟူသော ရေကန်မှ ရေများ၊ ရှေးမွန်တည်းဟူသော ရေကန်မှ ရေများ၊ ပုဂံတဖက်ဆည်ကန်အတွင်းသို့ မြောင်းနှစ်သွယ်ဖြင့် စီးဝင်ကာ တဖက်ဆည်ကန်ကြီးရှိ ရှေးမြန်မာတို့၏မူရင်းယဉ်ကျေးမှုတည်းဟူသောရေနှင့်ရောနှောမိခြင်းဖြစ်သည်။

သို့ရောနှောမိရာမှ ပိုမိုကောင်းမွန် ပိုမိုအရည်အသွေးစုံသည့်အမျိုးသားအရည်အသွေးသစ်များတည်းဟူသော ရေတို့သည် တဖြည်းဖြည်းတိုးလာခြင်းပင်ဖြစ်သည်။

ပုဂံတည်းဟူသော အဆိုပါတဖက်ဆည်ကန်ကြီးတွင် ယင်းရေသုံးမျိုးရောစပ်၍ တဖြည်းဖြည်း ပြည့်လာခြင်းမှာ အထက်တွင် ဆိုခဲ့သော လူ့ဘောင်ဘဝသစ်ကြီး တနည်းဆိုသော် နိုင်ငံသစ်တခုကို တဖြည်းဖြည်း တည်ဆောက်လာခြင်းနှင့်တူပေသည်။

## စုပေါင်းဆောင်မှ အောင်နိုင်မည်

ယဉ်ကျေးမှုအစဉ်အလာကောင်းရှိသော ပျူနှင့်ရှေးမွန်များ၊ အုပ်ချုပ်မှု၊ စီမံခန့်ခွဲမှု၊ ဦးစီးခေါင်းဆောင်ပြုမှု၊ သစ်လွင်တက်ကြွ၍ ရှင်သန်နေသောစိတ်ဓာတ်နှင့်အမျိုးသားစရိုက်ကောင်းမှုတို့ဖြင့် ပြည့်စုံသော ရှေးမြန်မာ၊ ဤတိုင်းရင်းသားမျိုး၏စု(၃)စု ပူးပေါင်းမိခြင်းဖြင့် အဆိုပါနိုင်ငံသစ်အဖို့ အုတ်မြစ်ကိုချမိခဲ့ခြင်းဖြစ်၏။

တည်ဆောက်ရေး စီမံကိန်းကိုလည်း ဆွဲမိပြီးဖြစ်ခဲ့သည်ဟု ဆိုရပေမည်။ ဤသို့အုတ်မြစ်ချခြင်း၊ တည်ဆောက်ခြင်းကို ရှေးမြန်မာတို့ချည်းဆိုလျှင် ဆောင်ရွက်နိုင်မည် မဟုတ်ချေ။

ရှေးမွန်တို့ သက်သက်ဆိုလျှင်လည်း ဆောင်ကျဉ်းနိုင်မည် မဟုတ်။ အလားတူပင် ပျူတို့ချည်းဆိုလျှင်လည်း ဆောင်ရွက်နိုင်မည် မဟုတ်ချေ။ ရှေးမွန်၊ ပျူ ရှေးမြန်မာသုံးဦးသားတို့က မိမိတို့အသီးအသီးတွင်ရှိသော အရည်အသွေးများကို ပါဝင်ထည့်သွင်းကာ တညီတညွတ်တည်း ပူးပေါင်းဆောင်ရွက်ကြ၍သာ ဖြစ်နိုင်ခြင်းနှင့်ဆောင်ရွက်နိုင်ခြင်း ဖြစ်၏။

## ရှေးဦး နိုင်ငံခြားဆက်သွယ်မှု

ဤတိုင်းရင်းသားစည်းလုံးမှုကြောင့် အေဒီ ၁၀-ရာစုနှစ်များအကုန်လောက်တွင် ပုဂံသည် ထင်ရှားလာခဲ့သည်။ ရှေးမြန်မာတို့၏ဆက်လက်ရွှေ့ပြောင်းမှုလည်း များလာခဲ့သည်။

ယင်းရွှေ့ပြောင်းမှုတို့ကို ပုဂံက ကြီးကြပ်အုပ်ထိန်းပေးခဲ့ရဟန်တူသည်။ ဆိုခဲ့ပြီးသည့်အတိုင်း အနောက်သို့ ရွှေ့ပြောင်းမှု၏တပ်ဦးတပ်ဖျားမှ တိုင်းရင်းသားတို့သည် ယခုရခိုင်တိုင်းမြောက်ပိုင်း လေးမြို့နှင့်ကုလားတန်မြစ်ဝှမ်းတို့

တွင် အခြေစိုက်မိသောအခါ အနောက်ဖက်ရှိ ပဋိက္ကရားနိုင်ငံနှင့်ပုဂံတို့သည် ကုန်းလမ်းအားဖြင့် ဆက်သွယ်မိခဲ့ကြဟန်တူ၏။

ဤသို့ဖြင့် ပဋိက္ကရားတွင် ထွန်းကားခဲ့သော မဟာယာနဗုဒ္ဓဝါဒ၊ သက္ကဋ္ဌစာပေနှင့်ယဉ်ကျေးမှုတို့ ပုဂံဘက်သို့ ပြန့်နှံ့လာခဲ့ခြင်းဖြစ်ပေမည်။

ဤကား ပုဂံသည် နိုင်ငံခြားတိုင်းပြည်တခုနှင့်ရှေးဦးလက်မွန် ဆက်သွယ်ခဲ့မိခြင်း ဖြစ်သည်ဟု ဆိုရပါမည်။ ပုဂံတွင် ပါဠိယဉ်ကျေးမှုထက် သက္ကဋ္ဌယဉ်ကျေးမှုက စော၍ ရောက်သည်ဟု ဆိုနိုင်သော အထောက်အထားတို့ကို အခြေပြု၍ ဤယူဆချက်ကို ပြုလုပ်ရခြင်း ဖြစ်ပါသည်။

## ခရီးမပေါက်နိုင်သေးသော တောင်အရပ်

ဧရာဝတီမြစ်ကြောင်းကိုလိုက်၍ တောင်ဘက်သို့လည်း ရှေးမြန်မာတို့ ရွှေ့ပြောင်းခဲ့ကြသည်သာဖြစ်၏။ သို့သော် သရေခေတ္တရာတဝိုက်တွင် ပျူတို့ ထုထည်နှင့်ရှိနေခဲ့ကြ၍ ယခုမိကျောင်းရဲနေရာလောက်မှ တောင်ဘက်သို့ လွန်၍ ရောက်ခဲ့ကြဟန် မတူကြချေ။

ယင်းသို့ပင် တောင်ဘက်သို့ ရွှေ့ပြောင်းနေထိုင်နိုင်ခဲ့ခြင်းမရှိခဲ့ကြသော်လည်း တောင်ဘက်ရှိ တိုင်းရင်းသားတို့နှင့်ကား အဆက်အသွယ် ရှိခဲ့မည်သာဖြစ်၏။ နောက်ရောက် ရှေးမြန်မာတို့ထက် ယဉ်ကျေးမှုဘက်နှင့်လူမှုရေးဘက်တွင် ပိုမိုတိုးတက်ခဲ့သောပျူတို့အပြင် စစ်တောင်းမြစ်ဝတဝိုက်ရှိ ရှေးမွန်တို့သည်လည်း ဤနောက်ရောက်လူတို့နှင့်စီးပွားရေး၊ လူမှုရေး၊ ဆက်သွယ်မှုများ၊ ကူးလူးဖလှယ်မှုများ ရှိခဲ့ကြမည်သာ ဖြစ်သည်။

## တန်လိုင်

တောင်ဘက်တွင် ရှေးမွန်တို့၏ဒေသ သုဝဏ္ဏဘူမိနိုင်ငံရှိနေ၍ ပင်လယ်သို့မပေါက်ရောက်နိုင်သေးချေ။ ပင်လယ်အထိ အစုအဝေးနှင့်ရွှေ့ပြောင်းနေထိုင်နိုင်ခဲ့ခြင်း မရှိသေးချေ။

သို့ဖြစ်သော်လည်း ဆိုခဲ့ပြီးသော ဆက်သွယ်မှုတို့ကြောင့် ရှေးမြန်မာတို့သည် သုဝဏ္ဏဘူမိဒေသအကြောင်းကို အထိုက်အလျောက် သိခဲ့ပြီဟုဆိုရ

ပါမည်။ မြန်မာနိုင်ငံတောင်ပိုင်း ပင်လယ်ကမ်းရိုးတန်းဒေသတို့တွင် ရှေးယခင်ကတည်းက အိန္ဒိယပြည်တောင်ပိုင်းမှလာရောက်နေထိုင်ကြသူများ၊ ကူးလူးဆက်ဆံနေခဲ့သူများ ရှိခဲ့ပြီးဖြစ်သည်။ အများစုတို့မှာ မဟာနဒီမြစ်နှင့်ဂိုဒါဝတီမြစ်နှစ်သွယ်စပ်ကြား အိန္ဒိယအရှေ့ဘက်ကမ်းရိုးတန်းဒေသတလျှောက်ရှိ ကလိင်္ဂနိုင်ငံမှ ကုန်သည်များ၊ ဘာသာရေးသမားများ၊ စွန့်စားသူများဖြစ်ခဲ့ကြသည်။

ထိုကလိင်္ဂနိုင်ငံသားတို့သည် မြန်မာနိုင်ငံတွင်သာမက မလေးကျွန်းဆွယ်၊ ယခုအင်ဒိုနီးရှား၊ ယိုးဒယားနိုင်ငံတောင်ပိုင်းတို့ကိုလည်း အနှံ့အပြားရောက်ခဲ့ကြသည်။

ထိုကလိင်္ဂတိုင်းရင်းသားတို့သည် ဤဒေသများ၌ နှစ်ရှည်လများ အဆက်အသွယ်များခဲ့ဟန် တူသည်။ သို့ဖြစ်၍ အိန္ဒိယနိုင်ငံအခြားဒေသမှ လာသောသူတို့ကိုလည်း အရှေ့တောင်အာရှနိုင်ငံသားတို့က ကလိင်္ဂနိုင်ငံသားများဟု ယူဆခေါ်ဝေါ်လာကြသည်။

ထိုဒေသတို့တွင် ကလိင်္ဂအမည်ကို နေရာဒေသလိုက်၍ အသံအမျိုးမျိုးကွဲကာ ခေါ်ဝေါ်ခဲ့ကြဟန် တူ၏။ ယင်းအမည်မှ ဆက်သော အသံကွဲအမည်တို့မှာ တလိုင်(တလိုင်)တ္လောင်၊ တ္လင်၊ တေလေင် စသည်တို့ဖြစ်သည်။

သို့ဖြစ်၍လည်း မလေးရှား၊ ယိုးဒယား၊ အင်ဒိုနီးရှားစသော အရှေ့တောင်အာရှနိုင်ငံများတွင် အိန္ဒိယသားတို့ကို အထက်ပါ ကလိင်္ဂမှ သက်သော အသံကွဲအမည်များနှင့်ခေါ်ဝေါ်နေကြခြင်းဖြစ်သည်။

## ကုလား

သို့သော် မြန်မာနိုင်ငံတွင်း၌ကား အိန္ဒိယနိုင်ငံသားတို့ကို ယင်းအသံမျိုးထွက်သော အမည်နှင့်မခေါ်ဘဲ ကုလားဟုခေါ်ကြသည်။ သို့သော် မွန်တို့ကို အလွန်ရှေးကျသော ကာလကပင် တန်လိုင်(နောင်သော် တလိုင်း)ခေါ်လာကြသည်။ *

---

* မူလက တန်လိုင်(တလိုင်)အမည်မှာ မနှစ်မြို့ဘွယ် အမည်မဟုတ်ခဲ့ချေ။ အရင်းရှင်နယ်ချဲ့ခေတ်သို့ရောက်သောအခါ တလိုင်ဟူသောအမည်သည် မသင့်ဟု တစုံတယောက်က အဓိပ္ပါယ်ဖွင့်ပေးခဲ့၏။ ယင်းဝေါဟာရကို ရှေးအခါ

ဤအခေါ်အဝေါ်များမှာ ထူးခြားနေသည်။ မလေးရှား၊ ယိုးဒယား မှာ ခေါ်ဝေါ်သုံးစွဲသော အခေါ်အဝေါ်တို့နှင့်မတူဘဲ အဘယ့်ကြောင့် ယင်း သို့သော ကွဲပြားမှုဖြစ်ရသနည်း။ ကျောက်ဆည်ဒေသတွင် မွန်တို့ကို တွေ့ခဲ့ ပြီးဖြစ်၏။

သုဝဏ္ဏဘူမိအကြောင်းကို ရှေးမြန်မာတို့ စတင်သိစဉ်က ထိုဒေသ တွင် အိန္ဒိယသားများနှင့်တိုင်းရင်းသားများရှိသည်ကို ခွဲခြားသိကြသော်လည်း တိုင်းရင်းသားတို့ကို တိုင်းရင်းသားတို့က နိုင်ငံခြားသားတို့ကိုခေါ်သောအမည် နှင့်လွဲမှား၍ နားလည်ခဲ့လေသလောဟု တွေးဘွယ်ရာရှိပါသည်။

နိုင်ငံခြားသားများကို ရှေးမြန်မာတို့က ကုလားဟူသည့်အမည်သည် ကုလပုတ္တအမျိုးကောင်းသား သို့မဟုတ် ကုလမြတ်သောအမျိုးဟူသော ပါဠိ ဝေါဟာရတို့မှ ဆင်းသက်သည်ဟု ယူဆရသည်။× ဤဝေါဟာရ သို့မဟုတ် အခေါ်အဝေါ်တို့ကို ဖော်ပြရခြင်းမှာ ထိုစဉ်က ရှေးမြန်မာတို့နှင့်ဆက်သွယ်ခဲ့ သော နိုင်ငံခြားသားတို့ကို ဖော်ပြရန်နှင့် ထိုသူတို့နှင့်စပ်လျဉ်း၍ ရှေးမြန်မာ တို့၏ဗဟုသုတကို ခန့်မှန်းနိုင်ရန် ဖြစ်ပါသည်။

## ပြည်တော်သာ

ဆိုခဲ့ပြီးသည်တို့ကို ထောက်၍ အေဒီ ၁၀-ရာစုနှစ်များလောက်က ရှေးမြန်မာတို့ အခြေစိုက်နေထိုင်၍ ပိုင်နိုင်စွာ ကြီးစိုးနိုင်ခဲ့သော ဒေသတို့မှာ ခရိုင်ဒေသများဖြစ်သော ကျောက်ဆည်၊ မင်းဘူးနှင့်တောင်ပြုန်းဒေသများ၊ ယင်း တို့ကို ဆက်စပ်ပေးထားသော ပုဂံဒေသနှင့်တောင်တွင်းကြီးဒေသတို့လောက် သာ ဖြစ်ပေသည်။

---

ကတည်းက သုံးစွဲလာခဲ့သော မြန်မာတို့နှင့်မွန်တို့ကို သွေးခွဲရန် ဤအခေါ် အဝေါ်ကိုပင် လက်နက်သဖွယ် သုံးလာခဲ့သည်ကို တွေ့ရသည်။ ပြည်သူတို့ သည် မနှစ်သက်သောအမည်ကို မသုံးကြဘဲ သွေးခွဲမှုကို ရှောင်နိုင်ခဲ့ကြသည်။

×ယခုခေတ်တွင် ကုလားဟူသောဝေါဟာရသည် မနှစ်မြို့ဘွယ်ဖြစ်သောအနက် သဘောကို ဆောင်သော်လည်း မူလက ဂုဏ်သိက္ခာရှိလှသော အမည်ဖြစ်ခဲ့ လေသည်။ ဝေါဟာရ၏အဓိပ္ပါယ်သည် အခြေအနေအလိုက် ပြောင်းခဲ့ခြင်း ဖြစ်သည်။

ကျောက်စာများတွင် တွေ့ရှိရသောထူးခြားသော အထောက်အထား ဝေါဟာရတခုမှာ ပြည်တော်သာ(ပလည်တဝ်သာ)ဖြစ်သည်။ ပြည်တော်သာ ဟုခေါ်သော ဒေသနှစ်ခုရှိသည်။ တခုမှာ ပုဂံ၏မြောက်ဖက် ယခုစစ်ကိုင်း ခရိုင် ရွှာသစ်ကြီး၏တစိတ်တဒေသ ဖြစ်သောဒေသ(ယနေ့တိုင် ထိုရပ်ကွက် ကို ပြည်တော်သာဟုခေါ်သည်။ ထိုဒေသတွင် ပုဂံခေတ်အဆောက်အအုံများ နှင့်ရှေးဟောင်းကျောက်စာများကို တွေ့ရသည်။)ဖြစ်၏။ အခြားဒေသတခုမှာ ယခုမိကျောင်းရဲတောင်ဘက် ဧရာဝတီမြစ်အတွင်းရှိ ကျွန်းတော်ဖြစ်သည်။

ကျွန်းတော်ကို ပြည်တော်သာကျွန်းဟုလည်း ခေါ်သည်။ ဤကျွန်း ငယ်ပေါ်တွင် ပုဂံခေတ် အဆောက်အအုံများ၊ ပုဂံခေတ်ကျောက်စာများကို ယနေ့တိုင် တွေ့နိုင်သည်။ ပြည်တော်သာတခုမှာ ပုဂံမြောက်ဖက်၊ တခုမှာ ပုဂံတောင်ဘက်တွင် ရှိသည်။ နှစ်ခုလုံးသည် ဧရာဝတီမြစ်ပေါ်တွင် တည်နေ သည်။ ဧရာဝတီမှာ အဓိကလမ်းမကြီးဖြစ်ရာ ပုဂံသို့သွားရာ ထိုလမ်းမကြီးကို မြောက်ဖက်နှင့်တောင်ဘက်၌ ပြည်တော်သာဟုခေါ်သော ဒေသတခုစီက ကင်းစောင့်နေသည့်သဖွယ် တည်နေသည်မှာ စိတ်ဝင်စားဘွယ်ဖြစ်သည်။

## တမ္ဗဒီပနိုင်ငံငယ်

ဤပြည်တော်သာတို့မှာ ပုဂံကို ဗဟိုပြုသော ရှေးမြန်မာတို့၏နိုင်ငံ တွင်းသို့ဝင်ရာ အဓိကဝင်ပေါက်များ ဖြစ်သည်။ တနည်းတွေးသော် ဤပြည် တော်သာ တံခါးပေါက်များ၊ သို့မဟုတ် စခန်းများကို ဖြတ်ကျော်မိလျှင် ပြည် တော်သာတည်းဟူသော ပုဂံနိုင်ငံငယ်အတွင်းသို့ ရောက်သည်ဟု ထင်မှတ် ဖွယ်ရာဖြစ်သည်။ ထိုပုဂံနိုင်ငံငယ်ကို ပုဂံခေတ်နောက်ပိုင်း ကျောက်စာတွင် တမ္ဗဒီပ(သံပြတိတ်)နိုင်ငံဟု တွေ့ရသည်။

ဤသည်တို့ကို ထောက်၍ ၁၀-ရာစု အေဒီနှစ်များအတွင်း ရှေးမြန် မာတို့သည် ကျောက်ဆည် ၁၁ခရိုင်နှင့်မင်းဘူး ၆ခရိုင်ဒေသများကို ကျော ထောက်နောက်ခံပြုသော ပုဂံကို ဗဟိုထား၍ တမ္ဗဒီပနိုင်ငံငယ်ကို ရှေးဦးလက် မွန် တည်ထောင်ခဲ့သည်ဟု ဆိုနိုင်ပါသည်။

ထိုနိုင်ငံအတွင်း ဒေသအလိုက် မိမိတို့အုပ်စုနှင့်မိမိတို့ ကိုယ့်မင်းကိုယ့် ချင်းနေကြသော လူ့အဖွဲ့အစည်းများလည်း ရှိခဲ့သည်။ ယင်းတို့ကို ပုဂံက

လျော့လျည်းစွာ စုစည်းထားခဲ့ဟန် တူသည်။ ကိုယ့်မင်းကိုယ့်ချင်းနှင့်နေခဲ့သော အုပ်စုတို့၏ခေါင်းဆောင်များမှာ မင်း×များဖြစ်သည်။ ဆိုခဲ့ပြီးသည့်အတိုင်း ထီလိုင်မင်းနှင့်တောင်တွင်းတို့မှာ ယင်းကဲ့သို့ ကိုယ့်မင်းကိုယ့်ချင်း လူ့အဖွဲ့အစည်းတို့၏ကျောက်စာလာ ခေါင်းဆောင်များ၊ အကြီးအကဲများ ဖြစ်ခဲ့ပေသည်။

## အနော်ရထာမတိုင်မီ အုပ်စိုးခဲ့သော မင်းများ

ရာဇဝင်ကျမ်းများက အနော်ရထာမတိုင်မီ ပုဂံတွင် အုပ်စိုးသွားသော မင်းအများပင် ရှိကြောင်းဆိုသည်။ ယင်းမင်းတို့အကြောင်းကို လေ့လာကြည့်လျှင် ပျူစောထီး၊ ထီးမင်းယဉ်စသောမင်းတို့မှာ နန်စောနှင့်မရှုတို့၏ဒန္တာရီလာ မင်းတို့နှင့်တူနေသည်ကို တွေ့ရသည်။

အချို့မင်းတို့အကြောင်းကို ဖော်ပြရာတွင် အထူးအထွေမရှိ၊ အမည်နှင့်နန်းစံနှစ် စသည်တို့လောက်သာဆို၏။ အချို့မင်းတို့၏အမည်တို့သည် ထွန်တိုက်၊ ထွန်ပစ်၊ ထွန်ချစ် စသည်ဖြင့် ထွန်နှင့်စ၍ အချို့မှာ ခန်းလောင်း၊ ခန်းသတ် စသည်ဖြင့် ခန်းနှင့်စသည်။ သဘာဝကျသော အမည်များ မဟုတ်ဟု ဆိုရပါမည်။

သို့သော် ရာဇဝင်ကျမ်း၌လည်းလာ၍ ခိုင်လုံသော ကျောက်စာနှင့် မှင်စာတို့တွင်လည်း ဖော်ပြပါရှိသော မင်းနှစ်ပါးကို တွေ့ရသည်။ ယင်းတို့မှာ စောရဟန်းနှင့်ကျောင်းဖြူမင်းများ ဖြစ်ကြသည်။

## စောရဟန်းမင်း

ဤမင်းမှာ ရာဇဝင်ကျမ်းများတွင် လာသော ညောင်ဦးစောရဟန်း မင်းဖြစ်တန်ရာသည်။ တုရင်(တူရွင်း)တောင်ပေါ်ရှိ စောရဟန်းသိမ်ကျောက်စာအရသော် ဤမင်းသည် သိမ်တခုကို တုရင်တောင်ပေါ်တွင် တည်ခဲ့သော မင်းဖြစ်ကြောင်း သိရသည်။ သိမ်တည်သောမင်းသည် ထေရဝါဒဗုဒ္ဓသာသနာ

---

×မင်းမှာ အိုမင်းသည်ဆိုသော ခေတ်ဝေါဟာရတွင်ပါသည့် မင်းကဲ့သို့ပင် ကြီးသည်။ သို့မဟုတ် အကြီးအကဲဟု မူလကအဓိပ္ပါယ်ရသည်။ နောက်ခေတ်များတွင် ဘုရင် သို့မဟုတ် ရှင်ဘုရင်ဟူသော ဝေါဟာရက ပို၍ တွင်လာခဲ့သည်။

ကို သက်ဝင်ယုံကြည်သောမင်းဖြစ်သည်ဟု သာမန်အားဖြင့် ယူဆနိုင်သည်။ ဗုဒ္ဓသာသနာတွင် သိမ်တည်ဆောက်လာသည်ဆိုကတည်းက သမုတိသဃ်ာ တော်များရှိနေပြီဟု စိတ်ချစွာ ယုံကြည်နိုင်သည်။

ရာဇဝင်ကျမ်းများတွင် ဤမင်းကို တောင်သူကြီးမင်းဟုလည်းခေါ် သည်။ ဤမင်းသည် နဂါးရုပ်လုပ်၍ ကိုးကွယ်သည်။ အယူမှားသော ရှင်အ ရည်းတို့ကိုလည်း ကိုးကွယ်သည်။ ရှင်အရည်းတို့နှင့်တိုင်ပင်၍ ပုထိုး ၅-လုံး တည်သည်။

ပုထိုးတို့တွင် နတ်ရုပ်လည်း မမည်၊ ဘုရားရုပ်လည်း မမည် လုပ်၍ ည နံနက် ထမင်း ဟင်း၊ သေစာတင်၍ ကိုးကွယ်သည်။ ဘုရားရှင် ပရိယတ္တိ သာသနာတော် မရောက် မတည်ချေ။ သမထီးအရည်းတို့ အယူကိုသာ တ ပြည်လုံးယူကုန်ကြသည်ဟု ရာဇဝင်ကျမ်းတို့က ဆိုသည်။

ဤမင်းတည်သည်ဆိုသော ပုထိုး ၅-လုံးတွင် အပါအဝင်ဖြစ်သည့် ပုထိုးသားသည် ယနေ့ပုဂံမြို့အတွင်း တောင်ဘက်မြို့ရိုးအနီးရှိ ပုထိုးသားများ သာဖြစ်လျှင် ရာဇဝင်ကျမ်းတို့၌ဆိုသည့်အတိုင်း မဟုတ်သည်ကိုတွေ့ရမည်။

အလွန်ပီသသော မြတ်စွာဘုရား၏ရုပ်ပွားတော်များ၊ ပန်းချီကားချပ် များ၊ ဝိနည်းပိဋကတ်အကြောင်း ရှေးမွန်ဘာသာနှင့်ရေးထားသော စာများ ဖြစ်သည်။ အရည်းကြီးဘုရား မဟုတ်နိုင်ချေ။ ဆင်ခြင်နိုင်ကြရန်ဖြစ်သည်။

## ကျောင်းဖြူမင်း

ကျောင်းဖြူမင်းမှာ ရာဇဝင်ကျမ်းများတွင်လာသော ကြောင်းဖြူမင်း ဖြစ်တန်ရာသည်။ ကွမ်းဆော်ကြောင်းဖြူမင်းဟုလည်းခေါ်သည်။

မယ်တော်သည် ကြောင်းဖြူအရပ်၌ နေရစဉ် ဖွားမြင်သောကြောင့် ဤအမည်ကိုရသည်ဆို၏။ ဤမင်းသည် စောရဟန်းကို ဆက်ခံသောမင်းဖြစ် သည်ဟု ရာဇဝင်ကျမ်းတို့တွင် တွေ့ရသည်။

ဤမင်းသည် သရဏဂုံပဉ္စသီကို နေ့တိုင်းဆောက်တည်၍ အနုဿတိ ၁၀-ပါးကို တနေ့နှစ်ထောင်ရအောင် စီးဖြန်းသည်။ သစ္စာစကားကိုလည်း မှန် အောင်သုံးသည်ဆို၏။

ဤအကျင့်တို့မှာ ထေရဝါဒဂိုဏ်း ဗုဒ္ဓဝါဒအရ ကျင့်ရသောအကျင့်

များဖြစ်သည်။ အထက်တွင် ဆိုခဲ့သည့်တပြည်လုံး အရည်းတို့အယူကို ယူသည့် ကာလကပင်ဖြစ်၍ ရာဇဝင်တို့၏ရှေ့စကားနှင့်နောက်စကားကို ဆင်ခြင်ရန် ဖြစ်သည်။

ညောင်ဦးစောရဟန်းမင်းသည် မင်းသမီး ညီအမတော်သုံးပါးကို မိဖုရားမြှောက်၍ အကြီးကို တောင်ပြင်သည်၊ အလတ်ကို အလယ်ပြင်သည်ဟု တွင်၏။

အငယ်ကို မြောက်ပြင်သည်ဟုတွင်၏။ ထိုသုံးပါးတွင် အကြီးတောင် ပြင်သည်တွင် ကျည်းဆိုးကို ပဋိသန္ဓေ ၉-လ၊ အလယ်ပြင်သည်တွင် စုက္ကတေး ကို ပဋိသန္ဓေ ၆-လရှိသောအခါ ညောင်ဦးစောရဟန်း အနိစ္စရောက်တော်မူ၏။

ကွမ်းဆော်မင်းဖြစ်တော်မူလျှင် ထိုမိဖုရားသုံးပါးတို့ကို မိဖုရားမြှောက် တော်မူ၏။ များမကြာမီလျှင် မိဖုရားမြောက်ပြင်သည်(အငယ်)တွင် အနော် ရထာမင်းစောကို ဖွား၏။ အနော်ရထာမင်းစောကို ကြောင်းဖြူမင်း၏သား၊ ကျည်းဆိုးနှင့်စုက္ကတေးကို ညောင်ဦးစောရဟန်းမင်း၏သားများဟု ခွဲခွဲခြားခြား ဆိုသည်။ အနော်ရထာမင်းစော၏မျိုးရိုးကို ရာဇဝင်တွင်လာသည့်အတိုင်း သိသာနိုင်ရန် ဖော်ပြလိုက်ရခြင်း ဖြစ်သည်။

သက္ကရာဇ် ၆၇၅-ခုရေးမြင်းကပါ တူပြောက်ငယ်မင်းစာကျွောင်ဖလူ (ကျောင်းဖြူ)မင်းအကြောင်းကို တွေ့ရသည်။ အရစ်နှင့်မရေးဘဲ လဆွဲရရစ် နှင့်ရေးသည်။

ဖြူသောကျောင်းဟု အဓိပ္ပါယ်ရသည်။ ဤမင်းစာမှာ ထိုကူပြောက် ငယ်အနီး ထိုမင်းတည်လုပ်ခဲ့သော ရုပ်တော်မူရုပ်ပွားတော်ကြီး ပျက်စီးသည် ကို မိဖုရားစောက ပြင်ဆင်ခိုင်း၍ ပြင်ဆင်ရကြောင်း မှတ်တမ်းတင်ထားသော မင်းစာ ဖြစ်သည်။

ရာဇဝင်တို့တွင်. . .

ကျည်းဆိုးနှင့်စုက္ကတေးအရွယ်သို့ ရောက်လျှင် ‘ကျောင်း’သာယာစွာ ပြု၍ ကွမ်းဆော်မင်းကို သာခုခေါ်တော်မူပါဟု လျှောက်လေ၏။

ကွမ်းဆော်မင်းလည်း မစူးမစမ်း မဆင်မခြင် ယုံကြည်တော်မူ၍ လိုက် တော်မူလေ၏။ ကျည်းဆိုးနှင့်စုက္ကတေးလည်း မင်းကြီးကို ဖမ်းပြီးသော် ခြိမ်း ချောက်၍ရဟန်းပြုစေ၏။

အနော်ရထာမင်းစောသည် စုက္ကတေးမင်းကို မြင်းစီးချင်းတိုက်ပွဲတွင်

အနိုင်ရပြီးနောက်. . .

ခမည်းတော်ကျောင်းသို့ သွား၍ မင်းပြုတော်မူပါဟု တောင်းပန်တော်မူ၏။ ခမည်းတော်လည်း ငါ အသက်အရွယ်ကြီးပြီ၊ အမောင်သာ မင်းပြုတော့ဟု မိန့်တော်မူ၏။ အနော်ရထာမင်းစောနန်းတက်၍ ခမည်းတော်ကိုလည်း ရဟန်းမင်းပြု(စေ)လေ၏။ ထိုမင်းကား မိဖုရား မောင်းမမိဿံတို့နှင့်ထိုကျောင်းတွင် ရဟန်းမင်းအဖြစ် စံတော်မူ၏။

ဟုလည်းဆိုထားရာ ဤမင်းမှာ အဖြူရောင်ခြယ်ထားသော ကျောင်းတွင် စံသောမင်းဟု ဆိုဘွယ်ရာရှိသည်။ ကြောင်းဖြူအရပ်ကို အစွဲပြု၍ ခေါ်သည်ဟူသော ရာဇဝင်လာ အချက်ကို ဆင်ခြင်နိုင်ရန် ဆိုရခြင်းဖြစ်ပါသည်။

ဤသို့ မင်းနှစ်ပါးကိစ္စနှင့်စပ်လျဉ်း၍ ဆင်ခြင်နိုင်ရန် အသေးစိတ်အချက်အလက်များကို ဖော်ပြခြင်းမှာ လေ့လာနေသော သမိုင်းစဉ်အတွက် အရေးကြီးလှ၍ကား မဟုတ်ပါ။

သို့သော် ယင်းသို့ ရှင်းလင်းဖော်ပြခြင်းအားဖြင့် မြေရှင်ပဒေသရာဇ် ထိုတခေတ်က ပြည်သူလူထု၏အခြေအနေကို လေ့လာရာတွင် အထောက်အကူကား ရနိုင်ပါသည်။ ဤအထောက်အကူကိုယူ၍ အနော်ရထာမင်းနန်းမတက်မီကာလ မြန်မာနိုင်ငံ အလယ်ပိုင်းအခြေအနေကို ဤသို့ သိမှတ်နိုင်သည်။

## အနော်ရထာအရင်က မြန်မာမင်းများ

အနော်ရထာနန်းမတက်မီ ပုဂံတွင် အုပ်စိုးသွားသော မင်းတို့အနက် ခိုင်ခိုင်လုံလုံသိရသော မင်းနှစ်ပါးရှိခဲ့သည်။ ထိုမင်းတို့မှာ စောရဟန်းမင်းနှင့် ကျောင်းဖြူမင်းတို့ ဖြစ်သည်။

မင်းနှစ်ပါးလုံး၏ဘွဲ့မည်တို့မှာ ဗုဒ္ဓသာသနာနှင့်ဆက်စပ်နေသည်။ တပါးမှာ ဗုဒ္ဓသာသနာကျင့်သုံးမှုဆိုင်ရာ အဖွဲ့အစည်း၌ မရှိလျှင်မဖြစ်သော ရဟန်းတော်များ ကံဆောင်ရာ 'သိမ်'နှင့်ဆက်စပ်နေသည်။

အခြားတပါးမှာ ရဟန်းတော်များ သီတင်းသုံးရာကျောင်းနှင့်ဆက်စပ်နေသည်။ မြတ်စွာဘုရား၏ရုပ်တော်မူရုပ်ပွားတော်ကို တည်လုပ်ကိုးကွယ်သူလည်း ဖြစ်သည်။

သို့ဖြစ်၍ ထေရဝါဒဗုဒ္ဓသာသနာတော်၏အခြေခံ အချက်အလက်များ ရောက်ရှိခဲ့ပြီး ဖြစ်ကြောင်းကို အခိုင်အလုံဆိုနိုင်သည်။ မြန်မာနိုင်ငံထေရဝါဒဗုဒ္ဓသာသနာတော်ကို ပျူနှင့်ရှေးမွန်တို့ ယုံကြည်လိုက်နာကျင့်သုံးလာခဲ့သည်မှာ ရှေးပဝေဏီကဖြစ်သည်။

ထိုပျူ ရှေးမွန်တို့နှင့်ရှေးမြန်မာတို့ တွေ့ဆုံရောနှောမိခဲ့သည်မှာလည်း ကြာပြီဖြစ်၍ အနော်ရထာအရင်က မြန်မာနိုင်ငံအလယ်ပိုင်းတွင် ထေရဝါဒဗုဒ္ဓသာသနာကို သိကြပြီးဖြစ်သည်ကို သံသယဖြစ်ရန်မလိုဟု ထင်သည်။

အနော်ရထာနန်းတက်နှစ်ကို အေဒီ ၁၀၄၄(၁၁-ရာစုအလယ်ခန့်)ဟု သာမန်အားဖြင့် ပညာရှင်များက ခန့်မှန်းထားကြသည်။

ရာဇဝင်ကျမ်းများတွင် ပေးထားသော ခုနှစ်တို့ကို အခြေပြု၍ တွက်ချက်ယူသော် ညောင်ဦးစောရဟန်းမင်းသည် ၁၀-ရာစုနှစ်များ အလယ်ခန့်က အုပ်စိုးခဲ့သည်ဟု သိရသည်။

## ပဒေသရာဇ် လူ့အဖွဲ့အစည်း

မည်သို့ပင်ဖြစ်စေ အေဒီ ၉-ရာစုနှစ်များ၏အလယ်လောက်(၈၅၀ အေဒီခန့်)တွင် ပျဉ်ပြားမင်း ပုဂံမြို့ကို စတင်တည်ခဲ့သည်ဟူသော အချက်ကို သာမန်အားဖြင့် ယုတ္တိတန်သည်ဟု ယူဆရကြောင်း ဆိုခဲ့ပြီးဖြစ်ပါသည်။

အေဒီ ၁၀-ရာစုနှစ်များ၏အလယ်လောက်(၉၆၀-အေဒီခန့်)တွင် စောရဟန်းအုပ်စိုးခဲ့သည်။ သို့ဖြစ်၍ အေဒီ ၉-ရာစုနှစ်များအလယ်လောက်မှ အစပြုကာ မြန်မာနိုင်ငံအလယ်ပိုင်းတွင် ပဒေသရာဇ်စနစ်ရှိနေပြီဟု ခန့်မှန်း၍ ၁၀-ရာစုနှစ်များအလယ်လောက်တွင် တမ္ဗဒီပနိုင်ငံငယ်တည်းဟူသော ပဒေသရာဇ်နိုင်ငံငယ် ရှိနေပြီးဖြစ်သည်ဟု ဆိုနိုင်သည်။ ထိုနိုင်ငံငယ်၏နိုင်ငံသားတို့မှာ ပျူ ရှေးမွန်၊ ရှေးမြန်မာတို့၏ယဉ်ကျေးမှုအစဉ်အလာတို့ကို စုပေါင်းအပ်သော စီးပွားရေး၊ လူမှုရေးတို့ကို အခြေခံသည့်ပဒေသရာဇ်လူနေမှုစနစ်အရ လူ့ဘောင်သစ်ကို ဖွဲ့စည်းနေထိုင်လျက် ရှိကြပြီး ဖြစ်သည်။

## တိုင်းရင်းသားစည်းရုံးမှုနှင့်ပထမမြန်မာနိုင်ငံ

လာလတ္တံ့သော အေဒီ ၁၁-ရာစုနှစ်များအတွင်း ဤနိုင်ငံငယ်တွင် နေထိုင်ကြကုန်သော ရှေးမြန်မာ၊ ပျူ ရှေးမွန် အစရှိသည့်တိုင်းရင်းသားတို့ စုပေါင်းကြိုးပမ်းဆောင်ရွက်မှုတွင် အနော်ရထာမင်းကဲ့သို့သော ခေါင်းဆောင်ကောင်း၏ဦးစီးဦးဆောင်မှုဖြင့် မြန်မာနိုင်ငံ အခြားဒေသများရှိ တိုင်းရင်းသားတို့ကိုပါ သိမ်းသွင်းစည်းရုံးနိုင်ခဲ့သည်။ ပိုမိုကျယ်ပြန့်သော ပဒေသရာဇ်ခေတ်လူ့အဖွဲ့အစည်းကြီးကိုလည်း တည်ဆောက်နိုင်ခဲ့ပေသည်။

ယင်းလူ့အဖွဲ့အစည်းကြီးကို ပထမမြန်မာနိုင်ငံဟုလည်းကောင်း၊ ပုဂံခေတ်မြန်မာနိုင်ငံဟုလည်းကောင်း ခေတ်သမိုင်းပညာရှင်တို့က ခေါ်ကြသည်။

ဤပထမမြန်မာနိုင်ငံနှင့်အံ့ချီးဘွယ်ရာ ကြီးကျယ်ခန်းနားလှသော ပုဂံခေတ်ယဉ်ကျေးမှုနှင့်အစဉ်အလာကောင်းများကို ထိုခေတ် တိုင်းရင်းသားတို့၏စည်းလုံးညီညွတ်မှုပေါ်တွင် အခြေတည်၍သာ တည်ဆောက်နိုင်ခဲ့ခြင်းဖြစ်ပေသတည်း။

× × × × × × × × × × ×

မှတ်ချက်။ ။ဤစာအုပ်ကို မူရင်းအတိုင်းသာလျှင် ပြင်ဆင်ခြင်းမရှိဘဲ ပြန်လည်ရိုက်နှိပ်ထားပါသည်။ (၂၁-၈-၂၀၁၀နေ့တွင် ပြီး၏။)